# မေတ္တာနှင့်သစ္စာအဖွင့်

# ဒေါက်တာမင်းတင်မွန်

စတုတ္ထအကြိမ်

မေတ္တာစွမ်းအားဖြင့် ကမ္ဘာလောကကို ငြိမ်းချမ်းသာယာစေမည်။
သစ္စာစွမ်းအားဖြင့် ဆင်းရဲဒုက္ခဟူသမျှကို ငြိမ်းအေးစေမည်။

လောကကို စိုပြည်လှပစေသည်မှာ...မေတ္တာ။
လူသားတို့အား တရားမျှတမှုကိုပေးစွမ်းနိုင်သည်မှာ... သစ္စာ။

# မေတ္တာနှင့်သစ္စာ

အဖွင့်

(စတုတ္ထအကြိမ်)

## ဒေါက်တာမင်းတင်မွန်

မေတ္တာဖြင့် တစ်လောကလုံးကို အလှဖုံးစေမည်။
သစ္စာဖြင့် တရားမျှတ၍ စည်ပင်ဝပြောသော လူ့ဘောင်ကို
တည်ဆောက်မည်။



မြမွန်ရတနာ စာပေဖြန့်ချိရေး
တိုက် ၁၅၊ အခန်း ၁၉၊ ဦးဝိစာရအိမ်ရာ
ဒဂုံမြို့နယ်၊ ရန်ကုန်။
ဖုန်း ၀၁-၃၈၅၂၆၁၊ ၀၉၈၀-၂၂၅၁၆

စာမူခွင့်ပြုချက်အမှတ် (၁၀၈/ ၂၀၀၁) (၂)
မျက်နှာဖုံးခွင့်ပြုချက်အမှတ် (၂၁၉/ ၂၀၀၁) (၄)

●

**ပုံနှိပ်ခြင်း**

၂၀၀၁ ခုနှစ်၊ မေလ၊ စတုတ္ထအကြိမ်၊ အုပ်ရေ – ၅၀၀

●

**ထုတ်ဝေသူ**

ဒေါ်ရင်မြ၊ မြမွန်ရတနာစာပေ (၀၅၈၄)
တိုက် ၁၅၊ အခန်း ၁၉၊ ဦးဝိစာရအိမ်ရာ
ဒဂုံမြို့နယ်၊ ရန်ကုန်။

●

**အတွင်းစာသားနှင့် မျက်နှာဖုံး ပုံနှိပ်သူ**

ဦးတင်မောင်ဝင်း၊ သင်းလဲ့ဝင်းပုံနှိပ်တိုက် (၀၅၉၄၆)
အမှတ် (၁) ဗိုလ်ရာညွန့်လမ်း၊ ယောမင်းကြီးရပ်ကွက်
ဒဂုံမြို့နယ်၊ ရန်ကုန်။

●

**ကွန်ပျူတာစာစီ**

ခွန်မျိုး

●

**ဖြန့်ချိရေး**



**မြမွန်ရတနာစာပေ**

တိုက် ၁၅၊ အခန်း ၁၉၊ ဦးဝိစာရအိမ်ရာ
ဒဂုံမြို့နယ်၊ ရန်ကုန်။ ဖုန်း ၀၁–၃၈၅၂၆၁၊ ၀၉၈၀–၂၂၅၁၆

●

တန်ဖိုး –၈၀၀ ကျပ်

## အမှာစာ

ယနေ့ကမ္ဘာကြီးတွင် မေတ္တာတရားနှင့် သစ္စာတရားတို့ ခေါင်းပါးနေကြ၏။

မေတ္တာတရားခေါင်းပါးသည့်အတွက်ကြောင့် ကမ္ဘာလောကကြီးသည် အကျည်းတန်နေပေ၏။ မေတ္တာသည် ကမ္ဘာကိုအလှဆုံး ခြယ်သနိုင်သော တရား...၊ လူတစ်ဦးစီ၏ဘဝကို အစိုပြည်ဆုံး ဖန်တီး ပေးနိုင်သောတရား...၊ လူသားအပေါင်းတို့အား အချင်းချင်း ခင်မင်ချစ်ကြည် စည်းလုံးစေသောတရား...။

မေတ္တာတရား ခေါင်းပါးလေသောအခါ လူလူချင်း မယုံကြည်နိုင်တော့၊ ချစ်ကြည်စွာ မပေါင်းသင်းနိုင်တော့၊ တစ်ဦး၏အမှားကို တစ်ဦးကခွင့်မလွှတ်နိုင်တော့။ 'မေတ္တာခြံမှလုံသည်' ဟူသည့် စကားအတိုင်း မေတ္တာမထုံသောအခါ မိမိ၏လုံခြုံရေးကိုလည်း စိတ်မချနိုင်တော့။

မယုံကြည်နိုင်, စိတ်မချနိုင်သည့်အတွက် လက်ဦးမခံရရန် တစ်ဦး၏နိုင်ငံကိုကျန်တစ်ဦးက အဏုမြူထိပ်ဖူးများ တပ်ဆင်ထားကြသည့် တိုက်ချင်းပစ်ဒုံးပျံများဖြင့် ချိန်ရွယ်ထားကြ၏။ ကမ္ဘာကြီးသည် အဏုမြူစစ်ပွဲကြီးသို့ပင် ဦးတည်နေချေပြီ။

သစ္စာတရားခေါင်းပါးသည့်အတွက်ကြောင့်လည်း လူလူချင်း လိမ်ညာလှည့်စားနေကြ၏၊ မတရားမှုများကို ကျူးလွန်ဝံ့ကြ၏၊

ကတိသစ္စာများကို ချိုးဖောက်ဝံ့ကြ၏၊ ကံ–ကံ၏ အကျိုးတရားကို မျက်ကွယ်ပြုကြ၏၊ ကိုယ်ကျင့်တရားများပျက်ပြားလာကြ၏၊ တာဝန်ဝတ္တရားများ လစ်ဟင်းလာကြ၏။

သစ္စာကို မစောင့်ထိန်းကြလျှင် ရာသီဥတုဖောက်ပြန်၍ ရေဘေး၊ လေဘေး၊ မီးဘေး၊ ငတ်မွတ်ခေါင်းပါးသည့်ဘေး၊ ရောဂါဘေး၊ လက်နက်ဘေးတို့ ကျရောက်လာကြတတ်၏။

မေတ္တာနှင့် သစ္စာတရားတို့ကို မျက်ကွယ်ပြုသောသူအား သဘာဝတရား, ကံတရားတို့က လျစ်လျူရှုထားမည်မဟုတ်။ သက်သာခွင့်လည်း ပေးမည်မဟုတ်။ ဖြစ်ရိုးဖြစ်စဉ် သဘာဝအတိုင်း ထိုက်တန်သည့်အပါယ်ဘုံသို့ တွန်းပို့လိုက်မည်သာဖြစ်၏။

သို့အတွက် ယနေ့လူငယ်လူရွယ်များသည် မေတ္တာတရားနှင့် သစ္စာတရားတို့ကို သိထားရန်လို၏၊ ချစ်မြတ်နိုးတတ်ရန် လို၏၊ လက်တွေ့အသုံးချတတ်ရန် လို၏။

မေတ္တာတရားနှင့် သစ္စာတရားတို့သည် လူတစ်ဦးစီ၏ဘဝကို အတိုင်းမသိ လှပပြည့်စုံလာစေမည်ဖြစ်၏၊ ဘေးရန်ကွာ၍ အေးချမ်းသာယာလာစေမည်ဖြစ်၏၊ တန်ဖိုးမဖြတ်နိုင်အောင် အဖိုးတန်မြင့်မြတ်လာစေမည်ဖြစ်၏။

ထိုအလှဆုံးမေတ္တာတရားနှင့် အမြတ်ဆုံးသစ္စာတရားတို့ကို လူငယ်လူရွယ်များ အလွယ်တကူ လက်လှမ်းဆွတ်ချူ၍ ရင်ဝယ်ပိုက်ထွေးယုယနိုင်ကြရန် ရည်သန်လျက် ဤစာအုပ်ကိုပြုစုရေးသားခြင်း ဖြစ်ပေသတည်း။

လူငယ်လူရွယ်တို့၏ နှလုံးသားတိုင်းဝယ် မေတ္တာနှင့် သစ္စာတရားတို့ ရှင်သန်ဖူးပွင့်နိုင်ကြပါစေသော်။

# မာတိကာ

## မာတိကာ

## သစ္စာအဖွင့်

# နိဒါန်း

**မေတ္တာ…မေတ္တာသည် အလှဆုံးတရား။**

လူ တစ် ဦး စီ ကို လည်း ကောင်း၊ လူ မျိုး တစ် မျိုး စီ ကို လည်း ကောင်း၊ နိုင်ငံတစ်နိုင်ငံစီကိုလည်းကောင်း အလှဆုံးလှပစေသော တရားမှာ မေတ္တာပင် ဖြစ်၏။

လူသည် အလှကိုမြတ်နိုး၏၊ အလှကိုရှာဖွေ၏။ အလှတရားသည် နှလုံးသားကို အမြဲတစေရွှင်လန်းချမ်းမြေ့စေသည် မဟုတ်ပါလော။

A thing of beauty is a joy for ever.

ထိုအလှတရားသည် အဘယ်မှာ တည်ရှိသနည်း။ အချိုးကျသော, ပြေပြစ်ချောမောသော, အရောင်အဆင်း ဆန်းကြယ်သော, အနံ့အရသာနှင့်ပြည့်စုံသော, အထိအတွေ့ နူးညံ့သိမ်မွေ့သော ရုပ်ဝတ္ထုများတွင် တည်ရှိပါသလား။

ရုပ်အလှနှင့် စိတ်အလှနှစ်မျိုးတွင် မည်သူက ပိုလှသနည်း။

**"ရုပ်ကိုသာပြင်၊ နာမ်မပြင်၊ ရုပ်သွင်မလှ၊ နာမ်မလှ။**
**နာမ်ကိုသာပြင်၊ ရုပ်မပြင်၊ နာမ်စဉ်လည်းလှ၊ ရုပ်လည်းလှ။"**

လူတစ်ဦးစီ၏ အလှတွင် ရုပ်အလှထက် နာမ်အလှက ပို၍ အရေးပါသည်ကို လူတိုင်းသတိပြုမိကြ၏။ ရုပ်လှသော်လည်း စိတ်ထားယုတ်ညံ့သူကို လူတို့ရှောင်ကြဉ်ကြ၏။ ရုပ်မလှသော်လည်း စိတ်ထားဖြူစင်မြင့်မြတ်သူကို လူတိုင်းက ချစ်ခင်ကြ၏။

စိတ်ထားယုတ်ညံ့အောင် အကျည်းတန်အောင် မည်သူက ခြယ်လှယ်နေသနည်း။ လောဘ, ဒေါသနှင့် မောဟတို့က ဦးဆောင်၍ ခြယ်လှယ်နေကြပါသည်။

လောဘ, ဒေါသနှင့် မောဟတို့ကား အကုသိုလ်တရားတို့၏ အရင်းအမြစ်များ ဖြစ်ကြ၏။ မောဟသည် အမှန်တရား (သစ္စာ) ကို မသိအောင် ဖုံးကွယ်တတ်သည့်သဘောဖြစ်၍ လူတစ်ဦးစီကို မျက်မှန်စိမ်းတပ်ပေးကာ မမြဲ,ဆင်းရဲ,အကျည်းတန်သောရုပ်တရား နာမ်တရားများကို မြဲသည်, ချမ်းသာသည်, တင့်တယ်သည်ဟု ထင်မှတ်စေ၏။

လောဘသည် ထိုမြဲသည်,ချမ်းသာသည်, တင့်တယ်သည်ဟုထင်မှတ်မိသောအရာများကို လိုချင်တပ်မက်၏၊ ကပ်ငြိတွယ်တာ၏။

လောဘက လိုချင်တပ်မက်နေသောအရာများမှာ မောဟဖုံးလွှမ်းမှုကြောင့် လှပကောင်းမွန်သည်ဟု ထင်မှတ်မိကြသည့် အဆင်း, အသံ, အနံ့, အရသာနှင့် အထိအတွေ့တို့ ဖြစ်ကြ၏။ ဤအရာများကို ကာမဂုဏ်အာရုံများဟု ခေါ်၏။

လောဘသည် ကြုံတွေ့ဆဲဖြစ်သော ကာမဂုဏ်အာရုံများကိုလည်း တပ်မက်တွယ်တာ၏၊ မခွဲမခွာလိုဘဲ ဆွဲတွယ်သိမ်းပိုက်ထား

လို၏၊ နောက်ထပ်အာရုံသစ်များကိုလည်း ဆာလောင်မွတ်သိပ်နေ၏။ ဤသဘောကြောင့် လောဘကို 'တဏှာ' ဟု အမည်ပေးကြ၏။

လုလင်ပျိုတစ်ဦးနှင့် လုံမပျိုတစ်ဦးတို့ ဆုံမိကြသောအခါ 'မြင်မြင်ချင်း ချစ်ကြိုက်သည်' **(Love at first sight)** ဆိုသည်မှာ အဓိကအားဖြင့် 'တဏှာချစ်' ဖြစ်၏။

**'တဏှာချစ်'** တွင် မခွဲချင်မခွာရက်အောင် ဆွဲငင်ထားနိုင်သော စွမ်းအားရှိ၏၊ မျက်စိအောက်မှ အပျောက်မခံနိုင်ဘဲ ချုပ်ချယ်ထားလိုသော သဘော, စိုးပိုင်လိုသောသဘောရှိ၏၊ မိမိ၏အလိုဆန္ဒပြည့်ဝရေးကိုသာ ဦးစားပေး၏၊ ညှာတာထောက်ထားခြင်း, ခွင့်လွှတ်တတ်ခြင်းသဘောတို့ မရှိချေ။

မိမိချစ်သောသူနှင့် သဘောချင်းမတိုက်ဆိုင်လျှင် ဒေါသထွက်ပြီး ရန်ဖြစ်ရတော့သည်။ မိမိ၏အလိုဆန္ဒအတိုင်း မဖြစ်လာလျှင်လည်း စိတ်ဆင်းရဲခြင်းဖြစ်ပေါ်လာတော့သည်။

ဤအကြောင်းတို့ကြောင့် *'အချစ်ကြီးလျှင် အမျက်ကြီးသည်၊ ချစ်ခင်တွယ်တာမှုကြောင့် ဆင်းရဲပင်ပန်းရသည်'* ဟု ပညာရှိတို့ မိန့်ဆိုခဲ့ကြ၏။

'တဏှာချစ်' သည် 'မေတ္တာချစ်' နှင့် မတူပါ။

**'မေတ္တာချစ်'** တွင် တွယ်တာကပ်ငြိသည့်သဘော, ချုပ်ချယ်ပိုင်စိုးလိုသည့်သဘော, ဖျက်ဆီးလိုသည့်သဘောများ မပါရှိပါ။

မေတ္တာသည် ခက်ထန်ကြမ်းတမ်းခြင်းသဘောရှိသော ဒေါသ၏ဆန့်ကျင်ဘက် 'အဒေါသစေတသိက်' ဖြစ်၏။ ထို့ကြောင့် မေတ္တာသည် အလွန်နူးညံ့သိမ်မွေ့၏၊ ခက်ထန်ကြမ်းကြုတ်ခြင်း, ဖျက်ဆီးတတ်ခြင်းသဘောတို့ကို ကွယ်ကာနိုင်၏။

ထို့ကြောင့် မေတ္တာသည် ဖျက်ဆီးတတ်သည့်တရားမဟုတ်၊ အပြုတရားသာဖြစ်၏။ မေတ္တာကြောင့် တစ်စုံတစ်ဦးက ထိခိုက်နစ်နာသွားသည်ဟူ၍ မရှိ၊ အကျိုးခံစားရခြင်းသာရှိ၏။

မေတ္တာသည် လူနတ်ဗြဟ္မာ အပါယ်ဘုံသားဟူသည့် သတ္တဝါအားလုံးကို အယုတ်အမြတ်မခွဲခြားဘဲ၊ အဆိုးအကောင်း မခွဲခြားဘဲ၊ လှသည်, အကျည်းတန်သည်ကို ဂရုမစိုက်ဘဲ တစ်ပြေးညီညာချစ်ခင်ကြင်နာသောသဘောဖြစ်၏၊ ဘေးရန်ကင်းပြီး ကိုယ်စိတ်နှစ်ဖြာချမ်းသာစေလိုသောသဘော ဖြစ်၏။

မေတ္တာသည် ခွင့်လွှတ်နိုင်၏၊ သည်းခံနိုင်၏၊ အနစ်နာခံနိုင်၏၊ ကိုယ်ချင်းစာတတ်၏။

ထို့ကြောင့် မေတ္တာရှင်သည် လူတကာနှင့်ချစ်ကြည်သင့်မြတ်နိုင်သည်၊ တိရစ္ဆာန်များ၊ နတ်များနှင့်လည်း အဆွေခင်ပွန်း ဖြစ်နိုင်သည်။

စည်းလုံးညီညွတ်ခြင်းနှင့် ငြိမ်းချမ်းသာယာခြင်းတို့ကို မေတ္တာဖြင့်သာ ဖော်ဆောင်နိုင်သည်။

*"မေတ္တာသည် ရောင်ပြန်ဟပ်သည့်သဘောရှိ၏။ မေတ္တာစာတ်ခိုင်လာလျှင် မေတ္တာရောင်ခြည်ဖြာထွက်၏။* ***Love begets love.*** *မေတ္တာသည် မေတ္တာကို ပေါက်ဖွားစေ၏။"*

*"ဓားသွားထက် ကလောင်သွားပိုထက်သည်၊ ဓားစောင်းထက်ရေစောင်းပိုထက်သည်"* ဟူသောစကားများကဲ့သို့ နူးညံ့သိမ်မွေ့သော မေတ္တာတရားသည် ကြမ်းတမ်းခက်ထန်သော ဒေါသတရားထက်ပို၍အစွမ်းထက်၏။ ဒေါသကို မေတ္တာဖြင့် အောင်နိုင်၏။ ဒေါသမီးလျှံကို မေတ္တာရေစင်ရေအေးဖြင့်သာ ငြိမ်းသတ်နိုင်၏။

ထို့ကြောင့် မေတ္တာသည် ငြိမ်းချမ်းရေးတရားအစစ် ဖြစ်ပေသတည်း။

**သစ္စာ...သစ္စာသည် အမြတ်ဆုံးတရား...။**

သစ္စာသည် မှန်ကန်ခြင်း **(truth)** ဖြစ်၏။

မှန်ကန်သည့်သဘောသည်ပင် မြင့်မြတ်သောသဘောဖြစ်၏။

ကမ္ဘာတွေးခေါ်ရှင်ကြီးများသည် အမှန်တရား (သစ္စာ) ကိုထိပ်ဆုံးထား၍ ရှာဖွေခဲ့ကြ၏။ အမှန်တရားသည်သာ လောက၏အနှစ်သာရ (ဝါ) ဘဝ၏ဆုလာဘ်ကြီးဖြစ်သည်ဟု ယူဆခဲ့ကြ၏။

လူတို့သည် အမှန်တရားကို မသိနားမလည်ကြသည့်အတွက် အမှန်တရားကို ကျောခိုင်းကာ မမှန်တရား၏နောက်သို့ လိုက်ပါနေကြ၏။

ထိုအမှန်တရား (သစ္စာ) ဟူသည်မှာအဘယ်နည်း။ အမှန်တရားဟူသည်မှာ တစ်ခုတည်းလား၊ အများကြီးလား။

အမှန်တရားသည် မှန်ကန်ခြင်းသဘောအားဖြင့် တစ်ခုသာရှိ၏ **(Truth is one)**။ သို့သော် အမှန်တရား၏ အထည်ကိုယ်နှင့်လိုက်၍ (၁) သမုတိသစ္စာ **(relative truth)** နှင့် (၂) ပရမတ္ထသစ္စာ **(absolute truth)** ဟူ၍ နှစ်မျိုးရှိ၏။

**သမုတိသစ္စာ** တွင် ပညတ်တရားများ ပါဝင်ကြ၏။ ခွေး, ကြောင်, လူ, နတ်, ဗြဟ္မာစသည်ဖြင့် အများသဘောတူ သတ်မှတ်ထားကြသည့် အမည်ဝေါဟာရများနှင့် ထိုအမည်ဝေါဟာရတို့က ရည်ညွှန်းပြသောအထည်ကိုယ်ဒြပ်များသည် ပညတ်တရားများ ဖြစ်ကြ၏။ ဤပညတ်တရားများကို အရှိအရှိအတိုင်း၊ အဖြစ်အဖြစ်အတိုင်း ထုတ်ဖော်ပြောဆိုခြင်းသည် သမုတိသစ္စာဖြစ်၏။

မှန်တာကိုပြောလျှင် သစ္စာဖြစ်၏။ မှားတာကိုပြောလျှင် မုသာဝါဒဖြစ်၏။ သမုတိသစ္စာသည်ပင်လျှင် ထူးခြားသော တန်ခိုးအာနိသင် ရှိ၏။ တစ်နည်းဆိုသော် အမှန်တရားသို့ ဦးတည်ထားသော စိတ်တွင် ထက်မြက်သည့်စွမ်းအင်ရှိ၏။ ဤစွမ်းအင်ကြောင့် ထူးခြားဆန်းကြယ်သောဖြစ်ရပ်များ ပေါ်ပေါက်လာနိုင်ကြ၏။

*'ကတိသစ္စာ၊ တည်သောခါဌ်၊ သြဇာလေးနက်၊ ပေါ်ဆီတက်၍၊ နွယ်မြက်သစ်ပင်၊ ဆေးဘက်ဝင်၏'* စသည့် ဆန်းကြယ်သော ဖြစ်ရပ်မျိုးတည်း။

**ပရမတ္ထသစ္စာ** တွင် ပရမတ်တရားများ ပါဝင်ကြ၏။ ပရမတ်တရားများမှာ အမှန်တကယ်ရှိကြသော တရားများ ဖြစ်ကြ၏။ ဤတရားတို့ကား စိတ်, စေတသိက်, ရုပ်နှင့် နိဗ္ဗာန်တို့ပေတည်း။

၃၁ ဘုံတွင် ကျင်လည်နေကြသော သတ္တဝါများနှင့် ရုပ်ဝတ္ထုများဟူသည်ကား စိတ်, စေတသိက်နှင့်ရုပ်တို့သာ ဖြစ်ကြ၏။ ထိုစိတ်, စေတသိက်နှင့်ရုပ်တို့၏ ဖြစ်ရိုးဖြစ်စဉ်အတိုင်း ဖြစ်ပျက်နေကြသော သဘောတရားများသည် ပရမတ္ထသစ္စာများ ဖြစ်ကြ၏။

မြတ်စွာဘုရားသည် စိတ်, စေတသိက်ဟူသော နာမ်နှင့် ရုပ်တို့၏ သဘောသဘာဝများကိုလည်းကောင်း၊ ဤပရမတ္ထတရားတို့၏ ကြောင်းကျိုးဆက်နွယ်ကာ ဖြစ်ပျက်နေကြသော ဖြစ်စဉ်များကိုလည်းကောင်း ထုတ်ဖော်ဟောကြားခဲ့ပေ၏။ ဤသို့ဟောကြားခဲ့သော တရားဓမ္မများသည် ပရမတ္ထသစ္စာများပင် ဖြစ်ကြ၏။

ပရမတ္ထသစ္စာကို သိမြင်သောဉာဏ်တွင် အလွန်ထူးခြားထက်မြက်သော စွမ်းအင်ရှိ၏။ ပရမတ္ထသစ္စာတို့၏ လိုရင်းအနှစ်ချုပ် ဖြစ်သော **အရိယသစ္စာလေးပါး** ကို ပိုင်းပိုင်းခြားခြားသိမြင်လျှင် သော

တာပန်, သကဒါဂါမ်, အနာဂါမ်, ရဟန္တာဟူ၍ အဆင့်ဆင့်မြင့်တက်သွားပေတော့၏။

တွေးခေါ်ရှင်ကြီးများသည် သမုတိသစ္စာများလောက်ကိုသာ တွေးခေါ်ဖော်ထုတ်နိုင်ကြ၏။ ပညတ်အကာကိုထိုးဖောက်၍ပရမတ္ထသစ္စာသို့တိုင်အောင်ကား ထိုးထွင်း၍ မမြင်သိနိုင်ကြပါ။

အရိယသစ္စာလေးပါး အထွတ်တင်ထားသော ပရမတ္ထသစ္စာများကို ထိုးထွင်း၍မြင်သိမှသာလျှင် ဇာတိဘေး, အိုနာသေဘေးနှင့် အပါယ်ဘေးများမှ လွတ်မြောက်ကြ၍ နိဗ္ဗာန်ချမ်းသာကို ခံစားကြရမည် ဖြစ်သတည်း။



**အောင်ပွဲခြိမ့်ခြိမ့်ခံရမည်**

မေတ္တာတရားက မအောင်မြင်နိုင်သောအရာသည် မရှိ။
သစ္စာတရားက မစွမ်းဆောင်ပေးနိုင်သောအရာသည် မရှိ။
မေတ္တာရှင်, သစ္စာရှင်ကို လူလည်းကြည်ညို၊
နတ်တို့လည်း ချစ်ခင်ပြီး သဘာဝစွမ်းအားများက
စောင့်ရှောက်ကူညီပေးကြမည်ဖြစ်သတည်း။

# မေတ္တာအပွင့်

## မေတ္တာဆိုတာဘာလဲ

'မေတ္တာ'ဆိုတာ 'ချစ်တာ'ပဲပေါ့ဟု ဖြေမလား။

'ချစ်ခြင်းမေတ္တာ'ဟူ၍ 'ချစ်ခြင်း' နှင့် 'မေတ္တာ'ကို တွဲသုံးထားသည်မှာ အဓိပ္ပာယ်တူ၍ပဲမဟုတ်လားဟု စောဒကတက်နိုင်ပါသည်။

တစ်ဖန် လုလင်ပျိုတစ်ယောက်က လုံမပျိုတစ်ယောက်ကို သဘောကျ နှစ်သက်လျှင် 'ချစ်ကြိုက်နေပြီ' 'မေတ္တာရှိနေပြီ'ဟု ဆိုကြပြန်၏။

အမှန်မှာ 'ချစ်ကြိုက်ခြင်း'နှင့်'မေတ္တာရှိခြင်း'တို့သည် အဓိပ္ပာယ်တူသယောင်ယောင်နှင့် သဘောချင်းကွဲလွဲကြပါသည်။

'ချစ်ကြိုက်ခြင်း'ဆိုသည့်စကားတွင် လိုချင်တပ်မက်သည့်သဘောပါ၏။

'မေတ္တာ'တွင် လိုချင်တပ်မက်သည့်သဘော မပါပါ။

ထို့ကြောင့် 'ချစ်ကြိုက်ခြင်း'နှင့် 'မေတ္တာရှိခြင်း'တို့သည် ဆန့်

ကျင်ဘက် သဘောနှစ်ခုဟုပင် ဆိုနိုင်ပါ၏။ ထပ်မံဆန်းစစ်ကြပါဦးစို့။

'ချစ်သည်' ဟူသော မြန်မာ့ဝေါဟာရကိုက အဓိပ္ပာယ်မရှင်းပါ။ 'တဏှာချစ်' နှင့်ချစ်တာလား၊ 'မေတ္တာစစ်' နှင့် ချစ်တာလား ဟူ၍ မကွဲပြားပါ။

အဘိဓမ္မာအမြင်ဖြင့်ပြောရလျှင် 'တဏှာချစ်' သည် 'လောဘ' ဖြစ်၏။ 'မေတ္တာစစ်' သည် 'အဒေါသ' ဖြစ်၏။

လောဘနှင့် အဒေါသတို့သည် စိတ်ကိုခြယ်လှယ်နေကြသည့် စေတသိက်များဖြစ်ကြ၏။ လောဘသည် အကုသိုလ်တရားတစ်ခုဖြစ်ပြီး အကုသိုလ်ကို စည်ပင်တိုးပွားစေ၏။ အဒေါသသည် ကုသိုလ်တရားတစ်ခုဖြစ်ပြီး ကုသိုလ်ကို စည်ပင်တိုးပွားစေ၏။

လောဘနှင့် အဒေါသတို့၏ သဘောသဘာဝတို့ကို ရှင်းရှင်းလင်းလင်း သိနားလည်ပါမှ မေတ္တာ၏ သဘောကို ကွက်ကွက်ကွင်းကွင်း သိမြင်နိုင်မည်ဖြစ်၏။

## တဏှာချစ်ဆိုတာ လောဘ

ဆွေမျိုးတော်စပ်ခြင်း မရှိကြသည့် ကာလသားများနှင့် လုံမပျိုများ ချစ်ကြသည်ဆိုရာဝယ် အဓိကအားဖြင့် တဏှာချစ်ဖြင့် ချစ်ကြခြင်းပင်ဖြစ်၏။

တဏှာဟူသည်မှာ လောဘစေတသိက်၏ အမည်တစ်ခုဖြစ်၏။

လောဘသည် အဆင်း, အသံ, အနံ့, အရသာ, အထိအတွေ့ ဟူသော အာရုံတို့ကို တမ်းတမ်းစွဲ ငမ်းငမ်းတက်လိုချင်တပ်မက်သည့် သဘောဖြစ်၏။ 'ငါ့ဥစ္စာ၊ ငါ့ဟာ' စသည်ဖြင့် ပိုင်စိုးလိုသည့်သဘော

ဖြင့် အာရုံကိုယူ၏။ အာရုံ၌လွန်ကဲစွာကပ်ငြိခြင်းသဘောလည်း ရှိ၏။

ထို့ကြောင့် လောဘကို မျောက်နဲ့စေးနှင့်ဥပမာနိုင်းကြ၏။မျောက်နဲ့စေးသည် ထိတွေ့လာသော မျောက်၏ ခြေလက်တို့ကို ဆွဲကပ်ဖမ်းယူထားသကဲ့သို့ လောဘသည်လည်း တွေ့ဆုံလာသောအာရုံတို့ကို နှစ်သက်ခင်မင် လိုချင်တပ်မက်စွာ ဖမ်းယူထားလေ၏။

မျောက်၏ ခြေလက်အစုံတို့ကို မျောက်နဲ့စေးက ဆွဲကပ်ဖမ်းယူထားသောအခါ ထိုမျောက်သည် ထွက်ခွာသွားရန် မတတ်သာသကဲ့သို့ လောဘသည် အာရုံကို ဆွဲငင်ဖမ်းယူထားသောအခါ လောဘရှိသော ပုဂ္ဂိုလ်သတ္တဝါတို့သည် ထိုအာရုံမှဖဲခွာသွားရန် မလွယ်ကူတော့ချေ။

ဤအကြောင်းကြောင့် လုလင်ပျိုသည် လုံမပျိုအနီးမှ ဖဲခွာမထွက်ချင်ပါ။ သီချင်းကြိုက်သည့် လူငယ်လူရွယ်များသည် ရေဒီယို, ကက်ဆက်, စတီတ်ရီုးစသည်တို့မှ မဖဲခွာချင်ကြပါ။ ရုပ်ရှင်ကြိုက်ပရိသတ်ကလည်း ရုပ်ရှင်ရုံပိတ်ကားနှင့် ရုပ်မြင်သံကြားတို့အနီးမှ မဖဲခွာချင်ကြပါ။

စေတသိက်တို့၏ သဘောသည် အလွန်သိမ်မွေ့၏။ စိတ်ကို လောဘက သာသာကလေး ခြယ်လှယ်ထားရုံဖြင့် စိတ်နောက်ကိုယ်ပါရသော သတ္တဝါတို့သည် အာရုံ၌ငြိတွယ်နေကြပေတော့၏။

ရွှေ, ငွေ, ရတနာစသည်တို့ကို တပ်မက်တွယ်တာသဖြင့် အသက်ဆုံးရှုံးခဲ့ကြရသောလူတို့မှာ ဒုနှင့်ဒေးပင်ရှိခဲ့ကြ၏။ ရည်းစားပျက်သဖြင့် မိမိအသက်ကို သေကြောင်းကြံစည်ကြသူတို့မှာလည်း အာရုံကို မစွန့်လွှတ်နိုင်သောလောဘ၏ စနက်ကြောင့်ပင် ဖြစ်၏။

ထို့အပြင် လောဘသည် အာရုံများကို မည်မျှများပြားစွာရရှိစေကာမူ မည်သည့်အခါမျှ ရောင့်ရဲတင်းတိမ်သည့်သဘောမရှိချေ။ မြစ်ကြီးငါးသွယ် မြစ်ငယ်ငါးရာစသည့် မြစ်ချောင်းများစွာတို့မှ ရေများ မည်မျှပင် စီးဝင်ကြပါသော်လည်း ပင်လယ်သမုဒ္ဒရာတို့သည် မည်သည့်အခါမျှ မပြည့်နိုင်သကဲ့သို့ဖြစ်၏။ သောက်လေသောက်လေ အငတ်မပြေသည့် ဆားငန်ရေသဘောနှင့်လည်း တူ၏။

လောဘသည် အာရုံတို့နှင့် မရောင့်ရဲသည့်အတွက် အာရုံသစ်များကို အမြဲတမ်းတရှာဖွေနေ၏၊ အာရုံကို အမြဲဆာလောင်မွတ်သိပ်နေ၏။ သို့ဆာလောင်မွတ်သိပ်နေသည့်အတွက် လောဘဖိစီးခြင်းခံနေရသောသူသည် ကွင်းခေါင်ခေါင်တွင် ရေဆာလောင်နေသူပမာ အမြဲပူလောင်မောဟိုက်နေရလေ၏။

လောဘတရားသည် ကြုံတွေ့နေဆဲအာရုံများကိုလည်း တပ်မက်တွယ်တာ၏၊ မစွန့်လွှတ်လိုဘဲ ဆွဲသိမ်းထားလို၏၊ နောက်ထပ်အာရုံသစ်များကိုလည်း ငံ့မျှော်တောင့်တနေ၏၊ ထို့ကြောင့် **တဏှာ** ဟု အမည်ရ၏။

တဏှာသည် အလိုရမ္မက်ကြီးခြင်းပင်တည်း။ သို့အတွက် တဏှာချစ်သည် စင်စစ်ပူလောင်ပြီး မိန်းမလှအသွင် အယောင်ဆောင်ထားသော ဘီလူးပမာ ကြောက်စရာအလွန်ကောင်းလှပေတော့၏။

## ရာဂသည် အပူဆုံးမီးတောက်

လောဘစေတသိက်ကိုပင် အာရုံကိုတပ်မက်စွဲလမ်းသည့်သဘောကြောင့် **ရာဂ** ဟု ခေါ်၏၊ အာရုံကိုလိုချင်တတ်သောကြောင့် **ကာမ, ဣစ္ဆာ, အာသာ, နိကန္တိ** ဟူ၍လည်းခေါ်တွင်၏၊ အာရုံ၌ အထပ်ထပ်

ငြိကပ်တတ်သောကြောင့် **အာလယ** ဟုခေါ်၏၊ ကြိုက်နှစ်သက်တတ်သောကြောင့် **နန္ဒီ** ဟုခေါ်၏၊ လှည့်ပတ်တတ်သောကြောင့် **မာယာ** ဟုခေါ်၏။

ယောက်ျားနှင့် မိန်းမတို့ ချစ်ကြရာဝယ် တဏှာ, ရာဂ, ကာမ, အာလယ, နန္ဒီ, မာယာ စသည့် သဘောအားလုံးပါဝင်နေသည်ကို သတိပြုရာ၏။ ထို့ကြောင့် တဏှာချစ်သည် ဆွဲငင်အားအလွန်ကြီး၏။ ဆွဲငင်အားကြီးသည့်အခိုက်၌ မိဘမေတ္တာကိုပင် တွန်းလှန်ပစ်နိုင်၏။

သို့သော် တဏှာချစ်သည် မိဘမေတ္တာကဲ့သို့ အေးမြခြင်းမရှိ။ ၎င်း၏ ပူလောင်သည့်သဘာဝကို ကြာရှည်စွာဖုံးကွယ်မထားနိုင်ပါ။ မိန်းမလှအသွင်ဆောင်ထားသော ဘီလူးမသည် အိပ်စက်နေသည့်အခါ အစွယ်ငေါ်ငေါ်နှင့် ဇာတိပေါ်လာသကဲ့သို့ တဏှာချစ်၏ သဘာဝသည်လည်း စိုးရိမ်ပူပန်, ငိုကြွေးမြည်တမ်း, ရိုက်ငင်ဆို့နင့်ရသည့် အခါများတွင် ဇာတိပေါ်လွင်လာပေတော့၏။

ပကတိမီးသည် အခိုးထွက်၏၊ လောင်သည့်အခါ ပြာကျန်ရစ်၏။ ရာဂမီးကား အခိုးမထွက်၊ ပြာမချန်ဘဲ ခန္ဓာကိုယ်အတွင်းမှ ထတောက်၍ သတ္တဝါများကို ပူလောင်တတ်သောသဘောရှိ၏။

ပကတိမီးသည် အလိုရှိသူက မီးမွှေးသောအခါမှ တောက်လာ၏။ ရာဂမီးကား လိုသော်ရှိ၊ မလိုသော်ရှိ၊ အချိန်ရှိသရွေ့ တငွေ့ငွေ့လောင်နေ၏၊ အသည်းနှလုံးကျွမ်း၍ သွေးသားခြောက်ခန်းသည်အထိ လောင်ကျွမ်း၏၊ အပါယ်ငရဲသို့လည်း ပစ်ချတတ်၏။

ထို့ကြောင့် **ရာဂနှင့်တူသောမီးသည် မရှိ။** ရာဂသည် အပူဆုံးအလောင်ဆုံးသော မီးကြီးပင်ဖြစ်သတည်း။

## မေတ္တာစစ်ဟူသော အဒေါသ

အဘိဓမ္မာသဘောအရ မေတ္တာသည် အဒေါသစေတသိက် ဖြစ်၏။ အဒေါသသည် ဒေါသ၏ဆန့်ကျင်ဘက်ဖြစ်၏။

ဒေါသစေတသိက်သည် ကြမ်းတမ်းခြင်းသဘော၊ ဖျက်ဆီးတတ်ခြင်းသဘော ဖြစ်၏။ အဒေါသသည် မကြမ်းတမ်းခြင်းသဘော၊ မဖျက်ဆီးတတ်ခြင်းသဘောဖြစ်၏။

ဒေါသ, အဒေါသတို့သည် နာမ်တရားများဖြစ်ကြသဖြင့် ၎င်းတို့၏ သဘောများကို ပကတိမျက်စိဖြင့် တိုက်ရိုက်မမြင်နိုင်ချေ။ သို့သော် 'အကျိုးထင်က အကြောင်းမြင်' ဆိုသကဲ့သို့ ဒေါသ, အဒေါသတို့ကြောင့် ဖြစ်ပေါ်လာကြသည့် အကျိုးတရားကိုကြည့်၍ ဒေါသနှင့် အဒေါသတို့၏သဘောများကို ဉာဏ်မျက်စိဖြင့် မှန်းဆသိနိုင်၏။

ဒေါသသည် မိမိဘာသာ တစ်ကိုယ်တည်း ကြမ်းတမ်းသည် မဟုတ်။ ဒေါသနှင့်ယှဉ်တွဲမိသည့် စိတ်စေတသိက်တို့ကိုလည်း ကြမ်းတမ်းစေ၏။ ထိုမှတစ်ဆင့် စိတ္တဇရုပ်တို့ကိုလည်း ကြမ်းတမ်းစေ၏။ သူခိုးဓားပြတို့နှင့် ပေါင်းမိကြသောသူတို့သည် သူခိုးဓားပြများ ဖြစ်လာကြသကဲ့သို့တည်း။

အလိုမကျ, မကျေနပ်၍ ဒေါသဖြစ်လာသူ၏ စိတ်သည် ကြမ်းတမ်းလာသဖြင့် စိတ်ကြောင့်ဖြစ်သော စိတ္တဇရုပ်များလည်း ကြမ်းတမ်းလာကြ၏။ ထိုအခါ ထိုသူ၏ ကိုယ်အမူအရာ နှုတ်အမူအရာများသည်လည်း ကြမ်းတမ်းလာကြ၏။ ထို့ကြောင့် မျက်စိမျက်နှာ နီမြန်းလာကြ၏။ ထိုသူသည် တစ်ဖက်သားကို စားမလို,ဝါးမလို ကြည့်၏၊ ဆူပူကြိမ်းမောင်း၏၊ ဆဲရေးတိုင်းထွာ၏၊ တုတ်, ဓား, လက်နက်များကို ရှာဖွေစွဲကိုင်ပြီး ရိုက်နှက်ထိုးခုတ်၏၊ သတ်ဖြတ်၏။

သို့အတွက် **ဒေါသသည် အဖျက်ဆီးတတ်ဆုံးတရား** ဟု ဗုဒ္ဓမြတ်စွာ သတ်မှတ်တော်မူခဲ့၏။ ဒေါသသည် ဒေါသဖြစ်သူကို ရှေးဦးစွာ ဖျက်ဆီး၏။ ထို့နောက် ထိုသူနှင့်ဆက်နွယ်နေသူတို့အား ဖျက်ဆီး၏။

ဒေါသက ဖျက်ဆီးတတ်သလောက် အဒေါသက မဖျက်ဆီးတတ်ပါ။ ဒေါသက ကြမ်းတမ်းခက်မာသလောက် အဒေါသက နူးညံ့သိမ်မွေ့၏။ ဒေါသက ဒေါသဖြစ်သူ၏ ဟဒယနှလုံးသားနှင့်တကွ တစ်ကိုယ်လုံးကို ပူလောင်စေသလောက် အဒေါသသည် နှလုံးစိတ်ဝမ်းတို့ကို အေးချမ်းစေ၏။

ဒေါသနှင့် အဒေါသတို့သည် မီးတောက်နှင့် သီတာရေစင်ပမာ ဖြောင့်ဖြောင့်ကြီးဆန့်ကျင်ကြ၏။ **မီးများလျှင် မီးနိုင်၊ ရေများလျှင် ရေနိုင်** ဆိုသကဲ့သို့ စိတ်၌ဒေါသယှဉ်နေသည့်အခါ အဒေါသမယှဉ်နိုင်ပါ။ အဒေါသယှဉ်နေသည့်အခါ ဒေါသမယှဉ်နိုင်ပါ။

ဒေါသမီးကို ငြိမ်းသတ်စေနိုင်သော အကောင်းဆုံးသောအရာမှာ မေတ္တာရေစင်ခေါ်သည့်သတ္တဝါတို့ကို ချမ်းသာစေလိုသော အဒေါသစေတသိက်ပင်ဖြစ်၏။

အဒေါသစေတသိက်သည်ပင် သတ္တဝါတစ်ဦးကိုဖြစ်စေ၊ သတ္တဝါအများကိုဖြစ်စေ အာရုံပြု၍ ဘေးရန်ကင်းကြပါစေ၊ စိတ်ဆင်းရဲကိုယ်ဆင်းရဲကင်းကြပါစေ၊ နှလုံးစိတ်ဝမ်း အေးချမ်းကြပါစေဟု နှလုံးသွင်းသည့်အခါ **မေတ္တာ** ဟုအမည်ရ၏။

မေတ္တာသည် နူးညံ့သိမ်မွေ့၏၊ ကြည်လင်အေးမြ၏၊ ရယူပိုင်ဆိုင်လိုခြင်းမရှိ၊ ချုပ်ချယ်လွှမ်းမိုးလိုခြင်းမရှိ၊ သူတစ်ပါးတို့အား လွတ်လွတ်လပ်လပ်ကြီးပွားတိုးတက်စေလို၏၊ ဘေးရန်ကင်းစေလို

၏၊ အေးချမ်းသာယာစေလို၏၊ မိမိတို့၏ ဆိုင်ရာဘဝအသီးသီးကို ကျန်းကျန်းမာမာ ချမ်းချမ်းသာသာနှင့် ခရီးနှင်သွားစေလို၏။

သို့အတွက် မေတ္တာသည် အာရုံအမျိုးမျိုး၌ ကပ်ငြိတတ်သော၊ အာရုံသစ်ကို အမြဲဆာလောင်ငံ့မျှော်နေတတ်သော၊ ရယူပိုင်ဆိုင်လိုသော၊ ချုပ်ချယ်လွှမ်းမိုးတတ်သော၊ အမြဲတစေ တငွေ့ငွေ့ပူလောင်နေတတ်သော တဏှာချစ်နှင့် မိုးနှင့်မြေပမာ အလွန်တရာကွာလှမ်းလှပေတော့၏။

ဤအကြောင်းကြောင့် ပညာရှိအပေါင်းတို့က တဏှာချစ်လွန်ကဲသည့် အိမ်ထောင်ရေးသည် ပူပင်သောကရှုပ်ထွေးပွေလီ၍ အေးချမ်းသာယာမှုနည်းမည်၊ မေတ္တာတစ်ဝက် တဏှာချစ်ထက်ဝက် ရောဖက်ထားသည့် အိမ်ထောင်ရေးတို့က ပိုမိုအေးမြစိုပြည်၍ ကြာရှည်စွာ တည်တံ့ခိုင်မြဲလိမ့်မည်ဟု မှတ်ကျောက်တင်ထားကြပေသတည်း။

**အလှဆုံးတရား**

လောက၌ မည်သည့်အရာက အလှဆုံးဖြစ်ပါသနည်း။

စဉ်းစား၍ဖြေကြည့်ပါ။ အဖြေများကို နှိုင်းယှဉ်ကြည့်ပါ။ မေတ္တာထက် ပိုလှသောအရာကို အဆွေရှာတွေ့နိုင်ပါမည်လား။

မိန်းမ များ သည် လည်း ကောင်း၊ ယောကျ်ား များ သည် လည်း ကောင်း မိမိတို့၏ရုပ်သွင်ကိုလှသည်ထက်လှအောင် ခန့်သည်ထက် ခန့်အောင် ဝတ်စားဆင်ယင်ကြ၏၊ အဖိုးတန်ရတနာများဖြင့် တန်ဆာဆင်ကြ၏၊ အလှပြင်ဆိုင်များ၌ အခကြေးငွေကြီးစွာပေး၍အလှပြင်ကြ၏၊ သို့သော် အရေးအကြီးဆုံးဖြစ်သည့်စိတ်ကိုအလှဆင်ဖို့ မေ့နေတတ်ကြ၏။

**ဒေါသအကျည်းတန် သည်းခံလှပ၏** ...တဲ့။

အမျက်ဒေါသကြီးသူ, စိတ်တိုသူ, စိတ်ဆတ်သူသည် ယခုဘဝ၌လည်း အကျည်းတန်၏၊ နောင်တမလွန်ဘဝများ၌လည်း အကျည်းတန်ဦးမည်ဖြစ်၏။ သိန်းတန်ရတနာ အဆင်တန်ဆာတို့က ထိုအကျည်းတန်မှုကို မဖုံးကွယ်ပေးနိုင်ချေ။

သည်းခံနိုင်သူ, ခွင့်လွှတ်နိုင်သူ, စိတ်ထားမွန်မြတ်သူသည် ယခုဘဝ၌လည်း လှပတင့်တယ်၏၊ နောင်တမလွန်ဘဝများ၌လည်း လှပတင့်တယ်ဦးမည်ဖြစ်၏။ ညစ်ထေးဟောင်းနွမ်းစုတ်ပြတ်နေသည့် အဝတ်တန်ဆာများဖြင့် ဖုံးလွှမ်းထားသည်ဖြစ်စေ၊ ဤစိတ်လှသူ၏ အလှသည် ထင်ပေါ်နေမည်သာဖြစ်၏။

မေတ္တာယှဉ်နေသည့်စိတ်သည်သာလျှင် သည်းခံနိုင်၏၊ ခွင့်လွှတ်နိုင်၏၊ မွန်မြတ်လှပ၏၊ ကြည်လင်အေးမြ၏။ သို့အတွက် မေတ္တာပိုင်ရှင်၏ မျက်နှာရုပ်သွင်သည် စန်းလသီတဂူကဲ့သို့ကြည်လင်အေးမြ၏၊ မြင်ရသူတိုင်းအား စိတ်ရွှင်လန်းဝမ်းမြောက်သွားစေ၏။

ပညာတန်ဆောင်မဂ္ဂဇင်းတွင် မှတ်သားဖွယ်ဆောင်းပါးတစ်ပုဒ်ကို ဖတ်လိုက်ရဖူး၏။ **သုဇာ**နှင့် **သီတာ** တို့၏ အကြောင်းဖြစ်၏။ သုဇာသည် သူဌေးသမီးဖြစ်ပြီး ရုပ်ရည်လှပ၏။ သီတာသည် ဆင်းရဲသူမဖြစ်ပြီး ရွက်ကြမ်းရေကျိုလောက်သာလှ၏။ သူတို့သည် ရှစ်တန်းကျောင်းသူများဖြစ်ကြ၏။ ကျောင်းတက်ရန်လာရင်း ပြည်လမ်းမပေါ်တွင် ဆုံကြ၏။

သုဇာသည် သစ်လွင်သော ကျောင်းဝတ်စုံ အကောင်းစားနှင့် လည်ဆွဲရတနာ, လက်ပတ်နာရီအသစ်တို့နှင့် လှပကြော့မော့နေ၏။ သီတာက ဟောင်းနွမ်းသည့် ဖြူစိမ်းအင်္ကျီလုံချည်တို့ကို ရိုးရိုးကလေး

ဝတ်ဆင်၍ ဟောင်းနွမ်းသည့်လွယ်အိတ်ကို လွယ်ထား၏။ မည်သည့် လက်ဝတ်ရတနာကိုမျှ မဝတ်ဆင်နိုင်ပါ။

သူတို့နှစ်ဦးဆုံကြလျှင် သီတာက အားရရွှင်လန်းစွာ လှမ်းနှုတ်ဆက်၏။

"အလို... သူဇာ ကနေ့တယ်ဇောပါလား၊ တယ်လဲလှနေပါကလား"

သူဇာက မပွင့်တပွင့်ပြုံးကာ ဦးခေါင်းကလေးကို အနည်းငယ်ငဲ့စောင်းလိုက်၏။

"ဖေဖေက လည်ဆွဲအသစ်နဲ့ လက်ပတ်နာရီအသစ် ဝယ်ပေးလိုက်တာလေ"ဟု ဖြေကြားရင်း ရတနာသစ်များကို မသိမသာပြလိုက်၏။

"အင်း... သူငယ်ချင်း သိပ်ကံကောင်းတာပဲ၊ ဝမ်းသာပါတယ်ကွယ်"

ထိုအခိုက် ပြည်လမ်းမကြီးကိုဖြတ်ကူးရန် မဝံ့မရဲတန်းလန်းဖြစ်နေသော အဘွားအိုတစ်ယောက်ကို သူတို့မြင်တွေ့ကြရ၏။ သူဇာက ခြေလှမ်းမပျက် ဆက်လျှောက်သွားသော်လည်း သီတာက ချက်ချင်း အဘွားအိုအနီးသို့ ချဉ်းကပ်သွား၏၊ အဘွားအို၏ တုန်ချည့်နေသော လက်ကို အသာအယာဆွဲကိုင်၍...

"အဘွား...လာ သမီးလိုက်ပို့ပေးမယ်၊ ဘာမှမကြောက်နဲ့"

မျက်စိမှုန်ဝါးနေသောအဘွားအိုအဖို့ကား ကားအသွားအလာများသည့် ပြည်လမ်းမကျယ်ကြီးကိုဖြတ်ကူးရန်မှာ အလွန်အန္တရာယ်များလှသောကိစ္စဖြစ်၏။ သို့အတွက် လမ်းတစ်ဖက်ကမ်းသို့ ရောက်လေလျှင် အဘွားသည် သီတာအား ကျေးဇူးတင်၍မဆုံးဖြစ်နေ၏။

“မြေးကလေး ချမ်းသာပါစေ…အသက်ရှည်ပါစေကွယ်”တဲ့။

သူဇာနှင့်သီတာတို့သည် လောကကို မည်သူက ပို၍လှပစေပါသနည်း။ ရုပ်အလှနှင့်စိတ်အလှ နှစ်မျိုးတွင် မည်သည့်အလှက ပို၍တောက်ပပါသနည်း။

မေတ္တာသည် စိတ်ကိုလည်း လှပစေ၏။ လောကကိုလည်း လှပစေသည်တကား။

အမေရိကန်လုလင်တစ်ဦးဖြစ်သူ **ဂျွန်နီ** သည် လှပျိုဖြူ **ဘက်တီ** နှင့်အတူယှဉ်တွဲ၍ သွားလာလေ့ရှိ၏။ သူတို့ဝေါဟာရအားဖြင့် "Steady date" ‘မှန်မှန်ဒိတ်ထွက်သည်’ဟုဆို၏။ မြန်မာ့ဝေါဟာရအားဖြင့် မှန်မှန်အတွဲခုတ်သည်ဟု ဆိုရပေမည်။ တစ်ညနေခင်းတွင် ဂျွန်နီ၏သူငယ်ချင်း **ဂျော့**ပါလာသဖြင့် ဘက်တီ၏သူငယ်ချင်း **မေရီ** ကိုပါ အဖော်ခေါ်လာကြ၏။

မေရီသည် ဘက်တီလောက် ရုပ်ရည်မလှပါ။ ငွေကြေးလည်း မချမ်းသာပါ။ သို့သော် မေရီသည် စိတ်ဖြူစင်သဖြင့် ရုပ်ရည်ကြည်လင်၏၊ ရွှင်ရွှင်ပျပျရှိ၏၊ မိမိ၏ချမ်းသာပျော်ရွှင်မှုထက် အပေါင်းအဖော်တို့၏ ချမ်းသာပျော်ရွှင်မှုကို ပို၍ဂရုစိုက်၏။ တစ်နည်းဆိုသော် မေရီသည် မေတ္တာရှင်ဖြစ်၏။ ဤမေတ္တာအလှကြောင့် ဂျွန်နီ၏ အာရုံသည် ဘက်တီမှမေရီဆီသို့ဦးလှည့်သွား၍ မျိုးမကြာမီ ဂျွန်နီနှင့် မေရီတို့ လက်ထပ်လိုက်ကြ၏။

ဤဖြစ်ရပ်ကား ယနေ့ဖူးစာရှင်ရှာဖွေနေကြသူများ အထူးသတိထားသင့်သည့် အချက်တစ်ချက်ပါပေ။

မြန်မာတို့အကြားတွင် နေထိုင်ဖူးကြသော နိုင်ငံခြားသားများ

သည်လည်းကောင်း၊ ပြည်ပနိုင်ငံများသို့ရောက်ဖူးကြသော မြန်မာများသည်လည်းကောင်း၊ မြန်မာနိုင်ငံသည် အလှဆုံးနိုင်ငံ၊ ပျော်စရာအကောင်းဆုံးနိုင်ငံတစ်နိုင်ငံဖြစ်သည်ဟု ပြောစမှတ်ပြုကြ၏။ အဘယ်ကြောင့်နည်း။

မြန်မာတို့၏ နှလုံးသားများတွင် မေတ္တာဓာတ်ကိန်းဝပ်နေသည့် အတွက်ကြောင့်ပေတည်း။

မြန်မာနိုင်ငံအရပ်ရပ်၌ အမည်မသိသောသူစိမ်းတစ်ရံဆံများ သောက်သုံးရန် ရေအိုးစင်များ၊ နားနေရန်ဇရပ်များ၊ အရိပ်ခိုရန် သစ်ပင်ပန်းမန်များကို စေတနာရှင် မေတ္တာရှင်များက စီမံပေးထားကြ၏။ တည်းခိုရန်အတွက်လည်း ဟိုတယ်၊ မိုတယ်များကို ရှာစရာမလို၊ ဒေသခံတစ်ဦးဦးနှင့်မိတ်ဖွဲ့ပြီး တည်းခိုနိုင်၏။ ထိုအခါ စားသောက်စရာအတွက်ပါ ပူစရာမလိုတော့ချေ။

အင်္ဂလန်၊ အမေရိကန်၊ ဂျပန် စသည့် တိုးတက်နေသည့်နိုင်ငံများ၌ ရေငတ်လျှင် ရေရှာသောက်ဖို့ ရေတောင်းသောက်ဖို့မလွယ်ပါ။ ဖျော်ရည်တစ်မျိုးမျိုးကို ဝယ်သောက်နိုင်မှ ရေငတ်ပြေနိုင်၏။ လွတ်လွတ်လပ်လပ် ခိုနားစရာဇရပ်တန်ဆောင်းများလည်း မရှိ။ တည်းခိုစရာ ဟိုတယ်၊ မိုတယ်များကလည်း အလွန်ဈေးကြီးလှ၏။ အဆိုးဆုံးအချက်ကား လူတိုင်းအလုပ်များနေကြသည့်အတွက် မိမိကိုဂရုစိုက်သူ မရှိခြင်းပင်တည်း။

မြန်မာနိုင်ငံ၌ ဧည့်သည်လာလျှင် အိမ်ရှင်က လုပ်လက်စအလုပ်များကို ဘေးချထားပြီး ဖော်ဖော်ရွေရွေဧည့်ခံပါတော့သည်။ အာလာပ သလ္လာပ ပြောကြရလျှင်လည်း တစ်လောကလုံးကို မေ့ထားပြီး

ပျော်ပျော်ပါးပါး လွတ်လွတ်လပ်လပ်ပြောဆိုနိုင်ကြ၏။ အိမ်ရှင်က ရှိသမျှချကျွေး၏။ ညှော်သည်ကလည်း အားမနာတမ်း တစ်ဝလွေး ၏။ ဤသည်တို့ကား အသည်းခိုက်အောင် နွေးထွေးသွားစေသော မေတ္တာ၏ သင်္ကေတ– ဖော်ရွေမှု, ခင်မင်မှုတို့ပင်တည်း။

ကျွန်တော်အမေရိကန်ပြည်ထောင်စုတွင် ပညာဆည်းပူးစဉ်အခါ က နိုင်ငံခြားသားတစ်ဦးစီကို အမေရိကန်မိသားစုတစ်စုစီနှင့် ဝိုင် အမ်စီအေက မိတ်ဆက်ပေးထား၏။ ကိုယ့်မိသားစုသဖွယ် ဆက်ဆံ နေထိုင်ရန်ဖြစ်၏။

ကျွန်တော်နှင့်မိတ်ဆက်ပေးထားသော မိသားစုသည် ကျွန်တော့် အား သုံးလလျှင်တစ်ကြိမ်လောက် ဖိတ်ခေါ်ကျွေးမွေးပါ၏။ ထို အချိန်မျိုးတွင် အလွန်ဖော်ရွေကြ၏။ ထို့ကြောင့် ကျွန်တော်နှင့် အလွန်ခင်မင်သွားကြ၏။ တစ်ညနေတွင် ကျွန်တော် ကားလျှောက် မောင်းရင်း သူတို့အိမ်အနီးသို့ ရောက်သွားသဖြင့် ဝင်နှုတ်ဆက်၏။ ဤအခါတွင်ကား သူတို့၏ လုပ်ငန်းဆောင်တာများကို ရပ်ဆိုင်းပြီး ကြိုဆိုစကားပြောကြားရသဖြင့် မျက်နှာထားများမှာ မကြည်ကြလှ ချေ။ ကျွန်တော်သည်လည်း အနေခက်လှသောကြောင့် ခပ်မြန်မြန် နှုတ်ဆက်၍ ပြန်ထွက်လာခဲ့ရ၏။

ကျောင်းအားရက်များတွင် မြန်မာကျောင်းသားများစု၍ ကျွန် တော်တို့၏ ကိုယ်ပိုင်ကားများဖြင့် အမေရိကန်ပြည်အနှံ့ လိုက်လည် ပတ်ကြ၏။ လှပသည့်ရှုခင်းများ၊ ကြီးကျယ်သည့် အဆောက်အဦ များ၊ စည်ကားသောဈေးဆိုင်များ၊ ခမ်းနားသောပြတိုက်ကြီးများ စသည်တို့ကို လိုက်ကြည့်ကြ၏။ သို့သော် ဤရှုခင်းများနှင့် ခမ်းနား

ကြီးကျယ်မှုများသည် မြင်တွေ့ရဖန်များလာသောအခါ ရိုးသွားပြီး ငြီးငွေ့စရာဖြစ်လာကြ၏။ မိမိနှင့်ဘာမျှမဆိုင်ပါလားဟူသောခံစားမှုလည်း ဖြစ်ပေါ်လာ၏။ တက္ကသိုလ်တစ်ခုခု၌ ပညာသင်ကြားနေကြသည့်မြန်မာကျောင်းသားများနှင့် တွေ့ဆုံမိလျှင်ကား ပျော်မဆုံးဖြစ်ကြရတော့၏။

ထို့ကြောင့် အဆောက်အဦများ ကြီးကျယ်ခမ်းနားမှုထက် ခင်မင်ဖော်ရွေစွာ ကြိုဆိုဧည့်ခံမည့်သူရှိခြင်းက ခရီးသွားလာမှုကို ပို၍သာယာပျော်ရွှင်စေပါသည်။ ဤသည်လည်း မေတ္တာအလှက ခမ်းနားကြီးကျယ်မှုထက် ကျွန်တော်တို့၏ဘဝကို ပိုသာယာချမ်းမြေ့စေကြောင်း သက်သေထူလိုက်သောသာဓကတစ်ရပ်ပင်ဖြစ်ပေ၏။

၁၉၈၂ ခုနှစ်က ကျွန်တော်ဩစတြေးလျနိုင်ငံသို့ လေ့လာရေးခရီးထွက်ခဲ့ရ၏။ ဩစတြေးလျနိုင်ငံ၏စီးပွားရေးမြို့တော်ဖြစ်သော ဆစ်ဒနီမြို့ကြီးသည် ရန်ကုန်မြို့ကြီးထက် သုံးဆလောက်ပိုကြီးမည်ဟု ထင်ရ၏။ အလွန်ကြီးကျယ်ခမ်းနားပြီး အလွန်လှပသောမြို့ကြီးတစ်မြို့လည်း ဖြစ်၏။

ဆစ်ဒနီမြို့နေ မြန်မာမိတ်ဆွေတစ်ဦးက ဆစ်ဒနီမြို့၏ရှုခင်းများကို ကျွန်တော့်အား လိုက်လံပြသပြီး...

"ဆရာ...ဒီရှုခင်းအလှတွေကို အသည်းစွဲအောင်ကြည့်ထားနော်၊ ဘဝဆိုတာ ချိုမြတဲ့အမှတ်ရမှုကလေးတွေရဲ့ အပေါင်းအစုပဲမဟုတ်လား"

"Isn't life a collection of sweet memories?"

ကျွန်တော်က အဘိဓမ္မာသဘောဖြင့် စဉ်းစားရင်း ပြုံးပြလိုက်ပါ၏။

တစ်နေ့တွင် ဆစ်ဒနီမြို့ထဲ၌ရှိသော **'ဝတ်ဗုဒ္ဓရုံသီ'** အမည်ရှိသည့် ထိုင်းဘုန်းကြီးကျောင်း၌ ဩစတြေးလျန်းအမျိုးသား **မစ္စတာမတ် (Mr. Mark)** နှင့်တွေ့ဆုံရ၏။ မတ်က မြန်မာနိုင်ငံသို့ ရောက်ဖူးသူ တစ်ဦးဖြစ်၏။

"မင်းတို့မြန်မာပြည်ကို ငါ သိပ်သဘောကျတယ်ကွာ"

"ဘာတွေမြင်ခဲ့လို့ သဘောကျနေတာလဲ"

"ဟာ...နေဝင်ဆည်းဆာမှာ ရွှေတောင်ကြီးလို ဝါဝင်းနေတဲ့ ရွှေတိဂုံစေတီတစ်ဆူထဲကပဲ ကြည့်လို့မဝနိုင်အောင် ဖြစ်နေတယ်လေ၊ ပြီးတော့ မင်းတို့နိုင်ငံမှာ အနောက်တိုင်းယဉ်ကျေးမှုရဲ့လွှမ်းမိုးမှုက နည်းနေသေးတယ်၊ ပင်ကိုယဉ်ကျေးမှုတွေ ရှိသေးတယ်။ တို့က မြန်မာ့ယဉ်ကျေးမှုစစ်စစ်ကို မြင်ချင်နေကြတာ"

"သြော်...ဟုတ်ကဲ့"

"ကျွန် တော် မ မေ့ နိုင် တဲ့ အ ဖြစ် တစ် ခု ကို ပြော ပြ ဦး မယ် ဗျာ၊ မန္တလေး မဟာမြတ်မုနိဘုရားကို ကျွန်တော်သွားဖူးတော့ အပူရှပ်ပြီး ဖျားချင်ချင်ဖြစ်လာလို့ ဘုရားရင်ပြင်မှာ ခပ်ငိုင်ငိုင်ကလေး ထိုင်နေမိတယ်။ အနီးအနားက တန်ဆောင်းတစ်ခုမှာ စတုဒိသာအလှူပေးနေတာ တွေ့ရတယ်၊ လူတွေ ဝင်လိုက်ထွက်လိုက်, စားလိုက် ရယ်မောလိုက်နဲ့ အတော်ပျော်စရာကောင်းပုံရတယ်။ လာသမျှလူတွေကို ပျူပျူငှာငှာ ကျွေးမွေးနေတာဟာ ကျွန်တော့်အဖို့ အထူးအဆန်းဖြစ်နေလို့ ကျွန်တော်ကြည့်နေမိတယ်။

"မကြာခင် အမျိုးသမီးကြီးတစ်ယောက် ကျွန်တော့်ကို လာခေါ်လို့ ကျွန်တော်အားနာပါးနာနဲ့ လိုက်သွားတယ်၊ ကျွန်တော့်ကို စားပွဲ

မှာ ထိုင်ခိုင်းပြီး မုန့်ဟင်းခါးချကျွေးတယ်၊ မုန့်ဟင်းခါးက မြန်မာ ကြိုက် အစာကိုး။ ငရုတ်သီးလဲပါတယ်၊ ကျွန်တော်က နေမကောင်း လို့ မစားပါရစေနဲ့လို့တောင်းပန်လိုက်တယ်၊ 'ကော်ဖီနဲ့ပေါင်မုန့် သုံး ဆောင်မလား' လို့မေးတော့ ကျွန်တော်ခေါင်းညိတ်လိုက်ပါတယ်။

"မကြာမီ ကော်ဖီပူပူနဲ့ ပေါင်မုန့်နှစ်ချပ် ရောက်လာတယ်။ ကျွန် တော်တို့က ပေါင်မုန့်ကို ထောပတ်သုတ်ပြီးမှစားတတ်တော့ 'ထော ပတ် ရနိုင်မလား' လို့ ကျွန်တော်အမှတ်တမဲ့ပြောလိုက်မိတယ်။ 'ဟာ... ရပါတယ်' ဆိုပြီး ထောပတ်သွားယူပေးတယ်။ ကျွန်တော်စားသောက် နေတဲ့အခါ လူအများက ကျေနပ်စွာကြည့်ပြီး ပြုံးနေကြတယ်။ သူတို့ ရဲ့ဖော်ရွေမှုကြောင့် ကျွန်တော် အလွန်ပျော်ရွှင်သွားပါတယ်။ နောက် တော့မှ မြန်မာပြည်မှာ ထောပတ်ဈေးကြီးကြောင်းသိရလို့ ကျွန်တော် အလွန်အားနာသွားပါတယ်။

"ကျွန်တော်စားသောက်ပြီးတဲ့အခါ အမျိုးသားတစ်ယောက်က သူတို့အိမ်မှာ ရပ်နားတည်းခိုဖို့ဖိတ်ခေါ်ပါတယ်။ ကျွန်တော် လိုက် သွားတော့ အင်မတန်ဂရုစိုက်ပြီး ပြုစုကြတယ်။ မြန်မာတို့ရဲ့ဖော်ရွေ မှုကြောင့် မြန်မာနိုင်ငံက ကျွန်တော်မထွက်ခွာချင်အောင် ဖြစ်သွား ပါတယ်၊ ဗီဇာက ခုနစ်ရက်သာနေခွင့်ရတဲ့အတွက်ကြောင့် ကျွန်တော် ထွက်ခွာလာရပါတယ်။ နောင်နှစ်မှာ မြန်မာနိုင်ငံသို့ ကျွန်တော် တစ်ခါသွားဦးမယ်ဗျာ၊ မန္တလေးမြန်မာမိသားစုက ကျွန်တော်လာ ဖို့ ထပ်ဖိတ်ခေါ်နေပါတယ်"

မစ္စတာမတ်က ကျေနပ်စွာပြုံး၍ စကားကို အဆုံးသတ်လိုက်ပါ သည်။

"ဆစ်ဒနီမြို့ရှိ ထိုင်းဘုန်းကြီးကျောင်း၌ **စတီဗင်** (Mr. Steven)

အမည်ရှိသည့် ဩစတြေးလျန်းတစ်ယောက်ကိုလည်း တွေ့ဆုံရပါသည်။ သူက မြန်မာပြည်သို့အလည်အပတ်ရောက်ပြီး ရွှေတိဂုံဘုရားပေါ်မှာ ဓာတ်ပုံလိုက်ရိုက်နေသည့်အခါ ဘုရားဖူးလာကြသော သံတမန်အရောင်းဆိုင်မှ မြန်မာအမျိုးသမီးနှစ်ယောက်က သူ့ကိုပြုံးပြလိုက်၏။ သူက ဓာတ်ပုံရိုက်ခွင့်တောင်း၏။ သို့နှင့် ထိုအမျိုးသမီးနှစ်ဦးနှင့် သူသိကျွမ်းရင်းနှီးလာ၏။ အမျိုးသမီးတို့က သူ့အား ဖော်ဖော်ရွေရွေစကားပြောဆိုသည့်အပြင် လိုအပ်ရာရာကိုလည်း လိုက်ပါကူညီပေးကြသဖြင့် မေတ္တာပိုသူအမျိုးသမီးနှင့် စတီဗင်တို့ မေတ္တာယှက်နွယ်သွားမိကြ၏။

စတီဗင်သည် မြန်မာပြည်သို့ ဒုတိယတစ်ခေါက်ပြန်လာပြီးလျှင် ထိုအမျိုးသမီးနှင့် ပိုမိုရင်းနှီးခွင့်ရရုံမျှမက လက်ထပ်ဖို့ကတိကိုပင် တောင်းခံရရှိခဲ့သည်ဆို၏။ 'ဘုန်းကြီးကျောင်းသွားပြီး သီလဆောက်တည်တတ်အောင် လေ့ကျင့်ထားပါ'ဟု သူ့ချစ်သူက တိုက်တွန်းလိုက်သဖြင့် သူထိုင်းဘုန်းကြီးကျောင်းသို့ မကြာခဏလာရောက်ခြင်း ဖြစ်သည်ဟု သူက ဝမ်းမြောက်ဝမ်းသာပြောပြ၏။

မေတ္တာပန်းအလှကို ဆင်မြန်းထားတတ်ကြသော မြန်မာအမျိုးသမီးများသည် ဤကမ္ဘာတွင် မျက်နှာပန်းလှချေဦးမည်တကား။

ထို့အပြင် မြန်မာနိုင်ငံအလယ်ပိုင်းတွင် ဩစတြေးလျအစိုးရ၏ အကူအညီ အထောက်အပံ့ဖြင့် ကျေးရွာရေရရှိရေးစီမံကိန်းတွင် ပါဝင်ခဲ့သော **ဩစတြေးလျန်းအင်ဂျင်နီယာတစ်ဦး**ကိုလည်း ကျွန်တော်ဆုံတွေ့ခဲ့ရသေး၏။ သူပြောပြသည့်ဇာတ်လမ်းက...

"ကျွန်တော်တို့အဖော်သုံးယောက် အားလပ်တဲ့ရက်တစ်ရက်မှာ မာဇဒါဂျစ်တစ်စီးနဲ့ ရှမ်းပြည်နယ်ဘက်ကို တက်လည်ကြတယ်၊

တောင်ကြီးရယ်, အင်းလေးကန်ရယ် လည်ပတ်ပြီးတော့ ပြန်လာကြတယ်၊ ညနေစောင်း နေဝင်ရီတရောအချိန် ရောက်လာပြီ။ ပျော်ပျော်ပါးပါး စကားတပြောပြောနဲ့လာနေကြတုန်းမှာ ဗြုန်းဆို ကားစက်ဆိုက်န်သွားပါလေရော။ မိုးကလဲ ချုပ်တော့မယ်၊ ကားအသွားအလာကလဲ ပြတ်နေတယ်၊တောင်ပေါ်က တောလမ်းမှာဆိုတော့ကျွန်တော်တို့ နည်းနည်းစိုးရိမ်နေမိကြတယ်။

"မကြာမီ ထင်းစည်းကိုယ်စီနဲ့ လူသုံးယောက် ရောက်လာကြတယ်၊ ကျွန်တော်တို့မျက်နှာဖြူသုံးယောက် ဒုက္ခရောက်နေတာကိုတွေ့တော့ သူတို့က ကိုယ်လက်အမူအရာနဲ့ ရှေ့နားမှာ သူတို့ရွာ ရှိတယ်၊ ကားပေါ်တက်ကြပါ၊ သူတို့ကားတွန်းပေးလိုက်ရင် ရောက်သွားမယ်လို့ ပြောကြတယ်။ အဲဒါနဲ့ သူတို့ရွာဆီ ကျွန်တော်တို့ ရောက်သွားကြတယ်။ ရွာလူကြီးတွေကို သတင်းပို့တော့ လူကြီးတွေက ကျွန်တော်တို့စားသောက်ဖို့ ထမင်းဟင်းချက်ခိုင်းတယ်၊ ကြက်သားဟင်း, ချဉ်ပေါင်ဟင်းနဲ့ စားလို့မြိန်လိုက်တာဗျာ။ ညအိပ်ဖို့လဲ နေရာထိုင်ခင်းတွေ ကောင်းကောင်းမွန်မွန်စီစဉ်ပေးကြတယ်၊ နံနက်မိုးလင်းတော့ ကားစက်ဆိုက်ရာပေးပြီး နံနက်စာကျွေးပြီးမှ ကျွန်တော်တို့ကို သွားခွင့်ပြုကြတယ်ဗျာ။

"ကျွန်တော်တို့ ကမ္ဘာကိုပတ်ပြီး နိုင်ငံအတော်များများကို ရောက်ဖူးခဲ့ကြပြီ၊ ခင်ဗျားတို့မြန်မာတွေလောက် စိတ်ထားလှပပြီး ဖော်ရွေကြတဲ့လူမျိုးကို မတွေ့မြင်ခဲ့ကြရပါဘူးဗျာ"

မြန်မာနိုင်ငံတွင် **မေတ္တာအလှအပများ** ရှိနေသည်မှာ ဝမ်းသာစရာပါပေ။

*မဉ္ဇူသကနတ်ပန်းသည် ဟိမဝန္တာတောကြီးကို လှပ တင့်မောစေသကဲ့သို့ မေတ္တာပန်းအလှသည် ကမ္ဘာလောက ကြီးကို လှပဝေဆာ တင့်မောသာယာစေသည်တကား။*

## အလိုအပ်ဆုံးတရား

ယနေ့ကမ္ဘာတစ်လွှားတွင် မေတ္တာအလွန်ခေါင်းပါးနေသဖြင့် အကျည်းတန်မှုများ, အနိဋ္ဌာရုံများသည် အလျှိုလျှိုပေါ်ပေါက်နေကြ ၏။ စစ်ပွဲရမ္မက်များ၊ စစ်ပြေးဒုက္ခသည်များ၊ ရေဘေး, လေဘေး, ငတ် မွတ်ခေါင်းပါးသည့် ဘေးဆိုးကြီးများ စသည်တို့ကို နိုင်ငံမြောက်မြား စွာတွင် ကြုံတွေ့နေကြရပေ၏။

စစ်အသုံးစရိတ်များကို လူမှုရေးအသုံးစရိတ်ထက် ပိုမိုသုံးစွဲနေ ကြ၏။ ပိုမိုဆန်းကြယ်သည့် စစ်လေယာဉ်ပျံများ၊ စစ်သင်္ဘောကြီး များ၊ ဒုံးပျံများ၊ လက်နက်ကိရိယာဆန်းများကို အပြိုင်အဆိုင်တီထွင် နေကြ၏။ နိုင်ငံတစ်နိုင်ငံက လူနေမြို့ကြီးများကို ကျန်တစ်နိုင်ငံက အဏုမြူထိပ်ဖူးတပ်ဒုံးပျံများဖြင့် ချိန်ရွယ်ထားကြ၏။ ဝေဟင်မှာ ရော မြေပြင်မှာရော ရေအောက်မှာရော ကြောက်စရာအဏုမြူလက် နက်များကို အသင့်ပြင်ဆင်ထားကြ၏။

သုညနာရီ၌ ခလုတ်နှိပ်လိုက်ကြလျှင် ကမ္ဘာကြီး၏ကံကြမ္မာသည် မစဉ်းစားဝံ့လောက်အောင် အဖြစ်ဆိုးသွားမည်ဖြစ်သည်။

အဘယ်ကြောင့် ဤမျှတင်းမာနေကြရသနည်း။

တစ်ဦးနှင့်တစ်ဦး ယုံကြည်စိတ်ချမှုမရှိလောက်အောင် မေတ္တာ တရား ခေါင်းပါးနေသောကြောင့်ဖြစ်၏။

မေတ္တာ၏အာနိသင်ကိုသဘောပေါက်နားလည်ပြီး မေတ္တာတရားကို ရင်ဝယ်ပိုက်ထွေးကြမည်ဆိုလျှင် ကမ္ဘာကြီးသည် တစ်မုဟုတ်ချင်း ငြိမ်းချမ်းသာယာသွားပါလိမ့်မည်။

*ထိုအခါ ကြောင့်ကြစိုက်စရာ ပူပင်သောကရောက်စရာလည်း မရှိတော့။ နှစ်စဉ် စစ်ရေးအတွက်အသုံးပြုနေကြရသော ငွေဒေါ်လာကုဋေပေါင်းများစွာကို လူမှုရေးကိစ္စများ၌အသုံးပြုလိုက်လျှင် ကမ္ဘာတစ်ဝန်းလုံး စည်ပင်ဝပြောသာယာစိုပြည်သွားလိမ့်မည်ဖြစ်သတည်း။*

တစ်ခါက ကမ္ဘာကျော် ရုရှားစာရေးဆရာ **လီယိုတော်စတွိုင်း** သည် မိဘမဲ့သည့် မွေးခါစကလေးငယ်တစ်ဦးကို လေ့လာဖူး၏။ ထိုကလေးကို အိမ်နီးချင်းမိသားစုတစ်စုက ကောက်ယူကျွေးမွေးသဖြင့် ထိုကလေးလူလားမြောက်လာ၏။ သို့အတွက် လီယိုတော်စတွိုင်းက ဤသို့ကောက်ချက်ချလိုက်၏။

*"လောကမှာ မိဘမရှိရင့်လဲ အသက်ရှင်နိုင်တယ်၊ စားစရာ ဝတ်စရာ နေစရာမရှိရင်လဲ အသက်ရှင်နိုင်တယ်၊ မေတ္တာမရှိရင်တော့ အသက်မရှင်နိုင်ဘူး"* တဲ့။

ကျွန်တော် ဩစတြေးလျနိုင်ငံသို့ရောက်စဉ် စာသင်ကျောင်းများကိုပါ လိုက်လံကြည့်ရှုခွင့်ရခဲ့၏။ မူလတန်းကလေးသူငယ်များတွင် မိဘမဲ့ကလေး ၄၀ ရာခိုင်နှုန်းခန့်ပါရှိကြောင်းကို အံ့ဩစွာသိရှိရ၏။ အကြောင်းကို မေးမြန်းကြည့်သည့်အခါ ...

"ဩစတြေးလျနိုင်ငံမှာ အသက် ၁၅ နှစ်ပြည့်ပြီးတဲ့ ယောက်ျားကလေး, မိန်းကလေးများဟာ မိဘအထိန်းအကွပ်အောက်မှ ခွဲထွက်ပြီး သီးခြားနေထိုင်ခွင့်ရှိကြတယ်။ ဖို,မ ဆက်ဆံရေးကလဲ လွတ်လပ်တော့ အချို့အမျိုးသားများနဲ့ အမျိုးသမီးများတို့ဟာ လက်မထပ်

ဘဲ အတူနေကြတယ်။ ကလေးရပြီးတော့မှ အချို့က အတွဲပြောင်းကြတယ်။ အဲဒီအခါ ကလေးဟာ အဖေမဲ့ သို့မဟုတ် အမေမဲ့ သို့မဟုတ် မိဘမဲ့အခြေသို့ ရောက်သွားရပါတယ်”

“အဲသလို မိဘမဲ့ကလေးတွေဟာ မိဘစုံကလေးတွေလို ပျော်ရွှင်နိုင်ကြရဲ့လား”

“ကလေးငယ်တစ်ယောက်ဟာ သူမသိနားမလည်သေးတဲ့ လောကကို ရင်ဆိုင်ရမှာ ကြောက်နေတယ်၊ လူကြီးတွေတောင်မှ ကိုယ်မသိကျွမ်းတဲ့ လူစုလူဝေးထဲ ရုံးကနားထဲဝင်ရမှာကို ရှိုးတိုးရှန့်တန့် ဖြစ်နေကြသေးတာပဲ မဟုတ်လား။ အဲဒီတော့ ကြောက်နေတဲ့ ကလေးငယ်ဟာ အမိအဖရဲ့ရင်ခွင်မှာခိုလှုံပြီး မိဘတို့ရဲ့အားပေးမှုနဲ့ လောကကို တစ်စပြီးတစ်စ ရင်ဆိုင်ဝံ့လာကြတာ။ မိဘ မရှိတော့ မိုးခြိမ်းသံကြားလိုက်ရင်ပဲ ဘယ်မှာပုန်းအောင်းရမှန်း မသိရာတော့ဘူး။ ငယ်စဉ်ကတည်းက ကြောက်စိတ်မပြေဘဲ စိတ်အားငယ်ငယ်နဲ့ လောကကိုရင်ဆိုင်လာရတော့ ကြီးလာတော့လဲ ဆက်ပြီးကြောက်ရွံ့နေကြတာပေါ့။ စိတ်ပညာအရ ကလေးဟာ စိတ်ထိခိုက်သွားခဲ့ရလို့ ပုံမှန်မဖြစ်တော့ဘူး၊ ပုံမှန်ကလေးတွေလို မပျော်ရွှင်နိုင်ကြတော့ဘူးပေါ့”

အလွန်ချမ်းသာသည့်နိုင်ငံမှာ လူဖြစ်ရပါလျက် ဤလိုသည်းခြေပျက်ရသည့်အဖြစ်မျိုး ကြုံတိုးကြရသည်မှာ ကြေကွဲစရာကောင်းလှပေတော့၏။ ဩော်...သားသမီးများ ဘဝပညာပုံမှန်တိုးပွားရေး အတွက် မိဘမေတ္တာနှင့် ဆရာသမားတို့၏မေတ္တာသည် အလွန်လိုအပ်နေပါပကော။

**လိပ်မများ**သည် ပင်လယ်ကမ်းစပ်ရှိသဲသောင်ပြင်၌ ဥများကိုဥ

ပြီး သဲဖြင့်ဖုံးအုပ်ပြီးလျှင် ပင်လယ်ထဲသို့ဆင်း၍ အမြဲမပြတ်မေတ္တာပို့သကြ၏။ အကယ်၍ လိပ်မ သေဆုံးသွားသဖြင့် မိခင်၏မေတ္တာကို မခံယူရလျှင် လိပ်ဥများပုပ်သွားကြ၏။ သို့အတွက် လိပ်မကြီး၏ မေတ္တာသည် လိပ်ကလေးများပေါက်ဖွားလာရေးအတွက် အလွန်အရေးပါ၏။

ကြက်ငှက်များသည်လည်း ဥဥပြီးနောက် အမိက ဥပေါ်မဝပ်ပေးလျှင် ဥများပျက်စီးသွားကြ၏။ ဥများမှ အကောင်ကလေးများ ပေါက်လာသည့်အခါတွင်လည်း မိခင်က မစောင့်ရှောက်ဘဲ အစာရှာမကျွေးဘဲ ပစ်ပယ်ထားလျှင် အကောင်ကလေးများ သေဆုံးသွားကြဦးမည်ဖြစ်၏။

ကျွန်တော် ပညာရေးတက္ကသိုလ်၌ အမှုထမ်းနေစဉ်အခါက ဗုဒ္ဓဘာသာအသင်းအနေဖြင့် **စာရေးဆရာ ဒါရိုက်တာ ဦးသုခ** အား ဗုဒ္ဓဓမ္မအကြောင်း ဟောပြောပေးပါရန် ဖိတ်ကြားခဲ့၏။ ဦးသုခက 'အမေကျွေးသော ထမင်းတစ်လုတ်' အကြောင်းကို စိတ်ဝင်စားဖွယ်ရာ ဟောပြော၏။

ဦးသုခငယ်ရွယ်စဉ်က 'မအေတစ်ခု သားတစ်ခု' အဖြစ်နှင့် အမေက ရှာဖွေကျွေးမွေးခဲ့၏။ ဦးသုခ လူလားမြောက်သောအခါ စာရေးဆရာဘဝဖြင့် အသက်မွေးရန် ရန်ကုန်သို့ထွက်ခွာလာ၏။ ထိုအခါ မိခင်မှာ တစ်ဦးတည်းကျန်ရစ်ပြီး ဝမ်းနည်းပူဆွေးနေ၏။ ဦးသုခသည် ကလောင်စမ်းနေသည့်အချိန်ဖြစ်၍ တစ်နှစ်ကျော်အထိ အောင်မြင်မှုမရဘဲ လုံးလည်လိုက်နေ၏။ သူစိတ်ညစ်နေသည့်အတွက် မိခင်အား သတိရသော်လည်း မိခင်ထံသို့စာမရေးဖြစ်ပါ။ မိခင်က သားအား တမျှော်မျှော်နှင့် ပူပင်သောကသာ ပွားများနေ၏။

တစ်နေ့တွင် စာမူတစ်ခုမှရသည့်ငွေအနည်းငယ်ဖြင့် မိခင်အတွက် မုန့်နှင့်သစ်သီးများဝယ်၍ ဇာတိမြို့သို့ပြန်သွား၏။ မိခင်ကြီးမှာ သား ကိုမြင်တွေ့ရသည့်အခါ ဝမ်းသာလုံးဆို့၍ မျက်ရည်များယိုစီးကျလာ၏။

*"သားတို့ရပ်ရည်၊ သီတာမည်သည်၊ ရေကြည်ချမ်းမြ၊*
*တစ်ပေါက်ကျက၊ မိဘတို့ဝမ်း ငြိမ်းစတမ်း"*

ထိုအခါ ဦးသုခသည် မိခင်အား စာမရေးဘဲနေခဲ့မိသည်ကို အထူး နောင်တရမိ၏။ မိခင်ဖြေဆည်သာအောင် စိတ်ချမ်းသာအောင် စာ မရေးသားမိခြင်းသည် မိခင်၏ကျေးဇူးကို မေ့ထားရာရောက်ခဲ့၏။ နောင်တွင် မိမိအောင်မြင်သော်ရှိ၊ မအောင်မြင်သော်ရှိ မိခင်ကိုကား အမြဲတစေ စိတ်ချမ်းသာအောင် အကျိုးအကြောင်းပြောဆို၍နေ ထိုင် သွားတော့မည်ဟုလည်း ဆုံးဖြတ်လိုက်၏။

မိခင်စိတ်ချမ်းသာ၍ မိခင်ပို့သသောမေတ္တာကို ခံယူရ၍ပေလော မသိ၊ ထိုသည့်နောက်၌ ဦးသုခသည် သိသိသာသာအောင်မြင်ပေါက် မြောက်လာပြီးလျှင် နိုင်ငံကျော်စာရေးဆရာနှင့် အကယ်ဒမီ လေး ထပ်ကွမ်း ဒါရိုက်တာကြီးဖြစ်လာသည်အထိ အောင်မြင်ကျော်စော ခဲ့လေ၏။

*ဆားမပါသောဟင်းသည် အရသာမရှိ။*
*မေတ္တာကင်းသောဘဝသည် သာယာစိုပြည်ခြင်းမရှိ။*

မေတ္တာခြယ်သလိုက်သည်နှင့်တစ်ပြိုင်နက် ခရောင်းတောသဖွယ် မွဲခြောက်နေသည့် ကမ္ဘာလောကကြီးသည် မြူးကြွပျော်ရွှင်ဖွယ် ကောင်းသော ဆေးရောင်စုံဇာတ်ကားကြီးဖြစ်လာပေတော့သတည်း။

## မျက်လှည့်ပြသောမေတ္တာ

တက္ကသိုလ်ပြည်၌ ဂန္ဓာရမင်းထီးနန်းစိုးစံစဉ် ဘုရားလောင်းသည် နွားမျိုး၌ဖြစ်ရ၏။ နွားပိုင်ရှင်ပုဏ္ဏားသည် ဘုရားလောင်းနွားငယ်အား **'နန္ဒိဝိသာလ'** ဟုအမည်ပေး၍ ယာဂုထမင်းစသည်တို့ဖြင့် ကျွေးမွေး၏။ နန္ဒိဝိသာလသည် ခွန်အားဗလနှင့်ပြည့်စုံသော နွားလားဥသဘအဖြစ်သို့ ကြီးပြင်းလာ၏။

ထိုအခါ ပုဏ္ဏားကြီးအား မွေးကျေးဖူးကိုဆပ်လိုသည်ဖြစ်၍–

"သခင်ပုဏ္ဏား၊ ဂေါဝိတ္တကသူဌေးထံသို့ သွားပါလော့။ ငါ့နွားသည် ဝန်တင်ထားသည့်လှည်းတစ်ရာကို ဆွဲနိုင်သည်ဟုပြောဆိုပြီး အသပြာတစ်ထောင်ဖြင့် အလောင်းအစားပြုလော့" ဟု တိုက်တွန်း၏။

ပုဏ္ဏားကြီးသည် ဂေါဝိတ္တကသူဌေးထံသို့သွားပြီး အလောင်းအစားပြု၏။ ပုဏ္ဏားသည် သဲ၊ ကျောက်စရစ်စသည်တို့ဖြင့် ပြည့်နေသော လှည်းအစီးတစ်ရာတို့ကို မိမိ၏နွားလားဖြင့်ဆွဲငင်ရန် ပြင်ဆင်၏။ ပြီးစီးကုန်သည့်အခါ ပုဏ္ဏားသည် လှည်းဦး၌ထိုင်၍ နှင်တံကို မြှောက်လျက်

"ဟဲ့...ကောက်ကျစ်တဲ့နွား...သွားစမ်းဟဲ့၊ ဟဲ့...ကောက်ကျစ်တဲ့နွား...ဝန်ဆောင်စမ်းဟဲ့" ဟု အော်ဟစ်၏။

နန္ဒိဝိသာလသည် မေတ္တာကင်းမဲ့စွာ ဆဲရေးသော ကြိမ်းမောင်းသံကို ကြားလေလျှင် ဝမ်းနည်းကြေကွဲသဖြင့် နေရာမှမရွေ့ဘဲ စုံရပ်နေလေ၏။ သို့အတွက် ပုဏ္ဏားငွေတစ်ထောင်ရှုံးသွားလေ၏။

ပုဏ္ဏားသည် စိတ်လက်မကြည်သာဘဲ မှိုင်တွေနေသည်ကို နန္ဒိဝိသာလ မြင်လေလျှင် သခင်အား နောက်ထပ်စကားဆိုပြန်လေ၏။

"အရှင်ပုဏ္ဏား၊ အကျွန်ုပ်သည် သင့်အိမ်ခြံတွင် နေစဉ်ကာလ အတွင်း၌ သင့်ဥစ္စာပစ္စည်းများကို နင်းချေဖျက်ဆီးခဲ့ဖူးခြင်းရှိပါ သလော"

"ချစ်သား... မရှိဖူးပါ"ဟု ပုဏ္ဏားက ဖြေ၏။

"သို့ဖြစ်ပါလျက် အဘယ်ကြောင့် အကျွန်ုပ်အား ကောက်ကျစ် တဲ့နွားဟု ခေါ်ရသနည်း။ အရှင်ပုဏ္ဏား...ဂေါဝိတ္တကသူဌေးထံ သွား ပါဦးလော့။ အသပြာနှစ်ထောင် လောင်းကြေးကို ပြုပါလော့။ အ ကျွန်ုပ်အားမူ ကောက်ကျစ်တဲ့နွားဟူသောစကားဖြင့် မခေါ်ဝေါ်ပါ လင့်"ဟု မှာကြား၏။

ပုဏ္ဏားသည် ဒုတိယမ္ပိ အလောင်းအကြေးပြုပြန်၏။ ဤအကြိမ် တွင် အသပြာနှစ်ထောင် လောင်းကြ၏။ နန္ဒိဝိသာလအား ဝန်တင် ထားသည့် လှည်းတစ်ရာတို့ကို ဆွဲစေရန် အသင့်ပြင်ထားကြပြန်လေ ပြီ။

ပုဏ္ဏားသည် လှည်းဦး၌ထိုင်၍ "ချစ်သား...ရန်းပါလေလော့။ လိမ္မာသောနွား...ဝန်ကိုဆောင်ပါလော့"ဟု ချိုသာစွာပြော၍ မောင်း နှင်၏။

မေတ္တာယှဉ်သည့်စကားကြောင့် နန္ဒိဝိသာလသည် သဘောတွေ့ သွားလျက် အတင်းရုန်းကန်လေ၏။ ဝန်တင်ထားသော လှည်းတန်း ကြီးသည် တအီအီ တကျိကျိမြည်၍ ဘီးလိမ့်လာကြပြီးလျှင် နောက် ဆုံးလှည်းက ပထမဦးဆုံး လှည်းရပ်ခဲ့သည့်နေရာသို့ ရောက်သည့် တိုင်အောင် လှည်းတန်းရှည်ကြီး ရွေ့သွားလေ၏။

ဂေါဝိတ္တကသူဌေး ရှုံးနိမ့်သွားသဖြင့် ပုဏ္ဏားကြီးအား ငွေနှစ် ထောင် အလျော်ပေးလိုက်ရလေ၏။

မေတ္တာကင်းမဲ့သည့် ဆဲဆိုသံများကို တိရစ္ဆာန်များသော်မှ မနှစ်သက်ကြချေ။ လူလူချင်းကား အဘယ်ဆိုဖွယ်ရာရှိတော့အံ့နည်း။ မေတ္တာရောစွက်၍ ချိုသာသောစကားကို ပြောဆိုလိုက်သည့်အခါ၌ကား ခွန်အားတိုး၍ အရှုံးမှအနိုင်သို့ ပြောင်းလဲသွားစေတော့၏။

**'နွတ်ချို သျှိုတစ်ပါး'** ၊ မေတ္တာသည် အကောင်းဆုံးအားဆေးပါတကား။

**အမေရိကန်လယ်သမား** တစ်ဦးသည် သူဝယ်ယူလိုက်သည့် လယ်ကွက်ကြီး၏ ခြံစည်းရိုးကို လျှောက်ကြည့်၏။ တစ်နေရာ၌ တစ်ဖက် လယ်ကွက်မှလယ်သမားက သူ့အားလာ၍တွေ့ဆုံပြီး စကားဆိုလိုက်၏။

"ဗျို့…ခင်ဗျားက ဒီလယ်ကွက်ရဲ့ပိုင်ရှင်အသစ်နဲ့တူတယ်၊ ခင်ဗျားကို ကျွန်ုပ်စောစောစီးစီး အသိပေးလိုက်ပါရစေ။ ဒီလယ်ကွက်ကို ခင်ဗျားဝယ်ယူလိုက်တဲ့အချိန်မှာ ကျွန်ုပ်နဲ့ တရားရုံးမှာရင်ဆိုင်ဖို့ တရားမမှုတစ်ခုကိုပါ ဝယ်ယူလိုက်တဲ့အကြောင်းပဲဗျ"

"ဟာ…ဘယ်လိုဖြစ်လို့လဲမိတ်ဆွေ"

"ဒီလိုဗျ…ခင်ဗျားခြံစည်းရိုးက ကျုပ်လယ်ထဲကိုသုံးကိုက် ကျူးကျော်ဝင်ရောက်နေတယ်ဗျ"

"ဟာဗျာ… ဖြစ်မှဖြစ်ရလေ၊ ကျွန်တော်က မိတ်ဆွေကောင်း လယ်နီးချင်းများနဲ့ တွေ့ဆုံရမယ်လို့ မျှော်လင့်ထားတာဗျာ၊ ဘာပဲဖြစ်ဖြစ်လေ…ကျွန်တော့်မျှော်လင့်ချက်အတိုင်းဖြစ်အောင် ကျွန်တော်ကြိုးစားလုပ်ရမှာပဲ။ ဒီကိစ္စမှာ ခင်ဗျားလဲ ကျွန်တော့်မိတ်ဆွေသစ် တစ်ယောက်အနေနဲ့ ကူညီပေးပါ။ ခြံစည်းရိုးကို မိတ်ဆွေရှိစေ

ချင်တဲ့နေရာဆီ ရွှေ့လိုက်ပါနော်။ ကုန်ကျစရိတ်တောင်းခံလွှာကို ကျွန်တော့်ဆီ ပို့ပေးပါ၊ ကျွန်တော်ပေးချေပါ့မယ်ဗျာ”

“အင်း... ကြည့်သေးတာပေါ့”

ထိုခြံစည်းရိုးကို မရွှေ့ဖြစ်တော့ပါချေ။ **‘တစ်ဦးမေတ္တာ တစ်ဦးမှာ’** ဆိုသလို လယ်ပိုင်ရှင်သစ်၏ မေတ္တာလှိုင်း ရိုက်ခတ်မှုကြောင့် တရားစွဲလိုသော လယ်သမား၏ စိတ်ဓာတ်သည် ပြောင်းလဲသွားပေ၏။ ကတ်သီးကတ်သတ်လုပ်ချင်သော သူ့စရိုက်ကို အကုန်အစင် မစွန့်ပစ်နိုင်သော်လည်း ခင်မင်တတ်သည့် မိတ်ဆွေကောင်း တစ်ယောက်ကား ဖြစ်လာတော့၏။



အမေရိကန်ဖခင်တစ်ဦးသည် **ပက်** နှင့် **ပက်ဂီ** (Pat and Peggy) အမည်ရှိကြသည့် သူ၏ သမီးနှစ်ဦးကို တောင်အမေရိကတိုက်မှ ပြန်ခေါ်၍ သူနေထိုင်သည့် ရပ်ကွက် စာသင်ကျောင်း၌ အပ်နှံ၏။ ဤကျောင်းသူငယ်နှစ်ဦးသည် တောင်အမေရိကတိုက်၌ အနေကြာသွားခဲ့ကြသဖြင့် သူတို့၏ စကားပြောပုံမှာ အမေရိကန်အင်္ဂလိပ်အသံနှင့် စပိန်ဘာသာအသံတို့ ရောစပ်နေ၏။

ဤစကားသံဝဲသည်ကို အကြောင်းပြု၍ အတန်းဖော်များက ပြောင်လှောင်ကြ၏။ ထိုနောက်ပြောင်သည့်အဖွဲ့၏ ခေါင်းဆောင်မှာ **‘လော်လာ’** (Lolla) ဆိုသည့်သူငယ်မ ဖြစ်၏။ လော်လာသည် အတန်းဖော်များထက် ပို၍အသက်ကြီးပြီး ကိုယ်လုံးကိုယ်ပေါက်လည်း ပိုကြီးထွားး၏။ ရုပ်ရည်ကြမ်းတမ်းပြီး နှုတ်အဆိုလည်း အလွန်ကြမ်း၏။

လော်လာဦးဆောင်သည့် အကြမ်းဖက်နောက်ပြောင်ဂိုဏ်း၏

အကြင်နာကင်းမဲ့သော ခနဲ့တဲ့တဲ့ပြုလုပ်မှုများကြောင့် ပက်နှင့်ပက်ဂီတို့သည် နေ့စဉ်အိမ်သို့ငိုယိုပြီးပြန်လာကြရ၏။ ဖခင်က စိတ်မချမ်းသာပါ။ သမီးများ ရွှင်လန်းလာအောင် အကြံထုတ်၍ အဆိုတစ်ခုကို တင်ပြလိုက်၏။

"သမီးတို့...တို့ပါတီ (ညစာစားပွဲ) တစ်ခု လုပ်ကြရအောင်"

ပက်နှင့်ပက်ဂီတို့၏ မျက်ရည်များသည် ချက်ချင်းခန်းခြောက်သွားကြ၏။ ပြီးတော့ သူတို့ အားရပါးရထောက်ခံလိုက်ကြ၏။

"ကောင်းတယ်ဒက်ဒီ၊ ရေခဲမုန့်ရယ်, ကိတ်မုန့်ရယ်, အနီရောင်ပူဖောင်းကြီးတွေရယ်..."

"အေး...သူငယ်ချင်းတွေရယ်ပေါ့ကွယ်"

ဖခင်၏ဤစကားကြောင့် သူငယ်မနှစ်ဦး၏ပါးပြင်များပေါ်သို့ မျက်ရည်ဥများ လိမ့်ဆင်းလာကြပြန်၏။

"ကျွန်မတို့မှာသူငယ်ချင်းတွေမှမရှိဘဲ"ပက်က ညည်းညူလိုက်၍

"ရန်သူတွေပဲ ရှိတာ..." ပက်ဂီက ငိုသံနှင့်ထပ်ဆင့်ပြောလိုက်၏။

"ကောင်းပြီ၊ တို့ရန်သူညစာစားပွဲလုပ်ကြရအောင်။ မင်းတို့ရဲ့ ရန်သူတွေအားလုံးကို ဖိတ်ကြားတာပေါ့၊ အထူးသဖြင့် အဆိုးဆုံးရန်သူတွေကို ဦးစားပေးပြီး ဖိတ်ကြရမယ်။ သူတို့ရဲ့ဝမ်းဗိုက်တွေကို ရေခဲမုန့်တွေ ကိတ်မုန့်တွေနဲ့ဖြည့်ပေးကြရအောင်။ ပြီးတော့ သူတို့အိမ်ယူသွားဖို့ ပူဖောင်းနီနီကြီးတွေ ပေးလိုက်ကြရအောင်လေ"

ဖခင်၏အကြံပြုချက်ကြောင့် ပက်နှင့်ပက်ဂီတို့ တစ်ဦးကိုတစ်ဦး ကြည့်ပြီး ပြုံးလာကြ၏။

ထိုညစာစားပွဲတွင် ပက်နှင့်ပက်ဂီတို့အား နောက်ပြောင်ခဲ့ကြသော

လူစုသည် အသူးပျော်ရွှင်မြူးခုန်ကြလေ၏။ အဆိုးဆုံးရန်သူဖြစ်ခဲ့သည့် လော်လာမှာ အမြူးထူးဆုံးဖြစ်ပေ၏။ လော်လာသည် ရွှင်မြူးစွာအော်ဟစ်ပြီး ကြမ်းပြင်ပေါ်တွင် ကိုယ်ကိုပစ်လှဲကာ လူးလှိမ့်လေ၏။

ထိုညှော့ခံပွဲ အောင်မြင်စွာပြီးဆုံးသည့်နောက်တွင် ပက်နှင့်ပက်ဂီတို့သည် မည်သည့်အခါမျှ ငိုပြန်လာရသည်မရှိတော့ပါ။ သူတို့အား နှောက်ပြောင်ခဲ့ကြသည့်ရန်သူများသည် သူတို့၏မိတ်ဆွေများ ဖြစ်သွားကြ၏။ အထူးသဖြင့် လော်လာမှာ သူတို့အား ကာကွယ်ပေးသူဖြစ်လာ၏။ တစ်စုံတစ်ယောက်က ပက်နှင့်ပက်ဂီတို့ကို ရန်စမည်ကြံလျှင် ထိုသူအား လော်လာက အပြတ်ချိုးနှိမ်လိုက်ပေတော့၏။

တစ်နေ့တွင် လော်လာ၏ဖခင်သည် ပက်နှင့်ပက်ဂီတို့၏ဖခင်ထံ လာရောက်နှုတ်ဆက်၏။

"ခင်ဗျားတို့ရဲ့ညှော့ခံပွဲကိုတက်ဖို့ ကျွန်တော့်သမီးကို ဖိတ်ကြားတာ သိပ်ကျေးဇူးတင်တယ်ဗျာ၊ ဒါနဲ့ဗျာ...ကျွန်တော့်သမီးကို ခင်ဗျားတို့ ဘာကြောင့်ဖိတ်ခေါ်ရတာလဲ"

"ဟာ...ဘာကြောင့်မဖိတ်ခေါ်ဘဲနေရမှာလဲဗျာ၊ ခင်ဗျားရဲ့သမီးက အင်မတန်ကြံ့ခိုင်တဲ့ နိုင်ငံသူကောင်းတစ်ယောက်ပဲဟာ။ သူလဲ အခြားကလေးမတွေလို ရေခဲမုန့် ကိတ်မုန့်နဲ့ ပူဖောင်းနီနီကြီးတွေကို ကြိုက်တာပဲဗျာ၊ မဟုတ်ဘူးလား"

"အို...သိပ်ဟုတ်တာပေါ့၊ ဒါပေမဲ့ ခင်ဗျားကို တစ်ခုပြောပြရဦးမယ်၊ အရင်တုန်းကဆိုရင် ဘယ်သူကမှ ကျွန်တော့်သမီးကို ပါတီပွဲလာဖို့ မဖိတ်ကြားဘူးဗျ၊ အဲဒါ ဘာကြောင့်လဲ"

အလွန်ကောင်းသည့်မေးခွန်းတစ်ခုပါပေ။ လော်လာကို မဖိတ်

ကြားဘဲ ချန်လှပ်ခဲ့ကြသည်မှာ လော်လာက ရန်သူဖြစ်နေလို့လား။ သို့မဟုတ် လော်လာကို မဖိတ်ကြားဘဲ ချန်လှပ်ခဲ့ကြလို့ လော်လာဟာ ရန်သူဖြစ်လာတာလား။

ဘာသာရေးခေါင်းဆောင်ကြီးများက ရှေးပဝေသဏီကပင် အဖြေပေးခဲ့ကြ၏။

*"သင့်ရဲ့ ရန်သူများကို ချစ်ပါ၊ သင့်အား ဖိနှိပ်ချုပ်ချယ်သူများကို ဘေးရန်ကင်းအောင် ဆုတောင်းပေးပါ၊ သင့်အား မုန်းတီးသူများရဲ့ အကျိုးကို ထမ်းဆောင်ပေးပါ"* ဟူ၍ ဖြစ်သတည်း။

အထက်ပါ အကြံပြုချက်အတိုင်း အဆွေဆောင်ရွက်လျှင် ရန်သူသည် ဘာလုပ်ရမှန်းမသိအောင် ရှုးလုမတတ် ခေါင်းရှုပ်သွားလိမ့်မည်။ နောက်ဆုံးတွင် အဆွေအား ချစ်ကြည်လာမည်ဖြစ်သတည်း။

အထက်ပါ အမေရိကန်ပြည်မှဖြစ်ရပ်နှစ်ခုမှာ ၁၉၇၃ ခုနှစ် ဧပြီလထုတ် **Reader's Digest** တွင်ပါသော ဖြစ်ရပ်မှန်များဖြစ်ကြ၏။ မေတ္တာသည် ဇော်ဂျီတောင်ဝှေးပမာ မျက်လှည့်ပမာ ရန်သူကို မိတ်ဆွေဖြစ်လာအောင် ထူးထူးခြားခြားပြောင်းလဲစေနိုင်သော အစွမ်းသတ္တိရှိကြောင်းကို ဖော်ကျူးထားခြင်းဖြစ်ပေသတည်း။

## အကြီးကျယ်ဆုံးသောစွမ်းအား

မေတ္တာသည် လောကီနယ်၌ အကြီးကျယ်ဆုံးသောစွမ်းအား ဖြစ်၏။ အမျက်ဒေါသသည် လောက၌ အဖျက်ဆီးတတ်ဆုံးတရားဖြစ်သည်ကို ဖော်ပြခဲ့ပြီးဖြစ်၏။ ထိုဒေါသကို အောင်နိုင်စွမ်းသောမေတ္တာသည် ကေန်စင်စစ် စွမ်းအင်ကြီးမားလှပေတော့၏။

မေတ္တာ၏ စွမ်းအားကြောင့် ရန်သူသည် မိတ်ဆွေအဖြစ်သို့ ကူး ပြောင်းသွား၏။ ပရမ်းပတာဖြစ်နေသော လောကကြီးသည် စည်း လုံးညီညွတ်သွား၏။ ထိုးဖောက်ရန်ပြေးလာသော ဆင်ပြောင်ကြီးသည် ရုတ်ခြည်းရပ်တန့်သွား၏။ အရှိန်ပြင်းစွာ ပစ်လွှတ်လိုက်သော မြား ဦးသည် ပစ်သူထံသို့ပြန်လှည့်လာ၏။ အမျက်ခြောင်းခြောင်းထွက် နေသော ဘီလူးကြီးသည်ပင် ဦးညွှတ်တုပ်ဝပ်ရ၏။

လူသားတို့က မေတ္တာကိုမြတ်နိုး၍ မေတ္တာ၏ စွမ်းအားကို အသုံး ချတတ်ကြမည်ဆိုလျှင် လူ့လောကကြီးသည် ချက်ချင်းငြိမ်းချမ်း သာယာပြီး လောကနိဗ္ဗာန်ကြီးဖြစ်သွားပေလိမ့်မည်။ ထိုအခါ သူခိုး ဓားပြများကိုလည်း မကြောက်ရ။ အဏုမြူစစ်ကြီးကိုလည်း မစိုးရွံ့ ရ။ စားဝတ်နေရေးအတွက်လည်း လုံးဝပူပင်စရာမလိုတော့ပါ။

အိန္ဒိယနိုင်ငံသမိုင်းတွင် အကြီးကျယ်ဆုံးသောမင်းတရား ဖြစ် တော်မူသည့် **အသောကမင်းကြီး**သည် သာသနာတော်နှစ် ၂၁၄ ခုနှစ် တွင် နန်းတက်ပြီး လေးနှစ်တိုင်တိုင် စစ်ပွဲကြီးများကို အဆက်မပြတ် ဆင်နွှဲခဲ့၏။ ကလိင်္ဂစစ်ပွဲကြီးတွင် လူထောင်ပေါင်းများစွာ သေကျေ ပျက်စီးကြရ၏။ ဒေါသ၏ အတိုင်းအဆမရှိ ဖျက်ဆီးနိုင်သော စွမ်း အားကို သင်ခန်းစာယူသင့်လှပေ၏။

အသောကမင်းကြီးသည် နန်းတက်ပြီးသည်မှစ၍ သုံးနှစ်တိုင် တိုင် ခမည်းတော်၏ အရိုက်အရာဖြစ်သော တိတ္ထိခြောက်သောင်းတို့ အား နန်းတော်၌ နေ့စဉ်ဝတ်မပျက် ဆွမ်းကျွေးခဲ့၏။ တစ်နေ့တွင် ဣန္ဒြေအလွန်တည်ငြိမ်သော တူတော်သူ **နိဂြောဓသာမဏေ** ၏ အပ္ပ မာဒသတိပဋ္ဌာန်တရားတော်ကို နာကြားရသဖြင့် မင်းကြီးသည် သမ္မာ ဒိဋ္ဌိဟူသည့် ဖြောင့်မှန်သောအယူ၌ တည်လာလေ၏။

ထို့နောက် ကလိင်္ဂစစ်ပွဲကြီး၏ အနိဋ္ဌာရုံမြင်ကွင်းကြောင့် မင်းကြီးသည် အထူးသံဝေဂရကာ ဗုဒ္ဓမြတ်စွာ၏ မေတ္တာဝါဒ၌ လေးလေးနက်နက် သက်ဝင်ယုံကြည်လာ၏။ ထိုအခါ စစ်ပွဲကြီးများအားလုံးကို ရပ်ဆိုင်းပြီး မေတ္တာဝါဒကို လက်တွေ့ကျင့်သုံးသဖြင့် ဇမ္ဗူဒီပါတစ်ကျွန်းလုံးသည် အေးချမ်းသာယာစည်ပင်ဝပြောလာတော့၏။

အသောကဘုရင်သည် သိန်းပေါင်းများစွာသော သံဃာတော်များအတွက် မြို့ရွာပေါင်း ၈၄,၀၀၀ တို့၌ ကျောင်းပေါင်း ၈၄,၀၀၀ နှင့် စေတီပေါင်း ၈၄,၀၀၀ တို့ကို တည်ဆောက်ရန် အသပြာငွေပေါင်း ၉၆–ကုဋေကို ပေးအပ်လှူဒါန်းခဲ့၏။ ထို့အပြင် မိမိတစ်နေ့တာရရှိသော ဝင်ငွေအသပြာငွေ ငါးသိန်းစလုံးကို သာသနာတော်အား နေ့စဉ်လှူဒါန်းလေ၏။

အသောကမင်းမြတ်သည် အရှင်မောဂ္ဂလိပုတ္တတိဿသံဃမထေရ်ကြီးထံမှ ဗုဒ္ဓဝါဒနှင့်စင်ပြိုင် မိစ္ဆာအယူဝါဒများကို ကောင်းစွာသင်ယူပြီးလျှင် ရဟန်းယောင်တိတ္ထိခြောက်သောင်းတို့အား လူဝတ်လဲစေ၏။ သာသနာတော်သန့်ရှင်းရေးကို ကိုယ်တော်တိုင် ဆောင်ရွက်တော်မူသဖြင့် သံဃာတော်ခြောက်သန်းတို့သည် သန့်ရှင်းစွာ ဥပုသ်ပဝါရဏာပြုကြရ၏။

ထို့အပြင် မင်းကြီး၏အထောက်အပံ့ဖြင့် သံဃာတော်များသည် သာသနာတော်နှစ် ၂၃၅–ခုတွင် တတိယအကြိမ်သင်္ဂါယနာတင်ကြပြီးလျှင် ကိုးတိုင်းကိုးဌာနသို့ သာသနာပြုအဖွဲ့များကို စေလွှတ်တော်မူကြ၏။ ထိုကိုးတိုင်းကိုးဌာနတွင် အိန္ဒိယနိုင်ငံ၌ ခုနစ်ဌာနနှင့် သီရိလင်္ကာနိုင်ငံ, မြန်မာနိုင်ငံတို့ ပါဝင်ကြ၏။ အိန္ဒိယနိုင်ငံတွင် ဗုဒ္ဓသာ

သနာ မေးမှိန်လာသည့်အခါ သီရိလင်္ကာနှင့်မြန်မာနိုင်ငံတို့၌ သာသနာတော် ထွန်းလင်းတောက်ပလာ၏။

သို့အတွက် ဘုရင်တစ်ပါး၏ မေတ္တာဝါဒကြောင့် သန်းပေါင်းများစွာသော ရဟန်းရှင်လူတို့ ချမ်းသာသုခရကြပြီးလျှင် ဗုဒ္ဓသာသနာတော်သည်လည်း ရှည်ကြာလေးမြင့်စွာ သန့်ရှင်းတည်တံ့စည်ပင်တိုးပွားနိုင်ခဲ့လေသတည်း။

## အရှုံးမှအနိုင်သို့

မေတ္တာရှင်ကို ရန်မူ၍မရနိုင်။ အနိုင်ကျင့်သော် အနိုင်ယူသူက တစ်ဖန်အရှုံးပေးရစမြဲတည်း။

ရှေးသရောအခါ ဗာရာဏသီပြည်၌ ဘုရားအလောင်းတော် **ဃဋမင်း** သည် တရားနှင့်အညီ စိုးစံအုပ်ချုပ်နေ၏။ တစ်နေ့တွင် နန်းတွင်း အမှုဆောင်ရွက်သော အမတ်တစ်ယောက်သည် ပြစ်မှုကျူးလွန်သဖြင့် တိုင်းပြည်မှအနှင်ထုတ်ခံခဲ့ရ၏။

ထိုအမတ်သည် ဃဋမင်းနှင့် ထီးပြိုင်နန်းပြိုင်ဖြစ်သော သာဝတ္ထိပြည် **ဝင်္ကမင်း**ထံသို့သွားရောက်ခစားပြီးလျှင် ထိုမင်းအား ဗာရာဏသီပြည်ကို တိုက်ခိုက်သိမ်းပိုက်ယူရန် အကြံပေးတိုက်တွန်းလေ၏။

အချိန်မကြာမြင့်မီမှာပင် ဝင်္ကမင်းသည် ဗာရာဏသီပြည်ကိုသိမ်းပိုက်လိုက်ပြီးလျှင် ဃဋမင်းအား သံခြေချင်းခတ်၍ နှောင်အိမ်အချုပ်တွင်း၌ သွင်း၍ထားစေ၏။

ပါရမီရှင်သူတော်ကောင်းတို့သည် မည်သို့ဆိုးဝါးသော လောကဓံတရားနှင့် ကြုံတွေ့ရစေကာမူ တုန်လှုပ်ချောက်ချားခြင်းမရှိ၊ စိုးရိမ်

ပူပန်ခြင်းမရှိ၊ အရှုံးထဲမှ အမြတ်ထွက်အောင် ကြံဖန်နေထိုင်ကြမြဲတည်း။

"ငါသည် ယခုအခါ တိုင်းရေးပြည်ရေးကိစ္စများမှ အနားရကာ အေးအေးချမ်းချမ်း ဘာဝနာပွားများနိုင်ပေပြီ။ ဓေံမင်းအား အထူးကျေးဇူးတင်ဖွယ်ကောင်းလှပေ၏"

ဤသို့နှလုံးသွင်းလျက် ဃဋမင်းသည် မေတ္တာကမ္မဋ္ဌာန်းကို ရှုးရှူးစိုက်စိုက် စီးဖြန်းပွားများလေ၏။ မကြာမီ သမာဓိအားကောင်းလာပြီးလျှင် ဈာန်အဘိညာဉ်ရလျက် ကောင်းကင်တွင် ထက်ဝယ်ဖွဲ့ခွေနေနိုင်သောအဆင့်သို့ ရောက်လေ၏။

ဈာန်ချမ်းသာသည် ကာမဂုဏ်ချမ်းသာအပေါင်းထက် သာလွန်၏။ ထို့ကြောင့် ဃဋမင်းသည် အချိန်ရှိသရွေ့ဈာန်ဝင်စားပြီး ပျော်ရွှင်ချမ်းမြေ့စွာ နေထိုင်နိုင်လေ၏။

ဤကာလအတွင်း၌ ဓေံမင်းသည် မနေနိုင်မထိုင်နိုင်လောက်အောင် တစ်ကိုယ်လုံးပူလောင်လာ၏။ ရွှေသလွန်ထက်တွင် စံမြန်းရပါလျက် မအိပ်နိုင်မစားနိုင်ဖြစ်ကာ ပင်ပန်းညှိုးနွမ်းနေလေ၏။

"ငါ့ရန်သူဃဋမင်း ဘယ်လိုဖြစ်နေပါလိမ့်"ဟု ဓေံမင်းအတွေးဝင်လာသဖြင့် အချုပ်ခန်းဆီသို့ လှည့်လာ၏။ ဃဋမင်းသည် အလွန်ဆင်းရဲပင်ပန်းနေလိမ့်မည်ဟု သူထင်မှတ်ခဲ့၏။ သို့သော် သူ့အထင်မှာ မျက်မြင်နှင့်ပါ စင်အောင် လွဲချော်နေတော့၏။

"အို...ဃဋမင်း၊ တစ်ပါးသောသူတို့သည် အချုပ်အနှောင်ခံရလျှင် စိုးရိမ်ကြောက်လန့်ပြီး ပူဆွေးငိုကြွေးကြ၏၊ ခန္ဓာကိုယ်မှာလဲ ညှိုးနွမ်းပိန်ချုံးသွားကြ၏။ အသင်မှုကား စိုးရိမ်ကြောက်လန့်ခြင်းလဲ မရှိ၊ ညှိုးနွမ်းပိန်ချုံးခြင်းလဲ မရှိ၊ သင်၏မျက်နှာကား လပြည့်

ဝန်းနှယ် ကြည်လင်ဝင်းပနေပါပကော။ အဘယ်ကြောင့် ဤသို့ဖြစ်ရသလဲ”

“အဆွေဓက်မင်း...ကျွန်ုပ်သည် အချုပ်အနှောင်ခံနေရပါသော်လဲ သင့်အားလည်းကောင်း၊ ကုန်းချောသော အမတ်အားလည်းကောင်း၊ မင်းချင်းတို့အားလည်းကောင်း အာဃာတမထားပါ၊ ကျွန်ုပ်သည် အေးအေးလူလူ မေတ္တာဘာဝနာပွားများခွင့်ရတဲ့အတွက် သင်တို့ကိုပင် ကျေးဇူးတင်လျက်ရှိပါတယ်။

“အဆွေတော်မင်းကြီး...စိုးရိမ်ပူပန်ခြင်းအလုပ်ဟာ လွန်ပြီးခဲ့တဲ့ ချမ်းသာကိုလဲ ပြန်မဆောင်နိုင်ပါ၊ နောင်ဖြစ်လတ္တံ့သောချမ်းသာကိုလဲ မဆောင်နိုင်ပါ၊ ထို့ကြောင့် ကျွန်ုပ်သည် စိုးရိမ်ပူပန်မှုကို အလာမခံပါ၊ ရှာန်တည်းဟူသော အဖော်ကောင်းနှင့်သာ ပျော်ပိုက်လျက်ရှိပေတယ်၊ ဤအဖော်မွန်ကြောင့် ကျွန်ုပ်သည် ကြည်လင်လန်းဆန်းလျက် ရှိပေတယ်။

“အဆွေတော်မင်းကြီး...အကြင်သူတစ်ဦးမှာ မိတ်ဆွေ အရာအထောင်ပင်ရှိစေကာမူ မိမိ၏ကိုယ်တွင်း၌ကား မေတ္တာနှင့်ယှဉ်တဲ့ ရှာန်ချမ်းသာကိုရအောင် မစွမ်းဆောင်နိုင်ပါလျှင် တစ်လောကလုံးမှာရှိကြတဲ့မိတ်ဆွေအပေါင်းအသင်းများက ထိုလူကို ချမ်းသာအောင် လုပ်ဆောင်မပေးနိုင်ကြပါ”

ဓက်မင်းသည် လွန်စွာအံ့အားသင့်သွား၏။ မိမိက ဃင္ဃမင်း၏ စည်းစိမ်ဥစ္စာအားလုံးကို သိမ်းပိုက်လိုက်ရုံမျှမက ဃင္ဃမင်းကိုပါ အကျဉ်းချထားပါလျက် မိမိအပေါ်၌ ရန်ငြိုးမသိထားဘဲ မေတ္တာပင်ပွားများပေးနေသော ဃင္ဃမင်းသည် သူတော်ကောင်းစင်စစ်ဖြစ်သည်ကို သိမြင်လာ၏။

ထို့ပြင် ကာမဂုဏ်ချမ်းသာကို အထင်ကြီးပြီး ကာမဂုဏ်စည်းစိမ် အလယ်၌ နစ်မွန်းနေသူတို့သည် စင်စစ်တွင် ပူပင်သောကတို့၏ ဖိစီးမှုဒဏ်ဖြင့် တစ်ကိုယ်လုံးပူလောင်လျက်ရှိကြ၏။ ကာမဂုဏ်စည်းစိမ်တို့ကို စွန့်ပယ်နိုင်ပြီး ဈာန်ရအောင် အားထုတ်နိုင်သူတို့သာလျှင် အပူအပန်ကင်းသည့် လောကီချမ်းသာကို တကယ်ခံစားကြရပါကလားဟု သိနားလည်လာ၏။

"အဆွေတော်ဃဋမင်း...ကျွန်ုပ်ကား သူတော်ကောင်းကို ပြစ်မှားမိချေပြီ၊ ဤပြစ်မှုဒဏ်ကြောင့် ကျွန်ုပ်၏ တစ်ကိုယ်လုံးပူလောင်နေရပါ၏၊ ကျွန်ုပ်သည် ကာမဂုဏ်စည်းစိမ်အလယ်၌ ခံစားနေရပါသော်လဲ ပျော်ပိုက်ခြင်းအလျဉ်းမရှိပါ၊ ကျွန်ုပ်အား မေတ္တာထား၍ ချမ်းသာစွာနေထိုင်နည်းကို ညွှန်ပြပေးတဲ့အဆွေတော်အား ကျေးဇူးတင်၍ မဆုံးပါ။

"အို...အဆွေတော်မင်းမြတ်...သင့်အား ကျွန်ုပ်ရှိခိုးတောင်းပန်ပါ၏၊ ကျွန်ုပ်လွန်ကျူးမိသည်ကို အနူးအညွတ်ခွင့်လွှတ်ပါလော့၊ သင်၏နိုင်ငံနှင့် ထီးနန်းစည်းစိမ်ကို ယနေ့ပင် သင့်အားပြန်လည်အပ်နှင်းပါ၏"

ဃဋမင်းကြီးသည် မိမိ၏ ထီးနန်းတွင် ပြန်လည်စံမြန်းရသော်လည်း လူတော အပူတောထဲတွင် မပျော်ပိုက်တော့ချေ။ သို့အတွက် မျူးမတ်တို့အား တိုင်းပြည်ကိုလွှဲအပ်ပြီး တောထွက်တော်မူ၏။

ဟိမဝန္တာတောကြီး၌ ရသေ့ရဟန်းဝတ်၍ ဗြဟ္မဝိဟာရတရားလေးပါးကို မပြတ်ပွားများလျက် ဈာန်ချမ်းသာဖြင့် အသက်ထက်ဆုံးနေထိုင်သွားလေ၏။ ကွယ်လွန်သည့်အခါ ဈာန်ကုသိုလ်၏ အကျိုးကြောင့် ဗြဟ္မာ့ဘုံသို့လားရောက်ရလေ၏။

မေတ္တာ၏ စွမ်းအားကား ရန်သူကို မိတ်ဆွေအဖြစ်သို့ ပြောင်းလဲစေ၍ လက်ရှိဘဝ၌ စိုးရိမ်ပူပန်ခြင်းကင်းစေလျက် အချမ်းသာဆုံးသော လောကီချမ်းသာကို စံစားစေနိုင်သည့်အပြင် တမလွန်ဘဝ၌လည်း ဗြဟ္မာ့ချမ်းသာကို ကမ္ဘာပေါင်းများစွာ စံစားစေနိုင်စွမ်းရှိသည် တကား။

## မေတ္တာ၏စွမ်းရည် အံ့မခန်းပြီ

သာမန်လူတို့၏ ကိုယ်တွင်း၌ အနီရောင်သွေးသည်သာ လှည့်ပတ်နေ၏။ ထိုသွေးကို အာဟာရဓာတ်ပြည့်ဝသည့် အဖြူရောင်နို့ချို အဖြစ်သို့ ပြောင်းလဲစေနိုင်သော သိပ္ပံနည်းသည် မရှိချေ။

နို့တိုက်သောမိခင်၏ မေတ္တာကြောင့် သွေးစင်စစ်က အဖြူရောင် နို့ဖြစ်လာသည်။ လူသား၌သာမဟုတ် တိရစ္ဆာန်များ၌လည်း မေတ္တာ၏ အစွမ်းသည် ထက်မြက်ရှူးရှသည်သာတည်း။

**နွားမကြီး**တစ်ကောင်သည် မိမိ၏ သားငယ်အား ရပ်လျက် နို့ချိုတိုက်ကျွေးနေ၏။ မုဆိုးတစ်ဦးသည် နွားမကြီးအား လှံရိုးရှည်ကြီးဖြင့် ထိုး၏။ လှံသွားသည် နွားမ၏ ကိုယ်ကိုထိစဉ်ခဏ၌ ထန်းရွက်ကဲ့သို့ လိပ်ခွေ၍သွား၏။

ဤသည်ကား သားငယ်အပေါ်၌ အလွန်အမင်းချစ်ခင်ခြင်း ဟူသော ဖြူစင်သည့် မိခင်မေတ္တာ၏ အစွမ်းကြောင့်ပေတည်း။

မေတ္တာရောင်ခြည်သည် အိပ်စရေးရောင်ခြည်, ဂမ္မာရောင်ခြည်, လေဆာရောင်ခြည်တို့ကဲ့သို့ပင် မြင်နိုင်သောအရာမဟုတ်ချေ။ မမြင်နိုင်သော်လည်း မလေးမခန့်မပြုအပ်ပေ။

မမြင်နိုင်သောအိပ်စရေးရောင်ခြည်, ဂမ္မာရောင်ခြည်, လေဆာ

ရောင်ခြည်တို့သည် အသည်းနှလုံးကို ဖြတ်သန်းသွားလျှင် အသည်းနှလုံးကိုလောင်ကျွမ်းစေပြီး ချက်ချင်းသေပွဲဝင်စေနိုင်၏။ သို့သော် ဤရောင်ခြည်ဝဝို့၏ အဖျက်စွမ်းအားကို တွန်းလှန်ကာကွယ်နိုင်သော သိပ္ပံရောင်ခြည်ဟူသည် မရှိချေ။

ဒေါသရောင်ခြည်ကား အထက်ပါသိပ္ပံရောင်ခြည်တို့ထက်ပင် ပို၍ဖျက်ဆီးနိုင်စွမ်းရှိ၏။ သို့ဖြစ်လင့်ကစား ထိုဒေါသရောင်ခြည်ကို ခုခံကာကွယ်နိုင်သောရောင်ခြည်သည် ဗုဒ္ဓအဘိဓမ္မာ၌ရှိ၏။ ထိုအပြုရောင်ခြည်ကား မေတ္တာရောင်ခြည်ပင် ဖြစ်သတည်း။

**မြတ်စွာဘုရား**သည် အရှင်အာနန္ဒာနှင့်အတူ ရာဇဂြိုဟ်ပြည်သို့ ဆွမ်းခံကြွဝင်လာ၏။ ဒေဝဒတ်သည် အဇာတသတ်မင်း၏ ဆင်ပြောင်ကြီး **နာဠာဂီရိ**ကို မူးယစ်အောင် သေရည်အရက်တိုက်စေပြီးလျှင် မြတ်စွာဘုရားအားထိုးသတ်ရန် စေလွှတ်စေ၏။ ဆင်ပြောင်ကြီးသည် မြတ်စွာဘုရားထံသို့ တစ်ဟုန်ထိုးပြေးဝင်လာလေပြီ။ အရှင်အာနန္ဒာသည်ပင် ထိတ်လန့်နေ၏။ သို့သော် မြတ်စွာဘုရား၏ နှလုံးသားမှထွက်လာသော မေတ္တာရောင်ခြည်သည် ဆင်ပြောင်ကြီးအား မြတ်စွာဘုရား၏ ခြေတော်ရင်း၌ ဝပ်စင်းဦးခိုက်စေ၏။



မြန်မာ့သာသနာ၌ **လယ်တီဆရာတော်ဘုရား** သည် တစ်နေ့တွင် လယ်တီပဏ္ဍိတနှင့် ဦးတိလောကတို့နှင့်အတူ ကျိုက်ထီးရိုးတောင်သို့ ကြွတော်မူ၏။ တောလမ်းခရီး၌ တောဆင်ရိုင်းကြီးတစ်ကောင်သည် ဆရာတော်တို့ထံ ရှေးရှု၍ပြေးဝင်လာ၏။ တပည့်ရဟန်းနှစ်ပါးတို့သည် သစ်ပင်များပေါ်သို့တက်ပြေးကြ၏။ လယ်တီဆရာတော်ကား မတုန်မလှုပ်ဘဲ ဆင်ရိုင်းဆီသို့ မေတ္တာပွားပို့နေတော်မူ၏။

တောဆင်ရိုင်းသည် မမြင်နိုင်သောမေတ္တာဓာတ်လှိုင်းကြောင့် ရပ်တန့်ဦးညွှတ်ပြီးလျှင် နောက်ပြန်လှည့်၍ထွက်ပြေးသွားလေ၏။

မေတ္တာရောင်ခြည်သည် ရန်သူဆင်ရိုင်းများကို တွန်းလှန်နိုင်ကြောင်းကား ယုံမှားဖွယ်မရှိချေ။



မေတ္တာသည် သူတစ်ပါးတို့အား ထိခိုက်နစ်နာစေလိုခြင်းမရှိ။ သတ္တဝါအပေါင်းတို့အား ဘေးရန်ကင်းရှင်းစေပြီး ကာယသုခ, စိတ္တသုခတို့နှင့်ပြည့်စုံလိုသော လောကအငြိမ်းဓာတ်ကြီးဖြစ်၏။

*သူတစ်ထူးတို့အား စိတ်ချမ်းသာစေသော ချိုသာသည့်စကားလုံးကလေးများ၊ နွေးထွေးသွားစေသော ဂရုစိုက်မှုကလေးများ၊ ကြည်နူးချမ်းမြေ့စေသည့်ကြင်နာယုယမှုကလေးများသည် ကမ္ဘာလောကကို အထူးသာယာလှပစေ၏။*

**မဃ** ဦးဆောင်သည့် မစလရွာသားတို့၏ပြုမူပုံသည် အလွန်အတုယူဖို့ကောင်း၏။ ရှေးအခါက မဂဓတိုင်းအတွင်း၌ရှိခဲ့သော 'မစလ' ရွာကလေးသည် အိမ်ခြေ ၃၃ လုံးမျှသာရှိ၏။ ရပ်ရေးရွာရေးကိစ္စအတွက် ရွာလယ်ကောင်လမ်းလေးခွ၌ မစလရွာသားတို့ စုဝေးတိုင်ပင်ကြ၏။

မဃသည် မိမိရပ်နေသည့်နေရာ၌ အမှိုက်သရိုက်နှင့်ကျောက်ခဲများ ကင်းစင်၍ပြန့်ပြူးရှင်းလင်းသွားအောင် ခြေဖျားများနှင့်ပြုလုပ်လေ၏။ နောက်ရောက်လာသောရွာသားတစ်ယောက်သည် ထိုသန့်ရှင်းသည့်နေရာကလေး၌ ဝင်ထိုင်၏။

မဃစိတ်မဆိုးချေ။ 'ဪ ...သန့်ရှင်းအောင် လုပ်ပေးထားတဲ့ နေရာကလေးကို သူသဘောကျပုံရတယ်၊ အဲဒီမှာ သူထိုင်ရတာ စိတ်

ချမ်းသာတယ်ထင်တယ်၊ ထိုင်ပါစေ။ ငါနောက်တစ်နေ့ရာရှင်းမယ်' ဟု သဘောပိုက်ပြီး နောက်တစ်နေ့ရာရှင်းပြန်၏။ ထိုနေရာ၌လည်း နောက်ရောက်လာသောလူတစ်ယောက်က ဝင်ထိုင်လိုက်ပြန်၏။

"ဟင်...ဟန်ကျလိုက်လေ၊ လူအများစိတ်ချမ်းသာအောင် လုပ်ပေးနိုင်တဲ့နည်းလမ်းတွေ ငါသိပြီ။ ငါ့ရဲ့အားလပ်တဲ့အချိန်တွေကို လူအများစိတ်ချမ်းသာဖို့အတွက် ငါအသုံးချမယ်"

ဤကား မေတ္တာစိတ်ထားပေတည်း။ မဃသည် ကောင်းမှုလုပ်ငန်းတွေကို တစ်သီကြီးပြုလုပ်တော့၏၊ လမ်းရှင်း၏၊ မြေညှိမြေဖို့၏၊ သဲခင်း၏၊ တံတားခင်း၏၊ ပန်းဥယျာဉ်ကလေးစိုက်၏၊ သောက်ရေအိုးတည်၏၊ လူကြီးများနားနေရန်နှင့် ကလေးများကစားရန် ယာယီကနားဖျင်းတစ်ခုကို ဆောက်လုပ်၏။

လူအများက ဝမ်းမြောက်ဝမ်းသာကြပြီး မဃအား ကျေးဇူးတင်ကြ၏။ ဤတုံ့ပြန်မှုများကြောင့် မဃသည် ပို၍ရွှင်လန်းဝမ်းမြောက်ရ၏။

အပေါင်းအဖော်များက "ကိုမဃ...ဘာတွေလုပ်နေသလဲ" ဟု မေးမြန်းလျှင် "နတ်ပြည်သွားဖို့ လမ်းဖောက်နေတာပေါ့" ဟုဖြေ၏။

အပေါင်းအဖော်များက မဃလမ်းစဉ်ကို သဘောကျကြပြီး ဝိုင်းဝန်းလုပ်ကိုင်ကြ၏။ ထို့ကြောင့် လူအများခိုနားနိုင်သည့်ရွာလယ်ဇရပ်မှာ ခမ်းခမ်းနားနားဖြစ်လာ၏။ ဇရပ်အနီးတွင် ရေတွင်းရေကန်နှင့် ဥယျာဉ်ပန်းခြံတို့သည်လည်း စိုစိုပြည်ပြည်ဖြစ်လာ၏။

ရွာသူ, ရွာသားအပေါင်းတို့သည် အများချမ်းသာရေးဟူသော မေတ္တာလုပ်ငန်းများတွင် သိုက်သိုက်ဝန်းဝန်းပါဝင်လာကြပြီးလျှင်

အောက်ပါစည်းကမ်းချက်များကို လူအများလိုက်နာရန်သဘောတူ သတ်မှတ်ကြ၏။

၁။ ငါးပါးသီလကိုဆောက်တည်ရန်၊
၂။ မိဘတို့ကို ရာသက်ပန်လုပ်ကျွေးရန်၊
၃။ တစ်ဦးနှင့်တစ်ဦး ချိုချိုသာသာပြောဆိုရန်၊
၄။ ကုန်းမတိုက်ရန်၊ လိမ်ညာမပြောရန်၊
၅။ တတ်အားသမျှ ပေးကမ်းလှူဒါန်းရန်၊
၆။ လူကြီးများအား ရိုသေလေးစားရန်၊
၇။ တစ်ဦးနှင့်တစ်ဦး စိတ်မဆိုးရန်၊ အပြစ်မတင်ရန်၊

အကယ်၍ ဒေါသထွက်မိ အပြစ်တင်မိလျှင် ချက်ချင်းဝန်ချတောင်းပန်၍ အမျက်ဒေါသကိုဖြေဖျောက်ပြီး မေတ္တာပွားများရန်။

ဤမှန်မြတ်သောမေတ္တာလမ်းစဉ်ကြောင့် မစလရွာကလေးသည် မိသားစုကြီးတစ်ခုကဲ့သို့ စည်းလုံးညီညွတ်ပြီးလျှင် အလွန်သာယာဝပြောလာ၏။

ဤသို့သာယာဝပြောလာသည်ကို မနာလိုမရှုဆိတ်နိုင်သူတစ်ဦး ရှိ၏။ သူကား အရက်ခွန်, လောင်းကစားခွန်မရ၍ မကျေမနပ်ဖြစ်နေသော ရွာစားပင် ဖြစ်၏။

ရွာစားသည် ဘုရင်မင်းမြတ်ထံဝင်ရောက်၍ “မစလရွာသား မဃသည် ဘုရင်မင်းမြတ်အား ပုန်ကန်ရန် လူစုရုံးနေသည်” ဟု ကုန်းချောလျှောက်ထားလေ၏။

ဘုရင့်တပ်သားများ မစလရွာသို့ရောက်လာသည့်အခါတွင် ဇရပ်၌ လူအများစုဝေးနေကြချိန်ဖြစ်၍ “ရွာစားလျှောက်ထားသည့်အတိုင်း

မှန်ကန်သည်” ဟု ကောက်ချက်ချကာ လူများကိုဖမ်းဆီးသွားကြလေ၏။

ဘုရင်မင်းမြတ်ကလည်း စစ်ဆေးခြင်းမပြုတော့ဘဲ “ငါ့အားပုန်စားဝံ့သူတို့ကို မင်းရင်ပြင်၌ ဆင်ဖြင့်နင်းသတ်စေ”ဟု တစ်ချက်လွှတ်အမိန့်ချမှတ်လိုက်လေ၏။

မဃသည် ရွာသားအပေါင်းအား “အဆွေတို့... စိတ်မကောင်းမဖြစ်ကြနဲ့၊ တို့တစ်တွေ မကောင်းမှုတွေကိုမလုပ်ခဲ့ကြဘူး၊ ကောင်းမှုတွေကိုသာ လုပ်ခဲ့ကြလို့ အမှန်တရားက တို့ဘက်မှာရှိပါတယ်။ တို့သေရင်လဲ နတ်ရွာသုဂတိဆိုတဲ့ ပိုကောင်းတဲ့ဘဝကို ရောက်ကြမှာပဲ”

“ဒီကနေ့ တို့တစ်တွေ အမျက်ဒေါသထွက်မိရင် ချက်ချင်း ဖြေဖျောက်ပြီး မေတ္တာပွားရမယ်ဆိုတဲ့ကျင့်ဝတ်ကို လက်တွေ့ကျင့်သုံးကြရအောင်၊ ဒါကြောင့် ကုန်းတိုက်တဲ့ရွာစားကိုရော၊ ဘုရင်မင်းမြတ်ကိုရော၊ တို့ကို ဖမ်းဆီးချုပ်နှောင်ကြတဲ့ မင်းချင်းများကိုရော၊ တို့ကို နင်းသတ်မယ့် ဆင်ကြီးကိုရော တို့တစ်တွေစိတ်မဆိုးကြဘဲ သူတို့တစ်တွေ ဘေးရန်ကင်းကြပါစေ၊ ကိုယ်ဆင်းရဲကင်းကြပါစေ၊ စိတ်ဆင်းရဲကင်းကြပါစေ၊ နှလုံးစိတ်ဝမ်းငြိမ်းချမ်းကြပါစေလို့ တို့အသက်နဲ့ထပ်တူထားပြီး မေတ္တာပွားပို့ကြရအောင်”

မစလရွာသားတို့သည် မင်းချင်းတို့၏ အမိန့်ညွှန်ကြားချက်အရ မင်းရင်ပြင်၌စီတန်းကာ ဝမ်းလျားမှောက်နေကြရ၏။ သူတို့သည် မျက်စိများစုံမှိတ်ကာ မဃညွှန်ပြခဲ့သည့်အတိုင်း မေတ္တာပွားပို့နေကြ၏။ အသံမထွက်သော်လည်း နှုတ်ခမ်းများမှာ တရွရွလှုပ်နေကြ၏။

ဆင်ထိန်းများသည် ဆင်ကြီးတစ်ကောင်ကို မောင်းနှင်လာကြလေပြီ။ ဝမ်းလျားမှောက်ကာ စီတန်းနေကြသည့်လူအုပ်ပေါ်သို့ ဆင်ကြီး တက်နင်းရန် ဆင်ကိုချွန်းအုပ်လျက် အတင်းအော်ဟစ်အမိန့်ပေးကာ မောင်းနှင်နေကြလေပြီ။

မစလရွာသားတို့သည် မိမိတို့သေရမည့်အရေးကို မေ့ပျောက်ထားကြလျက် ဆင်ကြီးကို အာရုံယူကာ ရှုးရှူးစိုက်စိုက် မေတ္တာပွားပို့နေကြ၏။ ဆင်ကြီးသည် ရှေ့မတိုးဝံ့ဘဲ ရင်ကွဲလုမတတ် ကျယ်လောင်စွာ အော်မြည်ပြီး ထွက်ပြေးလေ၏။

ဆင်ထိန်းများသည် မိမိတို့၏ တာဝန် မကျေပွန်ကြမည်ကို စိုး၍ ဆင်တင်းကုပ်ထဲရှိဆင်ကြီးများကို တစ်ကောင်ပြီးတစ်ကောင် ထုတ်၍ မစလရွာသားစုကို နင်းစေဖို့ကြိုးစား၏။ သို့သော် ဆင်အားလုံးသည်ပင် ကြောက်လန့်ကာ ရှေ့မတိုးဝံ့ဘဲ ထွက်ပြေးကြလေ၏။

ဤထူးဆန်းသောအခြင်းအရာကို မင်းချင်းတို့က ဘုရင်မင်းမြတ်အား လျှောက်ထားကြသည့်အခါ "လူတွေမြင်နေလို့ ဆင်မနင်းဝံ့တာဖြစ်လိမ့်မယ်၊ လူတွေကို ဖျာရိုင်များဖြင့် ဖုံးအုပ်ပြီး ဆင်နင်းသတ်စေ မောင်မင်းတို့" ဟုအမိန့်ချမှတ်လေ၏။

မင်းချင်းများနှင့် ဆင်ထိန်းများသည် မစလရွာသားတို့ကို ဖျာရိုင်များဖြင့်ဖုံးအုပ်၍ ဆင်နင်းသတ်ရန် ကြိုးစားကြပြန်၏။ မအောင်မြင်ချေ။ ဆင်များသည် ရှေ့မတိုးဝံ့ဘဲ အော်မြည်၍သာ ထွက်ပြေးကြလေ၏။

သေဒဏ်ချမှတ်ခံကြရသည့် မစလရွာသားများက မေတ္တာရည်ဖြင့် အေးမြနေသလောက် မင်းချင်းများနှင့်ဆင်ထိန်းများက ကြံရာမရစိတ်အိုက်၍ ချွေးတပြိုက်ပြိုက်ကျနေကြ၏။ သူတို့တာဝန်မကျေ

ကြသည့်အတွက် ဘုရင်ကအမျက်မာန်ရှုပြီး သူတို့အားဆင်နင်းသတ်စေရန် အမိန့်တော်ချမှတ်လိုက်ချေက မည်သို့ပြုရအံ့နည်းဟု တွေးပူနေကြ၏။ သို့အတွက် ဘုရင်မင်းမြတ်အား ကြောက်ကြောက်ရွံ့ရွံ့ဖြင့် သံတော်ဦးတင်ကြပြန်၏။

"အိမ်း...မစလရွာသားတို့၊ သင်တို့မှာ အင်းအိုင်မန္တန်အဆောင်ကောင်းများကို ဆောင်ထားကြလေသလော"

"မှန်လှပါအရှင်မင်းမြတ်...ကျွန်တော်မျိုးတို့ အမြဲမပြတ်ဆောင်ယူထားကြတဲ့မန္တန်ကောင်းရှိပါတယ်၊ အဲဒီမန္တန်က တခြားမဟုတ်ပါဘူး၊ သူ့အသက်ကိုမသတ်ခြင်း၊ သူ့ဥစ္စာကိုမခိုးခြင်း၊ သူ့အိမ်ရာကို မကျူးလွန်ခြင်း၊ လိမ်လည်မပြောခြင်းနှင့် သေရည်သေရက်မသောက်ခြင်းဆိုတဲ့ ငါးပါးသီလကို စောင့်ထိန်းခြင်း ဖြစ်ပါတယ်။ နောက်ထပ်ဆောင်တဲ့မန္တန်တစ်ခုက ဘယ်သူ့ကိုမှ အမျက်မထွက်ဘဲ သတ္တဝါအားလုံးချမ်းသာကြစေရန် မေတ္တာပွားပို့ခြင်းဖြစ်ပါတယ်"

"အိမ်း... ငါဘုရင်မင်းမြတ် ကြားသိရတာ အလွန်ဝမ်းသာပါတယ်၊ မောင်မင်းတို့ဟာ သူတော်ကောင်းတွေပဲ။ ရွာစားရဲ့စကားကို ငါယုံကြည်မိလို့ မောင်မင်းတို့ကို သေဒဏ်ပေးမိတာ ငါမှားသွားပြီ၊ တိရစ္ဆာန်ဖြစ်တဲ့ ဆင်ရိုင်းကြီးတွေကတောင် မောင်မင်းတို့ရဲ့ဂုဏ်ကျေးဇူးကို သိကြသေးတယ်။

"မင်းချင်းတို့...ကနေ့ကစပြီး မစလရွာစားကို ရာထူးချလိုက်ကြ၊ မဃကို ရွာစားခန့်ပြီး မစလရွာကို လွတ်လပ်စွာအုပ်ချုပ်ပါစေ။ ဆုတော်ငွေများနဲ့ ဆင်ကြီးကိုပါ မစလရွာသားတို့ကို ပေးသနားကြစေ။ ရွာစားဟောင်းကိုလဲ မစလရွာသားတို့ရဲ့အခိုင်းအစေအဖြစ် ပေးလိုက်ကြစေ"

မေတ္တာ၏စွမ်းရည်သည် မျက်လှည့်ပြသည်ထက်ပင် ပို၍ဆန်းကြယ်ပါ၏။ မစလရွာသားတို့၏ မေတ္တာတန်ခိုးသည် ရှေးဟောင်းဇာတ်နိပါတ်လာဖြစ်၍ ယုံကြည်စရာမရှိဟု မမှတ်ယူလင့်။ ကမ္ဘာပေါင်းအနန္တက အဖြစ်သနစ်အလုံးစုံကို သိမြင်နိုင်တော်မူသော မြတ်စွာဘုရားကိုယ်တိုင် ဟောကြားခဲ့ခြင်းဖြစ်၍ ယုံကြည်ထိုက်ပေ၏။

တစ်ဖန် မွန်မြန်မာသမိုင်း၌ ဟံသာဝတီဘုရင်**တိဿမင်း** လက်ထက်တွင် မွန်သူကြွယ်သမီး **'တလထော်'** (တရားသခင်မ) သည် ဘုရင့်အမိန့်ကိုဖီဆန်၍ ဗုဒ္ဓ၏ဆင်းတုကိုကိုးကွယ်မိသဖြင့် ဘုရင်က ဆင်ဖြင့်နင်းသတ်ရန် အမိန့်ချမှတ်ခဲ့၏။ ဤတွင်လည်း တလထော်၏မေတ္တာကြောင့် ဆင်ကြီးမနင်းဝံ့ဘဲ အော်ပြေးခဲ့ရ၏။ တစ်ဖန် တိဿဘုရင်က တလထော်အား ကောက်ရိုးဖုံးအုပ်ပြီး မီးရှို့သတ်ရန် အမိန့်ချမှတ်ပြန်၏။ တလထော်ပွားများနေသောဂုဏ်တော်များနှင့် မေတ္တာတို့၏တန်ခိုးကြောင့် မီးမလောင်ပြန်ချေ။

ထို့နောက် တလထော်၏သစ္စာစကားကြောင့် ဗုဒ္ဓဆင်းတုတော်ရှစ်ဆူတို့သည် ကောင်းကင်ခရီးဖြင့်ကြွလာကြပြီးလျှင် မင်းရင်ပြင်အထက်ကောင်းကင်၌ ရပ်တည်နေကြလေ၏။ ဤအံ့ဖွယ်သရဲထူးကဲသောအဖြစ်တို့ကြောင့် တိဿဘုရင်သည် မိစ္ဆာဒိဋ္ဌိအယူကို စွန့်လွှတ်၍ ဗုဒ္ဓဘာသာကိုသက်ဝင်ယုံကြည်လာပြီးလျှင် သာသနာတော်၏အကျိုးကို သည်ပိုးထမ်းရွက်ခဲ့လေ၏။

ဤအကြောင်းအရာတို့ကို အင်္ဂလိပ်သမိုင်းပညာရှင် **ဂျီ၊ အီး၊ ဟာဗေး** က... "G.E. Harvey: Outline of Burmese History" တွင် မှတ်တမ်းတင်ထားခဲ့၏။ ဤသမိုင်းပညာရှင်သည် မွန်မြန်မာတို့၏သမိုင်းကို အားမနာတမ်း တစ်တစ်ခွခွဝေဖန်တင်ပြခဲ့သူဖြစ်၍

သူကိုယ်တိုင်အမွှန်းတင်ကာ ချီးကျူးခဲ့သော တလထော်၏ဇာတ်လမ်းသည် တကယ်မှန်ကန်ကြောင်း ယုံကြည်ရပေ၏။

တလထော်၏ဇာတ်လမ်းအကျယ်ကို 'သစ္စာအဖွင့်' ခန်းတွင် တင်ပြထားပါသည်။

## ပြေးသွားသောမြားကိုပြန်လှည့်လာစေသော မေတ္တာတန်ခိုး

ဗုဒ္ဓမြတ်စွာ သက်တော်ထင်ရှားရှိစဉ်အခါက သာသနာတွင် မှတ်တမ်းတင်ခံရသော ထင်ရှားကျော်ကြားသည့်ဇာတ်လမ်းတစ်ပုဒ်မှာ **သာမာဝတီ** နှင့် **မာဂဏ္ဍီ** တို့၏ ဇာတ်လမ်းဖြစ်၏။

ဗုဒ္ဓမြတ်စွာသည် ကောသမ္ဗီပြည်မှသူဌေးကြီးများဖြစ်ကြသော ဃောသက, ကုက္ကုဋနှင့် ပါဝါရိကတို့၏ ပင့်ဖိတ်ချက်အရ နဝမ မြောက်ဝါကို ကောသမ္ဗီပြည်၌ကပ်ဆိုရန် ကြွသွားတော်မူ၏။ ထိုသို့ ကြွတော်မူစဉ် မာဂဏ္ဍီပုဏ္ဏားကြီးနှင့်ဇနီးတို့၏ အရဟတ္တဖိုလ်ရကြောင်း ရေးကောင်းမှုကိုမြင်တော်မူသဖြင့် သွားမြဲသောခရီးအစဉ်မှ ဖဲကြဉ်၍ ကုရုတိုင်းကမ္မာသဒမ္မနိဂုံးသို့ ကြွတော်မူ၏။

ထိုအခါ မာဂဏ္ဍီပုဏ္ဏားကြီးသည် တစ်ညဉ့်လုံးရွာပြင်၌ မီးပူဇော်ပြီးနောက် စောစောပင် ရွာတွင်းသို့ဝင်၏။ ဘုရားရှင်လည်း ရွာတွင်းသို့ ဆွမ်းခံဝင်တော်မူသဖြင့် ပုဏ္ဏားနှင့်ရွာအဝင်ဝတွင် ဆုံတွေ့ကြ၏။

မာဂဏ္ဍီပုဏ္ဏားကြီးတွင် အလွန်ချောမောလှပသော သမီးတစ်ဦးရှိ၏။ ဤသမီးကို မာဂဏ္ဍီဟုပင်အမည်ပေးထား၏။ ပုဏ္ဏားကြီးနှင့် ပုဏ္ဏေးမတို့သည် လက္ခဏာပညာတတ်ကျွမ်းသူများဖြစ်ကြရာ သမီးတွင် မိဖုရားဖြစ်ရန်ဇာတာပါကြောင်း သိရှိထားကြ၏။ သို့အတွက် ရွာထဲမှကာလသားများကို သမီး၏ဖူးစာဖက်စာရင်းတွင် မထည့်

သွင်းကြဘဲ ဘုန်းတန်ခိုးကြီးမားသောဘုရင်တစ်ပါးပါးအား သမီးကို အပ်နှံရန် ရည်စူးထားကြ၏။

မာဂဏ္ဍီပုဏ္ဏားသည် မြတ်စွာဘုရားနှင့်ဆုံတွေ့လေလျှင် မြတ်စွာဘုရား၏ကြီးကျယ်လှသည့်ဣန္ဒြေတော်နှင့် အတုမရှိတင့်တယ်လှသော ရုပ်အဆင်းတော်တို့ကို ဖူးတွေ့ရသဖြင့် ...

"ဟာ ...တွေ့ပြီ၊ ငါ့သမီးနဲ့ ထိုက်တန်တဲ့ ယောကျ်ားမြတ်ကို ကာလရှည်ကြာစွာ ငါရှာဖွေခဲ့သည်မှာ ယခုငါတွေ့ရလေပြီ။ ဤရဟန်းသည် ငါ့သမီးနှင့်ရုပ်အဆင်းတူညီသော သတို့သားပေတည်း။ ငါ့သမီးနှင့် ပေးစားပေအံ့"

ပုဏ္ဏားသည် အိမ်သို့အမြန်ပြန်၍ ဇနီးကိုခေါ်လျက် ...

"အို ... ရှင်မ၊ တို့သမီးနဲ့ထိုက်တန်တဲ့ ယောကျ်ားမြတ်ကို ငါတွေ့ခဲ့ပြီ၊ ဗြဟ္မာမင်းကဲ့သို့ ရွှေရောင်အဆင်းရှိသူဖြစ်၏၊ အလွန်တည်ငြိမ်သော ဣန္ဒြေလဲ ရှိ၏၊ ရဟန်းအသွင်ကိုဆောင်၏၊ သမီးကို မြန်မြန် တန်ဆာဆင်ပါလော့"

ပုဏ္ဏား၏လောဆော်မှုကြောင့် ပုဏ္ဏေးမသည် သမီးကိုအသော့လျှင်မြန်စွာတန်ဆာဆင်၏။ ထို့နောက် ဘုရားရှင်ရှိရာအရပ်သို့သွားကြ၏။

မြတ်စွာဘုရားသည် ပုဏ္ဏားနှင့်တွေ့ဆုံရာအရပ်၌ ခြေတော်ရာနှစ်ဆူကိုချထားပြီးလျှင် ရွာတွင်းသို့ဆွမ်းခံကြွဝင်လေ၏။

ပုဏ္ဏားကြီးသည်ဘုရားရှင်ကိုမတွေ့မြင်ရလျှင် "ရှင်မ ...ကောင်းသေးရဲ့လား၊ သင်အချိန်ဆွဲနေသည့်အတွက်ကြောင့် ထိုရဟန်းထွက်ခွာသွားလေပြီ" ဟု အပြစ်တင်၏။ ထို့နောက် ဘုရားရှင်၏ခြေတော်ရာများကိုမြင်လျှင် ...

"အို…ရှင်မ၊ ဤခြေရာများကား ထိုရဟန်း၏ခြေရာများပေတည်း၊ သင်ကြည့်စမ်းလော့၊ စကြဝတေးမင်းဖြစ်မည့်ခြေခဏာရှင်ပေတည်း"

"အို…ပုဏ္ဏား၊ သင်ကား အလွန်မလိမ္မာသူဖြစ်ဘိ၏၊ ဤခြေတော်ရာတို့ကား ရာဂ, ဒေါသ, မောဟ ကင်းသောယောကျ်ားမြတ်တို့၏ခြေရာပေတည်း။ သင်၏သမီးကို စိတ်ဝင်စားမည့်သူမဟုတ်ပါချေ"

ထိုသို့ငြင်းခုံ၍ပြောဆိုနေကြစဉ် ဘုရားရှင်သည် ဆွမ်းစားခြင်းကိစ္စ ပြီးစီးသဖြင့် ထွက်ကြွတော်မူလာ၏။ ပုဏ္ဏားကြီးသည် အလွန်ဝမ်းမြောက်ဝမ်းသာစွာ ဘုရားရှင်ရှေ့၌ရပ်လျက်…

"အို…ရဟန်း၊ ငါသည် သင့်ကိုအစောကြီးကပင် လှည့်လည်ရှာဖွေနေခဲ့၏၊ ဤဇမ္ဗူဒိပ်ကျွန်းအပြင်၌ ငါ့သမီးနှင့်ရုပ်အဆင်းတူမျှသော မိန်းမဟူ၍ တစ်ယောက်မျှမရှိချေ။ သင်နှင့်ရုပ်အဆင်းတူညီသောယောကျ်ားသည်လဲ တစ်ယောက်မျှမရှိချေ။ ငါ့သမီးကို သင့်အား လုပ်ကျွေးပြုစုရန် ငါပေးလို၏၊ ငါ့သမီးကို သင်ယူပါလော့" ဟု တိုက်ရိုက်တဲ့တိုးပင်ပြောကြားလေ၏။

ပုဏ္ဏေးမသည် ရှိသေသည့်အမူအရာဖြင့် ဝင်စွက်၍ မပြောဘဲ အကဲခတ်ကာကြည့်နေ၏။ သမီးမာဂဏ္ဍီကမူ လင်တော်စပ်ရမည့်သူအား တစ်ချက်မျှမျက်လွှာပင့်၍ကြည့်ရှုပြီးနောက် အပျိုတို့၏မာန်ဖြင့် ခပ်စောင်းစောင်းငုံ့ငုံ့ကလေး ရပ်နေလေ၏။

"ဒါယကာကြီး…" ထူးခြားစိုးပိုင်လှသော အာလုပ်စကား စတင်လာ၏။ "ငါသည် သင်၏သမီးကဲ့သို့ချောမောလှပသော မိဖုရားနှင့် မောင်းမမိဿံတစ်သောင်းခြောက်ထောင်တို့ကို ဖယ်ခွာ၍ ထီးနန်း

စည်းစိမ်ကိုစွန့်ပယ်၍ သစ္စာတရားကိုရှာဖွေခဲ့သူတည်း။ မာရ်ငါးပါးကို အောင်မြင်ပြီး ဘုရားအဖြစ်သို့ရောက်သည့်ကာလ၌ လူမိန်းမတို့ထက် အဆရာထောင်မကချောမောလှပသည့် ဝသဝတ္တီနတ်ပြည်မှ မာရ်နတ်၏ သမီးသုံးဦးတို့ လာရောက်ပြီးဖြားယောင်းကြသည်ကို ငါ အလိုဆန္ဒမရှိသဖြင့် သူတို့အားမောင်းနှင်ထုတ်ခဲ့ရပေ၏။

"အို…ပုဏ္ဏားကြီး၊ သင်၏သမီးကား ကျင်ကြီးကျင်ငယ်၊ သလိပ်၊ နှပ်၊ သွေး၊ ချွေးဟူသည့် ရွံစဖွယ်အညစ်အကြေးတို့နှင့်ပြည့်လျှမ်းနေဘိ၏။ ရုပ်အလှဟုထင်နေရသည့်အရာမှာ အရေပြားတစ်ထောက်စာ ကလေးသာတည်း။ ထိုအရေပါးပါးကို ခွာလှန်လိုက်လျှင် ကြောက်စရာ ရွံစရာ အသွေးအသားအကြောအရိုးတို့သည် ပြိုင်းပြိုင်းထွက်ပြူလာကြမည်မဟုတ်လော။ ခွာလှန်လိုက်သောအရေခွံသည်လည်း ရွံစရာအတိသာတည်း။ သို့အတွက် သင့်သမီး၏ ခန္ဓာကိုယ်တွင် တွယ်တာမက်မောစရာဟူ၍ တစိုးတစိမျှမရှိချေ။ ထို့ကြောင့် ကတိုးရုပ်ဟုထင်နေရသော်လည်း အသိုးအပုပ်မျှသာဖြစ်သော သင်တို့၏ သမီးကို သိမ်းပိုက်ဖို့ရန်မဆိုထားဘိ၊ ခြေဖျားနှင့်မျှပင် ငါမတို့လိုပါ"

မမျှော်လင့်သော ဤစကားတို့ကို မကြားချင်အဆုံး တစ်လုံးမကျန် ကြားနာလိုက်ရသော အလှပဂေးမာဂဏ္ဍီသည် သွက်သွက်ခါအောင် နာကြည်းသွားလေ၏။ အမျိုးသမီးတိုင်းပင် မိမိကိုယ်ကို မိမိလှသည်ဟုထင်ကြ၏။ အကျည်းတန်သူကိုပင် အကျည်းတန်သည်ဟုပြောလျှင် မနှစ်သက်နိုင်ပါ။ တစ်စုံတစ်ရာချီးမွမ်း၍ပြောဆိုသည်ကိုသာ ကြားလို၏။ ချိုးချိုးဖွဲဖွဲပြောသည့်သူအား အကြီးမားဆုံးသော ရန်သူအဖြစ်သဘောထားလေတော့၏။

လှလည်းလှ၍ အလှမာန်လည်းဝင့်နေသော မာဂဏ္ဍီအဖို့ မိမိ၏

အလှကိုနှစ်ပြားမတန်အောင် မှိုချိုးမျှစ်ချိုးသလို ပစ်ပစ်ခါခါပြောဆို လိုက်သော မြတ်စွာဘုရားအား ခွင့်မလွှတ်နိုင်သော ရန်သူအဖြစ် သတ်မှတ်လိုက်လေတော့၏။

"ငါ့ကိုမလိုချင်လျှင် မလိုချင်ဘူးလို့ တစ်ခွန်းပြောလိုက်ရင် ပြီး တာပဲ၊ ငါ့ကိုယ်ကို ကျင်ကြီး, ကျင်ငယ်, သလိပ်, သွေး, ချွေးတွေပြည့် လျှမ်းနေတဲ့ အပုပ်အသိုးမတဲ့၊ ခြေဖျားနဲ့တောင် မတို့ထိလိုဘူးတဲ့။ နေသေးသပ ချုံထဲကပေါ့လေ၊ ငါ ဘုရင့်မိဖုရားဖြစ်လာတဲ့အခါ သိ ကြရောပေါ့"

ခွင့်မလွှတ်ခြင်း၊ ရန်ငြိုးဖွဲ့ခြင်းတို့သည် မေတ္တာကင်းမဲ့ခြင်း၏ သင်္ကေတပင်တည်း။ မိခင်သည် မိမိ၏မျက်နှာကို ခြေဖြင့် ကန် ကျောက်နေသောရင်သွေးငယ်အား ခွင့်လွှတ်နိုင်သည်မှာ မိခင်၏ မေတ္တာကြောင့်ပင်တည်း။

ဘုရားရှင်အပေါ်တွင် ရန်ငြိုးဖွဲ့လိုက်သောမာဂဏ္ဍီ၏ အာဃာတ သည် သူမ၏ ဘဝဆုံးရှုံးခြင်းနှင့် အပါယ်ငရဲသို့ကျရောက်ခြင်း အ တွက် ဓာတ်ဆောင်သွားပေလိမ့်မည်။

ဗုဒ္ဓမြတ်စွာသည် မာဂဏ္ဍီအချောအလှကို အဘယ်ကြောင့် ပစ် ပစ်ခါခါ ဝေဖန်ပြောဆိုလေသနည်း။ ပုဏ္ဏားဇနီးမောင်နှံတို့သည် ကာယဂတာသတိအခြေခံရှိသူများဖြစ်ကြသဖြင့် ခန္ဓာကိုယ်ကို ဖွဲ့ စည်းထားသည့် ကောဋ္ဌာသများကို ထင်ထင်ရှားရှားပြဆိုလိုသော ကြောင့် မြတ်စွာဘုရားသည် အဆိုပါစကားစုကို မိန့်ဆိုတော်မူခြင်း ဖြစ်၏။

ပုဏ္ဏားကြီးဇနီးမောင်နှံတို့ သတိသံဝေဂရလာစဉ် မြတ်စွာဘုရား သည် မာဂဏ္ဍီယသုတ္တန်ကို ဆက်လက်ဟောကြားတော်မူ၏။ ထို

တရားဒေသနာ၏အဆုံး၌ ပုဏ္ဏားဇနီးမောင်နှံတို့သည် အနာဂါမိဖိုလ်၌ တည်ကြလေ၏။

ထို့နောက် ပုဏ္ဏားဇနီးမောင်နှံတို့သည် လူ့ဘောင်၌မနေလိုကြတော့သဖြင့် သမီးကိုပုဏ္ဏားကြီး၏ညီထံအပ်နှံပြီးလျှင် ရဟန်းပြုကြ၏။ မကြာမြင့်မီတွင် နှစ်ဦးစလုံး အာသဝေါတရားကုန်ခန်း၍ရဟန္တာများ ဖြစ်ကြလေ၏။

ပုဏ္ဏားကြီး၏ညီသည် ကောသမ္ဗီပြည့်ရှင်ဥတေနမင်းနှင့်အကျွမ်းဝင်သဖြင့် တူမဖြစ်သူမာဂဏ္ဍီအား ဘုရင့်ထံဆက်သ၏။ ဥတေနမင်းတွင် ဝါသုလဒတ္တာနှင့် သာမာဝတီဟူသော မိဖုရားကြီးနှစ်ပါးရှိနှင့်ပြီးဖြစ်၏။ လှပနုပျိုသောမာဂဏ္ဍီသည် တတိယမြောက်မိဖုရားကြီးဖြစ်လာလေ၏။

မာဂဏ္ဍီသည် မိဖုရားကြီးအဆောင်အယောင်နှင့် အာဏာကိုရလာသောအခါ မြတ်စွာဘုရားအား လက်စားချေရန် ကြံပမ်းလေတော့၏။ ရှေးဦးစွာ သေသောက်ကျူးတို့ကို တံစိုးလက်ဆောင်ပေး၍ ကောသမ္ဗီပြည်တွင်းသို့ မြတ်စွာဘုရားဆွမ်းခံကြွဝင်လာသည့်အခါ ဘုရားရှင်အား အထူးထူးအပြားပြား ကြမ်းတမ်းယုတ်ညံ့သောစကားတို့ဖြင့် ဆဲရေးတိုင်းထွာစေ၏။

"အရှင်ဘုရား...ဤမြို့၌ရန်သူပေါများလှ၏၊ အခြားတစ်မြို့သို့သွားကြပါကုန်စို့"ဟု ညီတော်အာနန္ဒာက ဘုရားရှင်အား လျှောက်ထား၏။

"အာနန္ဒာ...ဒီမြို့ကလူတွေဆဲလို့ တခြားမြို့ကိုပြောင်းသွားပါပြီတဲ့၊ အဲဒီမြို့ကလူတွေ ဆဲပြန်တော့ကော"

"နောက်တစ်မြို့ပြောင်းတာပေါ့ဘုရား"

"နောက်တစ်မြို့က ဆဲပြန်ရင်ကော"

"သည့်ပြင်တစ်မြို့ကို ပြောင်းဦးမှာပေါ့ဘုရား"

"အာနန္ဒာ…ဒီလိုမလုပ်သင့်ဘူး၊ ဒီမှာဖြစ်ပေါ်တဲ့ပြဿနာကို ဒီမှာပဲ ဖြေရှင်းသင့်တယ်။ ကောသမ္ဗီပြည်သားတွေ ဆဲနိုင်လွန်းရင် ခုနစ်ရက်ပေါ့၊ အာနန္ဒာ…စစ်မြေပြင်မှာရောက်နေတဲ့ ဆင်ပြောင်ကြီးဟာ အရပ်လေးမျက်နှာက ပစ်လွှတ်လိုက်တဲ့လေးမြားတို့ရဲ့ဒဏ်ကို ကြံ့ကြံ့ခံနိုင်ရတယ်၊ ငါဘုရားသခင်သည်လဲ တရားစစ်မြေပြင်မှာ ရောက်နေတာမို့ ဘယ်သူတွေကပဲဆဲဆဲ သည်းခံတော်မူနိုင်ပါတယ်"

မေတ္တာသည် အကျင့်ပျက်သည့် လူမိုက်များကိုပင် သည်းခံခွင့်လွှတ်နိုင်၏။ သည်းခံခြင်းသည် ကောင်းမြတ်သောတရားအပေါင်းတို့၏ရေသောက်မြစ်ကြီးဖြစ်၏။ မေတ္တာထား၍သည်းခံနိုင်သည်၊ သည်းခံနိုင်သဖြင့် မေတ္တာရှင်ဖြစ်သည်။

ခန္တီနှင့်မေတ္တာ ပေါင်းစပ်သည့်အခါ ရန်ဟူသမျှကို အောင်နိုင်၏။ ကောသမ္ဗီပြည်သားတို့ဆဲရေးခြင်းသည် ခုနစ်ရက်ကြာသည့်အခါ တိတ်ဆိတ်သွား၏။ **'ကဲ့ရဲ့ခုနစ်ရက်, ချီးမွမ်းခုနစ်ရက်'** တည်း။

မာဂဏ္ဍီမိဖုရားသည် မိမိပစ်လွှတ်လိုက်သည့်မြား မစူးရှသည်ကို မြင်ရသောအခါ မကျေမချမ်းဖြစ်ကာ မြတ်စွာဘုရားအား ကြည်ညိုနေသော သာမာဝတီမိဖုရားဘက်သို့ မြားဦးလှည့်လိုက်၏။

**သာမာဝတီ** သည် ပန်းအဝယ်တော်ကျွန်မတစ်ဦးဖြစ်သူ ခုဇ္ဇုတ္တရာ ထံမှတစ်ဆင့် ဗုဒ္ဓမြတ်စွာ၏တရားတော်ကို နာကြားရသဖြင့် အခြွေအရံငါးရာနှင့်အတူ သောတာပန်ဖြစ်ခဲ့သူတည်း။ သို့ရာတွင် ဥတေနမင်းက ရတနာသုံးပါးကို မကြည်ညိုသေးသည့်အတွက် မြတ်စွာ

ဘုရားကိုပွင့်ပွင့်လင်းလင်းမကြည်ညိုဝံ့ချေ။ အဆောင်နံရံ၌အပေါက်ကလေးများဖောက်ကာ မြတ်စွာဘုရားဆွမ်းခံကြွလာသည်ကို ချောင်းမြောင်း၍ တိတ်တခိုးကြည်ညိုနေကြရ၏။

တစ်နေ့တွင် အဆောင်ကူးလာသော မာဂဏ္ဍီသည် သာမာဝတီတို့ တိတ်တခိုးချောင်းကြည့်နေသည်ကို မြင်တွေ့သွား၏။ မြတ်စွာဘုရားအား ကြည်ညိုနေသည်ကိုသိရသဖြင့် ဘုရင့်အား ကုန်းချောလျှောက်ထားလေ၏။

"မောင်တော်ဘုရား…သာမာဝတီတို့ဟာ အပြင်မှာအမြင်ရှိနေကြတယ်၊ မောင်တော့်အပေါ် မေတ္တာကွက်ပြီး အသက်အန္တရာယ်ပြုဖို့ ကြံစည်နေပုံရတယ်၊ မယုံရင် ကိုယ်တိုင်ရှုစားတော်မူပါ"

ဘုရားရှင်ဆွမ်းခံကြွချိန်၌ ဘုရင်အား သာမာဝတီမိဖုရားအဆောင်သို့ မာဂဏ္ဍီဖိတ်ခေါ်သွား၏။ သို့အတွက် သာမာဝတီတို့ ချောင်းကြည့်နေကြသည်ကို ဘုရင်သည် ပက်ပင်းတွေ့မြင်ရ၏။ သာမာဝတီ မိဖုရားကလည်း အမှန်အတိုင်းဝန်ခံလျှောက်ထား၏။

ဘုရင်သည် စိတ်ခုခြင်းမဖြစ်၊ နံရံပေါက်များကို ပိတ်စေကာ အပြင်သို့ လွတ်လွတ်လပ်လပ်ကြည့်နိုင်ရန် ပြတင်းများကိုပင် ဖောက်လုပ်စေ၏။

မာဂဏ္ဍီသည် အကြံမအောင်၍ မကျေနပ်။ အကြံသစ်ထုတ်ပြန်၏။ ကြက်အရှင်ရှစ်ကောင်ကို ဘုရင့်ထံသို့ယူလာစေပြီးလျှင် "မောင်တော်ဘုရား… မောင်တော် အရက်နှင့်ပွဲတော်တည်ရန် ဤကြက်အရှင်တို့ကို သာမာဝတီတို့ထံ ပို့စေပြီး ကြော်လှော်ခိုင်းတော်မူပါဘုရား"

ဘုရင်အမိန့်ပေးလိုက်၏။ သို့ရာတွင် သောတာပန်များဖြစ်ကြ

သော သာမာဝတီနှင့်အခြွေအရံများသည် ကြက်အရှင်တို့ကို မသတ်ဘဲ ပြန်ပေးလိုက်ကြ၏။

မာဂဏ္ဍီမိဖုရားက ဘုရင်အား လျှောက်ထားပြန်၏။

“မောင်တော်ဘုရား...ဤကြက်တို့ကို ဂေါတမရဟန်းကြီး အတွက် ဆွမ်းချက်ပေးရန် သာမာဝတီတို့ထံ ပို့စေပါဦးဘုရား”

ဘုရင်ကလည်း မာဂဏ္ဍီအလိုကျပို့စေ၏။ သို့ရာတွင် မာဂဏ္ဍီသည် လမ်းခုလတ်မှဖြတ်၍ ကြက်အရှင်တို့ကို ကြက်အသေတို့နှင့် လဲပေးလိုက်၏။ သို့အတွက် သာမာဝတီတို့က ကြက်သေများကို လက်ခံယူပြီး ဆွမ်းချက်ပေးရန် တာဝန်ယူကြ၏။

“မောင်တော်သိပြီမဟုတ်လား၊ သာမာဝတီတို့ဟာ မောင်တော့်ထက် ရဟန်းဂေါတမအပေါ်မှာ မေတ္တာကဲသာနေကြတယ်ဆိုတာ”

ဥတေနမင်းသည် ခပ်မဆိတ်ပင်နေလိုက်ပြန်၏။ သို့အတွက် မာဂဏ္ဍီသည် အကြံသစ်များကို ကြံစည်ရပြန်၏။ နောက်ရသည့် အကြံအစည်မှာ ထိတ်လန့်စဖွယ်ပင်တည်း။

ဥတေနမင်းသည် မိဖုရားကြီးသုံးဦးတို့၏အဆောင်များသို့ ခုနစ်ရက်လျှင် တစ်ဆောင်ကျ လှည့်ပြောင်း၍စံနေလေ့ရှိ၏။ မာဂဏ္ဍီ အဆောင်မှ သာမာဝတီအဆောင်သို့ ဘုရင်ကူးပြောင်းရန်ရှိသောအခါ မာဂဏ္ဍီသည် ဘုရင်အမြဲဆောင်ယူလေ့ရှိသော စောင်းကောက်ကြီး၏ အိုးထဲ၌ မြွေဆိုးတစ်ကောင်ကို ထည့်စေပြီး အပေါက်ဝကို အဝတ်ပန်းလုံးဖြင့် ဆို့ပိတ်ထားစေ၏။

“မောင်တော်...ကနေ့ အဆောင်ကူးလို့ မတော်ဘူးထင်တယ်၊ ညဉ့်က နှမတော် အိပ်မက်မကောင်းဘူး၊ မောင်တော်ရဲ့ အသက်အန္တရာယ်စိုးရိမ်ရတယ်”

ဘုရင်က နားမထောင်ဘဲ အဆောင်ကူး၏။ မာဂဏ္ဍီက လိုက်ခွင့်တောင်း၍ တားမြစ်သည့်ကြားက အတင်းလိုက်ပါလာ၏။ သာမာဝတီတို့ ညှော်ခံကျွေးမွေးသည်များကို ဘုရင်ပွဲတော်တည်ပြီးသောအခါ စက်တော်ခေါ်လေ၏။ ထိုအခါ မာဂဏ္ဍီသည် ဘုရင့်ခေါင်းရင်း၌ ချထားသည့်စောင်းဆီသို့ မယောင်မလည်သွား၍ အဝတ်ပန်းလုံးအဆို့ကို ဖွင့်လိုက်၏။

မြွေသည် ဆာလောင်မွတ်သိပ်နေသည်ဖြစ်၍ စောင်းထဲမှထွက်လာပြီးလျှင် သလွန်ပေါ်၌ တရှူးရှူးမာန်ဖီလေတော့၏။ မာဂဏ္ဍီသည် အလန့်တကြားအော်ဟစ်ကာ သာမာဝတီတို့ကို ဆဲဆိုမြည်တွန်လေ၏။ ဘုရင်လန့်နိုးလာပြီး မြွေဆိုးကိုမြင်လျှင် အမျက်ခြောင်းခြောင်းထွက်လေတော့၏။ ရှေးကမယုံကြည်ခဲ့သော မာဂဏ္ဍီ၏ လှည့်ကွက်များကိုလည်း ပြန်လည်သတိရလာ၏။

အမျက်ဒေါသ၏ လွှမ်းမိုးခြင်းကို လုံးဝခံနေရသော ဥတေနမင်းသည် ဆင်ခြင်ဉာဏ်တရားဆိတ်သုဉ်းကာ သာမာဝတီနှင့် မောင်းမငါးရာတို့အား ကိုယ်တိုင်အဆိပ်လူးမြားတို့ဖြင့် ပစ်သတ်ရန်စီစဉ်လေတော့၏။

မာဂဏ္ဍီ၏ အောင်ပွဲ ရချိန်တည်း။ သာမာဝတီသည် မောင်းမငါးရာတို့၏ ထိပ်ဆုံး၌ရပ်တည်လျက် ...

"ညီမတော်တို့ ... ငါတို့မှာ တရားတော်ကလွဲလို့ တခြားအားကိုးစရာမရှိတော့ဘူး၊ ကိုယ့်တရားကိုသာ နှလုံးသွင်းကြပါ၊ မောင်တော်နဲ့ ညီမတော်မာဂဏ္ဍီတို့ကို အမျက်မသိုကြနဲ့၊ ကိုယ့်ကံကြမ္မာအတိုင်းဖြစ်ကြရတာပဲ။ သည်းခံခွင့်လွှတ်ပြီး မေတ္တာပွားပို့ကြပါ"

ဥတေနမင်းသည် သားချိုလေးကြီး၏ ညှို့ကြိုးကိုတင်၍ အဆိပ်

လူးမြားကို တပ်ဆင်လိုက်၏။ ကိလေသာတရားတို့၏ လှည့်စားမှုကြောင့် အချစ်ကြီးရာက အမျက်ကြီးရလေပြီ။ သာမာဝတီ၏ ရင်ညွန့်တည့်တည့်ကိုချိန်ရွယ်လျက် လေးခလုတ်ကို ဖြုတ်လိုက်၏။

"ဒေါင်း…ရွှီး…"

ပုံမှန်ဖြစ်စဉ်အတိုင်းသာဆိုလျှင် စက္ကန့်ပိုင်းအတွင်း၌ပင် သာမာဝတီသည် သွေးအိုင်ထဲ၌လဲခွေ၍ မာဂဏ္ဍီသည် အောင်ပွဲဆင်ရတော့မည်ဖြစ်သည်။ သို့ရာတွင် မြားသည် လေးအိမ်မှအရှိန်ပြင်းစွာ ထွက်ခွာသွားပြီးလျှင် သာမာဝတီထံသို့မရောက်ဘဲ ဥတေနမင်းထံသို့ ဦးလှည့်လာ၏။

ဥတေနမင်းသည် အထူးထိတ်လန့်ပြီး အထူးအံ့သြသွားလေ၏။

"အသက်မရှိတဲ့မြားကတောင် သာမာဝတီရဲ့ဂုဏ်ကျေးဇူးကို သိတတ်ပေတယ်၊ ငါ့မှာလူဖြစ်ပါလျက် မသိချက်နာလှလေခြင်း…"

ရှင်ဘုရင်သည် သားချိုလေးကြီးကို ပစ်ချကာ သာမာဝတီ၏ ခြေရင်း၌ထိုင်၍ ရှိခိုးတောင်းပန်လေ၏။

"သာမာဝတီ…မောင်တော်မှားပါပြီ၊ မောင်တော်အား ခွင့်လွှတ်ပါ၊ မောင်တော်ရဲ့ဦးခေါင်းဟာ အိုးထိန်းစက်ကဲ့သို့ ချာချာလည်နေတယ်၊ မောင်တော်ဘာလုပ်ရမှန်း မသိတော့ဘူးကွယ်၊ မောင်တော့်ကို ကယ်ပါ၊ မောင်တော်အားထားကိုးစားပါတယ် နှမတော်"

သာမာဝတီသည် တုန်လှုပ်ခြင်းမရှိ၊ ပကတိအေးငြိမ်းနေ၏။

"မောင်တော်…ရတနာသုံးပါးကို အားထားကိုးစားပါ၊ လောကမှာ ဘုရားရတနာ၊ တရားရတနာ၊ သံဃာရတနာတို့ထက် မြင့်မြတ်တာ မရှိဘူး။ ရတနာသုံးပါးဟာ ဒီဘဝမှာ အေးငြိမ်းဖို့အတွက်ရော၊

တမလွန်ဘဝတွေမှာ ချမ်းသာဖို့အတွက်ရော အားထားကိုးကွယ်ရာ အစစ်ဖြစ်ပါတယ် မောင်တော်"

ဥတေနမင်းသည် သမ္မာဒိဋ္ဌိအယူသို့ကူးပြောင်းလာပြီးလျှင် ဘုရားရှင် အမှူးရှိသော သံဃာမြတ်တို့အား ခုနစ်ရက် ခုနစ်လီအလှူကြီး ပေးတော်မူ၏။

မေတ္တာက အောင်ပွဲခြိမ့်ခြိမ့်ခံနေရသည့်အခါ အာဃာတ ကျေးကျွန်ဖြစ်နေသေးသော မာဂဏ္ဍီမိဖုရားသည် အနာပေါ်တုတ်ကျသည်သို့ နာကြည်းနေလေ၏။

မာဂဏ္ဍီသည် အချက်ကောင်းကိုစောင့်ဆိုင်းနေပြန်၏။ တစ်နေ့တွင် ဥတေနမင်းသည် ဥယျာဉ်ကစားထွက်တော်မူ၏။ ထိုအခါ မာဂဏ္ဍီသည် ဦးရီးတော်နှင့်ဆွေမျိုးတော်တို့၏ အကူအညီဖြင့် သာမာဝတီတို့၏ အဆောင်ကို မီးတင်ရှို့စေ၏။ သာမာဝတီနှင့် မောင်းမငါးရာတို့သည် မီးလောင်တိုက်ထဲ၌သေဆုံးကြရလေ၏။ သာမာဝတီသည် မသေဆုံးမီ တရားကိုနှလုံးသွင်းသဖြင့် သကဒါဂါမ်, အနာဂါမ်အဖြစ်သို့ ကူးပြောင်းသွားနိုင်ခဲ့၏။

သာမာဝတီ၏ မေတ္တာသည် အဆိပ်လူးမြားနှင့် ဘုရင်၏ အမျက်ဒေါသတို့ကို အောင်နိုင်ခဲ့သော်လည်း ရှေးတစ်ဘဝက နိရောဓသမာပတ် ဝင်စားနေသော အရှင်ပစ္စေကဗုဒ္ဓါတစ်ပါးကို မောင်းမငါးရာတို့နှင့်အတူ မီးတင်ရှို့မိခဲ့သည့်ဝဋ်ကြွေးကိုကား မတားဆီးနိုင်ခဲ့ချေ။

"ခံရသူမှာအပေါင်း၊ ပြုသူမှာအသစ်" ပင်တည်း။ မာဂဏ္ဍီနှင့် ဆွေမျိုးများသည် ကြီးလေးသည့်မကောင်းမှုဒုစရိုက်များကို ပြုလုပ်ခဲ့သည်နှင့်အညီ ဥတေနမင်းဥယျာဉ်ကစားရာမှ ပြန်ကြွလာသည့်

အခါ ရက်ရက်စက်စက်သေဒဏ်အပြစ်ပေးခြင်းကို မရှုမလှခံကြရလေသတည်း။

## ပွက်ပွက်ဆူနေသည့်ထောပတ်ရည်ကို အေးကြည်စေသော မေတ္တာ

ဘုရားရှင်လက်ထက်တော်၌ မေတ္တာစွမ်းရည်ကို ထူးထူးခြားခြား အံ့မခန်းလိုလို လက်တွေ့ပြသခဲ့သည့် သာဝိကာမတစ်ဦးမှာ သူဌေးဇနီး **ဥတ္တရာ** ဖြစ်၏။

ဥတ္တရာ၏ မိဘနှစ်ပါးသည် ရာဇဂြိုဟ်သူဌေးကြီးဦးသုမန၏ အခစား ကျွန်များ ဖြစ်ခဲ့ကြဖူး၏။ တစ်ပြည်လုံး နက္ခတ်သဘင်ခြိမ့်ခြိမ့်သဲ ဆင်ယင်နေကြသည့်ကာလ၌ပင် လယ်ငှားဦးပုဏ္ဏသည် တစ်နေ့လုပ်မှတစ်နေ့စားရသဖြင့် လယ်ထွန်ထွက်ခဲ့ရ၏။

သို့သော် ထိုနေ့ကား ထူးခြား၏။ ပညာဇောဒဂ်အရှင်သာရိပုတ္တရာသည် နိရောဓသမာပတ်မှထ၍ ချီးမြှောက်သင့်သူများကို ရှုကြည့်သည့်အခါ ဦးပုဏ္ဏ၏ မိသားစုကို မြင်တော်မူ၏။ သို့အတွက် နံနက်စောစောတွင် ဦးပုဏ္ဏလယ်ထွန်ရာအရပ်သို့ မထေရ်မြတ်ကြွလာ၏။ ဦးပုဏ္ဏက ဝမ်းမြောက်ဝမ်းသာဖြင့် တံပူနှင့်မျက်နှာသစ်ရေတို့ကို လှူဒါန်း၏။

ထို့နောက် ဆွမ်းခံချိန်တွင် ဦးပုဏ္ဏအား ထမင်းပို့ရန် အိမ်မှထွက်လာသော ဇနီးဘာရိတာ၏ ရှေ့တူရူမှ မထေရ်မြတ်ကြွလာပြန်၏။

ဘာရိတာသည် "ယနေ့မှမထေရ်မြတ်အား ဆွမ်းလောင်းခွင့်ရပေသည်" ဟု သဒ္ဓါတရားပြည့်ဖြိုးစွာဖြင့် ယာဂုဆွမ်းကို အကုန်လောင်းလှူလိုက်လေ၏။ ထို့နောက် အိမ်သို့ပြန်၍ ယာဂုထမင်း တစ်ဖန်ချက်ပြီးလျှင် လယ်ကွင်းသို့ထွက်လာ၏။

ဦးပုဏ္ဏသည် လယ်တစ်ကွက်ထွန်ယက်ပြီး၍ မောပန်းဆာလောင်လှသဖြင့် သစ်ပင်ရိပ်၌ လဲလျောင်းနေ၏။ ဘာရိတာသည် လင်တော်မောင် အမျက်ပြေရေးနှင့် စိတ်ချမ်းသာရေးအတွက် "ဝမ်းမြောက်စရာသတင်းပါလာသည်"ဟု အဝေးကပင် အော်ပြောလေ၏။ အနီးသို့ရောက်သည့်အခါ အရှင်သာရိပုတ္တရာအား ဆွမ်းလောင်းလှူရသည့်အကြောင်းကို ဝမ်းသာအားရပြောပြလေ၏။

ဦးပုဏ္ဏကလည်း မထေရ်မြတ်အား တံပူနှင့် မျက်နှာသစ်ရေလောင်းလှူခဲ့ရကြောင်းကို ပြောပြကာ ဇနီးမောင်နှံတို့ အလွန်ပီတိဖြစ်နေကြ၏။ ထမင်းစားပြီးသော် ဦးပုဏ္ဏတစ်ရေးအိပ်ပျော်သွား၏။ နိုးလာသည့်အခါ စောစောက မိမိထွန်ယက်ခဲ့သည့်လယ်ထွန်စာအားလုံးသည် ရွှေတုံးရွှေခဲကြီးများဖြစ်နေသည်ကို အံ့သြစွာတွေ့ကြရလေ၏။ ထိုနေ့မှစ၍ ဦးပုဏ္ဏသည် ဘုရင်အသိအမှတ်ပြုသည့် သူဌေးကြီးတစ်ဦးဖြစ်လာလေ၏။

သူဌေးကြီးဦးပုဏ္ဏသည် အိမ်သစ်ဆောက်၍ အိမ်တက်မင်္ဂလာပွဲကို ခုနစ်ရက်, ခုနစ်လီကျင်းပကာ ဘုရားရှင်အမှူးပြုသည့် သံဃာတော်များအား ပင့်ဖိတ်လှူဒါန်း၏။ မြတ်စွာဘုရား၏ တရားတော်များကို နာကြားကြရသဖြင့် သားအမိသားအဖသုံးဦးစလုံး သောတာပန် ဖြစ်ကြလေ၏။

ဥတ္တရာအရွယ်ရောက်လာသောအခါ သူဌေးဦးသုမနသည် မိမိသားနှင့် ကြောင်းလမ်းလာ၏။ ကျေးဇူးရှင်များဖြစ်သော်လည်း မိစ္ဆာဒိဋ္ဌိများဖြစ်နေ၍ ဦးပုဏ္ဏတို့က ငြင်းပယ်လိုကြ၏။ သို့သော် လူကုံထံအသိုင်းအဝန်းက ဝိုင်း၍တိုက်တွန်းကြသဖြင့် ဥတ္တရာသည် ဦးသုမနသူဌေးအိမ်သို့ လိုက်ပါသွားရလေ၏။

မိစ္ဆာဒိဋ္ဌိသူဌေးအိမ်၌ မြတ်စွာဘုရားနှင့်သံဃာတော်များကို ဖူး တွေ့ခွင့်မရ၊ ဒါနမပြုရ၊ သီလမဆောက်တည်ရသဖြင့် ဥတ္တရာသည် အကျဉ်းထောင်၌နေရသည့်ပမာ အလွန်စိတ်ဆင်းရဲကျဉ်းကျပ်နေ ၏။ ဖခင်ထံသို့စာရေးလိုက်ရာ ဖခင်က အသပြာငွေ ၁၅၀၀၀ ပေးပို့ လိုက်ပြီး အကြံကောင်းပေးလိုက်၏။

ထိုအကြံအရဥတ္တရာသည် ရာဇဂြိုဟ်ပြည်၌ အလှဘုရင်မတစ်ဦး ဖြစ်သူ **သီရိမာ** ခေါ် ပြည့်တန်ဆာထံသို့သွား၏။ သီရိမာနှင့် တစ်ညဥ့် တာ ပျော်ပါးလိုသောယောကျ်ားသည် အသပြာ ၁၀၀၀ ပေးဆောင် ရ၏။ ဥတ္တရာက ဝါတွင်းသုံးလ၏ နောက်ဆုံး ၁၅ ရက်အတွက် မိမိ ၏ ခင်ပွန်းအား ဖြေဖျော်ပေးရန် သီရိမာအား ငှားရမ်းလိုက်၏။

ဥတ္တရာသည် ခင်ပွန်းထံသို့ သီရိမာကို ခေါ်ဆောင်လာပြီးနောက် မိမိအား ၁၅ ရက်ကြာ သံဃာများကို ဆွမ်းလောင်းလှူခွင့်ပြုရန် ပန် ကြားသောအခါ ခင်ပွန်းသည် သီရိမာ၏ အလှ၌ ယစ်မူးသဖြင့် လိုက် လျောလိုက်လေ၏။

ဥတ္တရာသည် ဘုရားအမှူးပြုသော သံဃာတော်များအား ၁၅ ရက် တိုင်တိုင် ဆွမ်းအလှူခံကြွရန် ပင့်ဖိတ်ပြီးနောက် ကိုယ်တိုင်မီးဖို ချောင်သို့ဝင်ကာ အခြွေအရံများနှင့်အတူ ကြော်လှော်ချက်ပြုတ်လေ ၏။ မိမိစိတ်တိုင်းကျလှူဒါန်းရ၊တရားနာရသဖြင့် ဥတ္တရာပျော်မဆုံး ဖြစ်နေလေ၏။ ခင်ပွန်းလင်သည်လည်း သီရိမာနှင့်အတူ ပျော်မဆုံး မော်မဆုံးဖြစ်နေလေ၏။

ဤသို့ဖြင့် ၁၅ ရက်မြောက်သောနံနက်ခင်းသို့ ရောက်လာ၏။ သူဌေးသားသည် ပြတင်းပေါက်အနီး၌ရပ်၍ မီးဖိုချောင်ဘက်သို့

လှမ်းကြည့်လိုက်သည်တွင် ချွေးတလုံးလုံး ပေပေကျံကျံနှင့် စိမ်လုပ်ကိုင်နေသော ဥတ္တရာကို မြင်ရသဖြင့် ...

"အင်း ...အမိုက်မ၊ သူဌေးအိမ်မှာနေပြီး သူဌေးစည်းစိမ်ကို ခံစားရကောင်းမှန်း မသိဘူး၊ ဘာမဟုတ်တဲ့ ဦးပြည်းခေါင်းတုံးတွေ အတွက် အပင်ပန်းခံချက်ပြုတ်နေလိုက်တာ သနားစရာပါလား" ဟု ရယ်သွမ်းသွေး၍ လှည့်ထွက်သွား၏။

"ဘာကြောင့် ရယ်သွမ်းသွေးပြီး ရေရွတ်ရသလဲ" ဟု သိရိမာက သိလိုသဖြင့် ပြတင်းမှလှမ်းကြည့်လိုက်ရာ ဥတ္တရာကိုမြင်ရလေ၏။ သိရိမာသည် သူဌေးသားနှင့်အတူ လင်မယားသဖွယ် ၁၅ ရက်တိုင်တိုင် နေထိုင်ခဲ့ရသဖြင့် အိမ်ရှင်မစိတ်ပေါက်လာ၏။

"ဒီကောင်မ ...ငါ့ခင်ပွန်းနဲ့ အဆက်အသွယ်ရှိရကောင်းလား" ဟု မနာလိုစိတ်ဖြစ်ပြီး ဒေါသခိုးမွှန်လာ၏။ ထို့ကြောင့် အိမ်ကြီးပေါ်မှ သုတ်သီးသုတ်ပျာဆင်းလာပြီးလျှင် မီးဖိုချောင်ထဲဝင်လာ၏။ မုန့်ကြော်လက်စ ထောပတ်အိုးထဲမှ ထောပတ်ဆီပူကို ယောက်ချိုဇွန်းကြီးဖြင့် ခပ်ယူပြီးလျှင် ဥတ္တရာထိုင်နေရာသို့ လျှောက်လာ၏။

သိရိမာကိုမြင်တွေ့လိုက်သည်နှင့်တစ်ပြိုင်နက် သိရိမာ၏ကျေးဇူးကြောင့် မိမိစိတ်တိုင်းကျ အလှူဒါနပြုနေရသည်ကို ဥတ္တရာတွေးမိပြီး သိရိမာကိုချစ်ခင်သောစိတ် တဖွားဖွားဖြစ်ပေါ်လာ၏။

မေတ္တာပွားပို့ရန်အတွက် အခြေခံလိုအပ်ချက်တစ်ရပ်မှာ 'ကောင်းကွက်ကိုရှာ၍ မေတ္တာပို့ရန်' ဖြစ်၏။ ဥတ္တရာသည် သိရိမာ၏ ကောင်းကွက်ကိုချက်ချင်းမြင်၍ 'ချမ်းသာပါစေ ...ချမ်းသာပါစေ' ဟု မေတ္တာပွားပို့နေ၏။

သိရိမာ၏ မသက်ာဖွယ်အမူအရာကို မြင်ရသောအခါ၌လည်း

ဥတ္တရာသည် မေတ္တာမပျက်ဘဲ “ငါ့သူငယ်ချင်းမရဲ့ကျေးဇူးက ကြီးလိုက်တာ၊ ငါ့သူငယ်ချင်းမ ချမ်းသာပါစေ၊ တကယ်လို့များ ထောပတ်ဆီပူကို ငါ့ဦးခေါင်းပေါ် လောင်းချရင်လဲ ငါ့မေတ္တာဟာ သူ့အပေါ်မှာ မပျက်ရိုးမှန်လျှင် မပူလောင်ပါစေနဲ့၊ ငါ့မေတ္တာပျက်ခဲ့လျှင် ပကတိအတိုင်း ပူလောင်ပါစေ” ဟု သစ္စာပြုနေမိ၏။

သီရိမာသည် ထောပတ်ဆီပူကို ဥတ္တရာ၏ ဦးခေါင်းပေါ်သို့ လောင်းချလိုက်၏။ ထိုဆီပူသည် ပိန်းကြာဖက်ပေါ်တွင် ရေမတင်သည့်အလား ဥတ္တရာအား ပူလောင်ခြင်းမဖြစ်ဘဲ အေးမြစွာလျှောဆင်းသွားလေ၏။

သီရိမာသည် ထောပတ်အိုးဆီသို့ချက်ချင်းသွားကာ နောက်ထပ်ဆီပူတစ်ဇွန်းခပ်ယူလာပြန်၏။ သို့ရာတွင် ဤအကြိမ်၌ ဥတ္တရာ၏ အခြွေအရံများက ဝိုင်းအုံရိုက်နှက်ကြသဖြင့် သီရိမာလဲကျကာ ဆီပူလောင်ခြင်းကို ခံရလေ၏။

ဥတ္တရာသည် အမြန်ပြေးလာ၏။ အခြွေအရံများကို ဆွဲဖယ်လိုက်ပြီးလျှင် သီရိမာကို ပွေ့ချီလိုက်၏။ ထို့နောက် သီရိမာ၏ ဒဏ်ရာများကို ဆေးကြောပြီးလျှင် ဆေးလိမ်းပေး၏။

ဥတ္တရာ၏ မေတ္တာဓာတ်လှိုင်းသည် သီရိမာ၏ စိတ်မနောကို အပြင်းအထန် ရိုက်ခတ်လိုက်၏။ ရန်သူကို မေတ္တာဖြင့်လွှမ်းခြုံလိုက်ခြင်းပင်တည်း။

သီရိမာသည် အကြီးအကျယ်နောင်တရလာ၏။ ဥတ္တရာကိုလက်အုပ်ချီမိုးကာ...

“ဥတ္တရာ...သီရိမာ မှားသွားတယ်၊ ခွင့်လွှတ်ပါနော်”

“သူငယ်ချင်း...ငါ့မှာ အဖေရှိတယ်၊ ခုလိုစိတ်မျိုးထားနိုင်တာ

ဟာ အဖေ့ကျေးဇူးကြောင့်ပါပဲ။ အဖေ့ကို ကန်တော့ရင် ငါကျေနပ်ပြီး ခွင့်လွှတ်ပါတယ်”

“ကောင်းပါပြီ၊ သူဌေးကြီးဦးပုဏ္ဏကိုလဲ ကန်တော့ပါ့မယ်”

“မဟုတ်သေးဘူး သူငယ်ချင်း၊ ဦးပုဏ္ဏဟာ ဥတ္တရာရဲ့လောကီအဖေပါ၊ ဥတ္တရာမှာ လောကုတ္တရာအဖေရှိသေးတယ်၊ အဲဒီအဖေက မြတ်စွာဘုရားပါ၊ ဘုရားရှင်ကို ကန်တော့ရင် ဥတ္တရာကျေနပ်ပါပြီ”

“ကောင်းပါပြီ…ကန်တော့ပါ့မယ်၊ ဘယ်လိုကန်တော့ရမှာလဲ”

သိရိမာသည် ရတနာသုံးပါးကို ဆည်းကပ်ကိုးကွယ်သူ မဟုတ်၍ အခက်တွေ့နေ၏။ ဥတ္တရာက ဤနောက်ဆုံးနေ့ ဆွမ်းကျွေးပွဲတွင် သိရိမာပါ ဘုရားကိုလာရောက်ကန်တော့ရန် မှာကြားလိုက်၏။

သိရိမာသည် အမျိုးသမီးငါးရာခြံရံလျက် ဥတ္တရာတို့နှင့်အတူ ဆွမ်းကပ်လှူဒါန်းပြီးလျှင် တရားနာ၏။ ဖြစ်ပျက်ခဲ့ပုံအလုံးစုံကိုလည်း သူနှင့်ဥတ္တရာတို့သည် မြတ်စွာဘုရားအား လျှောက်ထားကြ၏။

မြတ်စွာဘုရားသည် ဥတ္တရာအား ချီးမွမ်းတော်မူပြီး တရား ဒေသနာ ဟောကြားတော်မူ၏။

*“အက္ကောဓေန ဇိနေ ကောဓံ = အမျက်ထွက်သူကို အမျက်မထွက်ခြင်းဖြင့်သာ အောင်နိုင်ရာ၏။ တစ်နည်း–ဒေါသကို မေတ္တာဖြင့်သာ ငြိမ်းသတ်ရာ၏”*

တရားဒေသနာအဆုံးတွင် သိရိမာနှင့်အမျိုးသမီးငါးရာတို့သည် သောတာပန်အဖြစ်၌ တည်ကြလေ၏။

မေတ္တာ၏ အောင်ပွဲကြီးပေတည်း။

## မေတ္တာရှင်သည်ကရုဏာရှင်

မေတ္တာသည် သတ္တဝါတို့ကို ချမ်းသာစေလိုသည့်သဘောဖြစ်၏။

ကရုဏာသည် ဆင်းရဲနေကြသောသတ္တဝါတို့ကို ဆင်းရဲတွင်းမှ လွတ်မြောက်စေလိုသောသဘောဖြစ်၏။ ဆင်းရဲမှလွတ်မြောက်လျှင် ချမ်းသာတော့၏။ သို့အတွက် မေတ္တာနှင့်ကရုဏာတို့သည် မကွေ မကွာ ယှက်နွယ်နေကြ၏။

မေတ္တာပွားနိုင်သူသည် ကရုဏာစိတ်ထားနိုင်သူဖြစ်၏။ "သတ္တဝါ အားလုံး ချမ်းသာကြပါစေ" ဟု မေတ္တာဖြန့်ပွားနိုင်လျှင် သနားကရုဏာစိတ်လည်း ထားနိုင်လာ၏။

ကရုဏာပွားနိုင်သူသည်လည်း မေတ္တာစိတ်ထားနိုင်သူဖြစ်၏။ "သတ္တဝါအားလုံး ဆင်းရဲမှကင်းလွတ်ကြပါစေ" ဟု ကရုဏာဖြန့် ပွားနိုင်လျှင် ချစ်ခြင်းမေတ္တာကိုလည်း ပွားနိုင်တော့သည်သာဖြစ်၏။

မေတ္တာပွားသည့်အခါ သတ္တဝါများကို ဒုက္ခိတ – ဆင်းရဲသည့် သတ္တဝါ၊ သုခိတ– ချမ်းသာသည့်သတ္တဝါဟူ၍ မခွဲခြားဘဲ သတ္တဝါ တစ်ဦးကိုဖြစ်စေ, အများကိုဖြစ်စေ အာရုံပြုလျက် *"ကိုယ်စိတ်နှစ်ဖြာ၊ ဘေးရန်ကွာ၊ ချမ်းသာကိုယ်စိတ်မြဲပါစေ"* ဟု အကြိမ်ကြိမ်ပွားပို့ရ၏။

ကရုဏာပွားပို့သည့်အခါ ဒုက္ခိတသတ္တဝါကို အာရုံပြုရ၏။ အမှန် မှာ ဒဏ်ရာဒဏ်ချက်ဖြင့် သို့မဟုတ် ဖျားနာမှု၊ ငတ်မွတ်မှုဖြင့် ညည်း ညူနေသော သတ္တဝါတို့သာ ဆင်းရဲကြသည်မဟုတ်။ သံသရာဝဋ်ဆင်းရဲ၌ ကျင်လည်နေကြရသည့်သတ္တဝါမှန်သမျှ ဆင်းရဲနေကြသည် သာ ဖြစ်၏။

ဤဆင်းရဲသော သတ္တဝါတို့ကို အာရုံပြု၍ ' *"သဗ္ဗေသတ္တာ ဒုက္ခာ မုစ္စန္တု၊ = သတ္တဝါအားလုံး ဆင်းရဲမှကင်းလွတ်ကြပါစေ"* ဟု ပွားပို့

လျှင် ကရုဏာပွားပို့သည်မည်၏။ ဤသို့ပွားပို့သည့်အခါ ချမ်းသာစေလိုသောသဘောလည်း တစ်ပါတည်းပါသွားပြီးဖြစ်ပေ၏။

'မေတ္တာနှင့် ကရုဏာ' ဘယ်ဟာပိုကောင်းသလဲဟုမေးလျှင် အတူတူကောင်းသည်ဟု ဖြေရပေမည်။ ဘယ်တရားကို အရင်စပွားရမလဲဟုမေးလျှင် မိမိစိတ်ထက်သန်သည့်တရားက စပြီးပွားပါဟု ထပ်ဖြေရမည်ဖြစ်၏။

မြတ်စွာဘုရားကို 'မေတ္တာရှင်ကြီး' ဟုမခေါ်ဘဲ 'မဟာကရုဏာရှင်' ဟု ခေါ်လေ့ရှိကြ၏။ အဘယ့်ကြောင့်နည်းဟူမူ အိုနာသေရေး ဒုက္ခဘေးကြီးတို့ဖြင့် အဖန်တလဲလဲ အမြဲနှိပ်စက်ခံနေကြရသော သတ္တဝါတို့ကို သနားကြင်နာမှုနှင့်ကယ်တင်လိုသည့်ဆန္ဒက ပြင်းပြတော်မူခြင်းကြောင့်ဖြစ်၏။

သတ္တဝါတို့ကိုကယ်တင်လိုသော ကရုဏာဆန္ဒက ကြီးမြတ်နေသောအခါ အားကောင်းရာကို ဦးစားပေး၍ 'မဟာကရုဏာရှင်' ဟု ခေါ်တွင်ရ၏။ သို့သော် မေတ္တာရှိ၍သာ သနားကြင်နာသည်၊ မေတ္တာမရှိလျှင် မုန်းတီးနေလျှင် သနားကြင်နာခြင်းမဖြစ်ပါ။ ဥပမာ– မိမိရန်သူ ဆင်းရဲဒုက္ခရောက်လျှင် ဝမ်းတောင်သာမိကြသေး၏။

ထို့ကြောင့် မေတ္တာကြီးလျှင် ကရုဏာကြီးသည်။ ကရုဏာကြီးလျှင် မေတ္တာကြီးသည်။ မဟာကရုဏာရှင်သည် မဟာမေတ္တာရှင်ပေတည်း။

## မေတ္တာရှင်သည် သစ္စာရှင်

မေတ္တာသည် သတ္တဝါတို့ကို ချစ်ခင်ချမ်းသာစေလို၏၊ ကြီးပွားတိုးတက်စေလို၏။ သတ္တဝါတို့ကိုချစ်ခင်သူသည် မည်သူ့ကိုမျှ ထိခိုက်နစ်နာစေလိုသောစိတ်မရှိချေ။ သတ္တဝါတို့ကို ချမ်းသာစေလိုသောသူသည် မည်သူ့ကိုမျှ ကိုယ်စိတ်ဆင်းရဲအောင် ပြုလုပ်မည်မဟုတ်ပေ။ သတ္တဝါတို့ကြီးပွားတိုးတက်ခြင်းကို အလိုရှိသောသူသည် မည်သူ့ကိုမျှဖိနှိပ်ချုပ်ချယ်လိုမှု, ခေါင်းပုံဖြတ်၍ အမြတ်ကြီးစားလိုမှု ရှိမည်မဟုတ်ချေ။

မိမိကြောင့် သူတစ်ပါးတို့အား မထိခိုက်မနစ်နာစေလိုသောသူ, ကိုယ်စိတ်ဆင်းရဲခြင်း မဖြစ်စေလိုသောသူ, ဖိနှိပ်ချုပ်ချယ်ခြင်း ကင်းစေလိုသောသူ, မလိမ်လည်မလှည့်စားသောသူသည် အမှန်တရားကိုလိုလားသူ–သစ္စာရှင်ပင်တည်း။

ထို့ကြောင့် မေတ္တာရှင်သည် သစ္စာရှင်ဖြစ်သည်။

အမှန်တရားကိုလိုလားသူ, ချစ်မြတ်နိုးသူသည်လည်း သူတစ်ပါးတို့အား မထိခိုက်မနစ်နာစေလိုပါ။ ကိုယ်စိတ်ဆင်းရဲခြင်းမဖြစ်စေလိုပါ။ ချမ်းသာကြီးပွားခြင်းကို ဖြစ်စေလို၏။

ထို့ကြောင့် သစ္စာရှင်သည် မေတ္တာရှင်ဖြစ်၏။

အရိယသစ္စာလေးပါးကို သိမြင်ကြပြီးသော အရိယာသစ္စာရှင်များသည်ကား ဒုစရိုက်မှုများကို အခါခပ်သိမ်းရှောင်ကြဉ်သူများဖြစ်ကြသဖြင့် သူတစ်ပါးတို့အား ညှဉ်းဆဲသတ်ဖြတ်ရန်, လုယက်တိုက်ခိုက်ရန်, လိမ်လည်လှည့်စားရန်ဝေးစွ၊ သူတစ်ပါးတို့၏ ပစ္စည်းဥစ္စာကို မတရားရယူရန်ကိုပင် မကြံစည်ပေ၊ သူတစ်ပါးတို့၏ အသက်

အိုးအိမ်ကို ဖျက်ဆီးရန်ကိုလည်း မကြံစည်ပေ၊ မမှန်ကန်သော အယူဝါဒတို့ကိုလည်း မည်သည့်အခါမျှ လက်မခံချေ။

ထို့ကြောင့် မေတ္တာတရားနှင့်သစ္စာတရားတို့သည် ကြယ်တာရာနှင့် လစန္ဒာကဲ့သို့ အတူယှဉ်တွဲ၍ ထွန်းတောက်နိုင်သောတရားများပေတည်း။

## မြတ်ဗုဒ္ဓ၏စူးရှသောမေတ္တာ

မဟာကရုဏာရှင်,မဟာမေတ္တာရှင်, အရိယသစ္စာရှင်ဖြစ်တော်မူသော မြတ်ဗုဒ္ဓ၏ မေတ္တာဓာတ်သည် အိပ်စရေးရောင်ခြည်, လေဆာရောင်ခြည်တို့ထက်ပင် ပို၍စူးရှ၏။

ကုသိနာရုံပြည်သို့ ဘုရားရှင်ကြွလာတော်မူသည့်အခါ မလ္လမင်းတို့သည် စုံစုံညီညီ သောင်းသောင်းဖြဖြ ကြိုဆိုကြ၏။ ထိုသူတို့အထဲတွင် အရှင်အာနန္ဒာ၏ သူငယ်ချင်းဖြစ်သော **ရောဇမင်းသား** လည်းပါဝင်လာသဖြင့် အရှင်အာနန္ဒာလွန်စွာဝမ်းမြောက်မိ၏။

"အဆွေရောဇ... ဘုရားရှင်အား သင်ခရီးဦးကြိုဆိုခြင်းသည် ကောင်းမြတ်လှပေ၏"

"အရှင်အာနန္ဒာ...ကျွန်ုပ်သည် ဘုရား, တရား, သံဃာကို ကြည်ညို၍ ဘုရားရှင်ကို ကြိုဆိုခြင်းမဟုတ်ပါ။ ဘုရားရှင်ကို မကြိုဆိုသောသူသည် ဒဏ်ငွေငါးရာပေးဆောင်ရမည်ဟု ကတိကဝတ်ပြုထားသည့်အတွက်ကြောင့်သာ လာရခြင်းဖြစ်ပါသည်"

အရှင်အာနန္ဒာ စိတ်မကောင်းပါ။ ထို့ကြောင့် ဘုရားရှင်အား လျှောက်ထား၏။

"အရှင်ဘုရား...ရောဇခေါ်သောမလ္လမင်းသားသည် အလွန်ထင်

ရှားကျော်ကြားသူဖြစ်ပါသည်၊ ဘုရားရှင်အဆုံးအမတော်၌ နားဝင်သူဖြစ်ပါမူကား အလွန်အကျိုးများဖွယ်ရှိပါသည်ဘုရား။ ရောဇအားသာသနာတော်၌ သက်ဝင်ကြည်ညိုသူဖြစ်လာအောင် ဆောင်ရွက်ပေးတော်မူပါဘုရား"

ဗုဒ္ဓမြတ်စွာသည် ရောဇအားရည်ညွှန်း၍ မေတ္တာပွားပို့၏။ ရောဇမင်းသားသည် အိမ်ပြန်ရန် ကျောင်းပြင်သို့ထွက်လုဆဲဆဲအခါဖြစ်၏။ ထိုအခါ စိတ်ပြောင်းသွားပြီးလျှင် ဘုရားရှင်အား ဖူးမြင်လိုသောစိတ် တဖွားဖွားဖြစ်ပေါ်လာ၏။ သို့အတွက် ကျောင်းတွင်းသို့ ပြန်လှည့်လျက် "ဗုဒ္ဓအဘယ်မှာသီတင်းသုံးနေပါသနည်း" ဟု လိုက်လံမေးမြန်း၏။ ရောဇသည် ဂန္ဓကုဋိကျောင်းသို့ ဝင်၍ ဘုရားရှင်ထံမှောက်တွင် မဝံ့မရဲထိုင်ချကာ ရှိသေဦးညွှတ်ကန်တော့လေ၏။

ထို့နောက် ဘုရားရှင်၏ မျက်နှာတော်ကို ဖူးမြင်လိုသောဆန္ဒပြင်းပြလှသဖြင့် တဖြည်းဖြည်းဦးမော့ကာ ဖူးမြော်၍ ဖူးမြော်၍မဝနိုင်အောင် ရှိလေ၏။

"ချစ်သား ...ရောဇ"

ကြည်လင်အေးမြသည့် ဘုရားရှင်၏ နှုတ်ခွန်းဆက်သံ ထွက်ပေါ်လာ၏။ ရောဇတစ်ကိုယ်လုံးသည် အအေးဓာတ်ဖုံးလွှမ်းသွားသဖြင့် အေးငြိမ်းချမ်းသာသည့်အတွေ့ကို ရောဇခံစားရ၏။

ဘုရားရှင်သည် မေတ္တာရှေ့ထားလျက် ဒါနကထာ, သီလကထာ, သဂ္ဂကထာ, မဂ္ဂကထာတို့ကို အစဉ်တစိုက်ဟောကြားသွားရာ တရားအစဉ်တွင် နစ်မြုပ်နေသောရောဇသည် သောတာပန်အဖြစ်သို့ ရောက်သွားလေ၏။

"အရှင်မြတ်ဘုရား ...အရှင်ဘုရားတို့သည် တပည့်တော်၏

ပစ္စည်းလေးပါးကိုသာလျှင် အလှူခံတော်မူကြပါဘုရား၊ တစ်ပါးသူတို့၏ ပေးလှူခြင်းကို ခံယူတော်မမူကြပါလင့်”

“ချစ်သားရောဇ... အရိယသစ္စာလေးပါးကို သိမြင်ပြီးသောသေက္ခအရိယာပုဂ္ဂိုလ်တို့သည် သင်ကဲ့သို့ပင် သဒ္ဓါတရားကြည်လင်ထက်သန်လာကြပြီးလျှင် ‘ငါ၏ ပစ္စည်းလေးပါးတို့ကိုသာ အရှင်ဘုရားတို့အလှူခံတော်မူကြပါ’ဟူ၍ လျှောက်ထားကြလေ၏ ။ မြတ်စွာဘုရားနှင့် သံဃာတော်များသည် သင့်ထံမှလည်း အလှူခံကြမည်၊ သူတစ်ပါးတို့ထံမှလည်း အလှူခံကြလိမ့်မည်”

ရောဇမင်းသားသည် သူတစ်ပါးတို့၏ ဆွမ်းအလှူပွဲများကို လိုက်လံကြည့်ရှု၍ အလှူပွဲများတွင် မပါဝင်သော ဟင်းရွက်ကြော်တစ်မျိုးနှင့် မုန့်ခဲဖွယ်တစ်မျိုးတို့ကို ငွေတစ်သိန်းအကုန်ခံ၍ လှူဒါန်းလေ၏ ။

ဤကား မြတ်ဗုဒ္ဓ၏ ထက်မြက်စူးရှသောမေတ္တာ၏ တန်ခိုးတော်ကြောင့်ပေတည်း။

## ခွန္တိမေတ္တာက မအောင်နိုင်သောအရာသည် မရှိ

ဝေဠုဝန်ကျောင်းတော်၌ မြတ်စွာဘုရားသီတင်းသုံးနေတော်မူစဉ် တိတ္ထိဂိုဏ်းဆရာကြီးများ၏ လက်ရင်းတပည့်တစ်ဦးဖြစ်သူ **ဘာရဒွါဇပုဏ္ဏား** သည် ဘုရားရှင်ထံလာ၍ ကြမ်းတမ်းစွာဆဲရေးတိုင်းထွာ၏ ၊ အမျိုးမျိုးခြိမ်းခြောက်၏ ၊ အယုဝါဒဆိုင်ရာစကားတို့ဖြင့် အမျိုးမျိုးပုတ်ခတ်စွပ်စွဲ၏ ။

ဗုဒ္ဓသည် ဆိတ်ဆိတ်နေ၍ သည်းခံတော်မူ၏ ၊ မေတ္တာပွား၏ ။

ပုဏ္ဏား၏ ဆဲရေးစွပ်စွဲခြင်းများ ရပ်တန့်သွားသောအခါ မြတ်ဗုဒ္ဓက အေးဆေးတည်ငြိမ်စွာမေးမြန်း၏။

"ပုဏ္ဏား...သင်၏ ဆွေမျိုးနှင့်မိတ်သင်္ဂဟများသည် သင့်အိမ်သို့ လာရောက်ကြဖူးပါသလား"

"လာရောက်ကြဖူးပါ၏"

"ထိုသူများသည် သင့်အတွက် လက်ဆောင်ပဏ္ဏာများကို ယူဆောင်လာခဲ့ကြဖူးပါသလား"

"ယူဆောင်လာခဲ့ကြဖူးပါ၏"

"ထိုလက်ဆောင်ပဏ္ဏာပစ္စည်းများကို သင်က လက်ခံယူလိုက်လျှင် မည်သူ့ထံသို့ ထိုပစ္စည်းများရောက်ရှိလေသနည်း"

"ကျွန်ုပ်ကလက်ခံယူလျှင် ကျွန်ုပ်ထံသို့ ရောက်ရှိပါ၏"

"အကယ်၍ သင်ကလက်မခံဘဲ လာရောက်ပေးသူထံသို့ ထိုလက်ဆောင်ပစ္စည်းများကိုပြန်ပေးလိုက်လျှင် ထိုပစ္စည်းများသည် မည်သူ့ထံသို့ရောက်ပါသနည်း"

"ထိုသို့ဖြစ်လျှင် ထိုပစ္စည်းများသည် လာရောက်ပေးသူထံသို့ ပြန်ရောက်ပါ၏"

"အို...ပုဏ္ဏား၊ ယခု ငါ့ထံသို့ သင်လာရောက်ပြီး ဆဲရေးခြိမ်းခြောက်ခြင်း, ပုတ်ခတ်စွပ်စွဲခြင်းများကို ငါလက်မခံ၊ သင်သာပြန်ယူပါလော့"

ဘာရဒွါဇပုဏ္ဏားသည် ဗုဒ္ဓမြတ်စွာ၏ ဥပမာစကားကို ကောင်းစွာသဘောပေါက်၍ နှစ်သက်ဝမ်းမြောက်သွားလေ၏။ အေးဆေးတည်ငြိမ်စွာသည်းခံပြီး စိတ်ဆိုးခြင်းမရှိဘဲ မေတ္တာထားနိုင်သော မြတ်ဗုဒ္ဓအားလည်း လွန်စွာကြည်ညိုသွားလေ၏။

ထို့ကြောင့် ဘာရဒွါဇပုဏ္ဏားသည် မြတ်ဗုဒ္ဓ၏ ခြေတော်ရင်းတွင် ဝပ်စင်းခယပြီး တပည့်အဖြစ်ကို ခံယူလေသတည်း။

## အင်္ဂုလိမာလ်စွယ် မေတ္တာဖြင့်ပယ်

ဒေါသမာန်မာန ကြီးမားသည့်အရာတွင် **အင်္ဂုလိမာလ်ဘီလူး**ရိုင်းကြီးကို မီနိုင်မည့်သူ ရှားပါလိမ့်မည်။

အင်္ဂုလိမာလ်အမျက်ထွက်သဖြင့် သတ္တဝါတစ်ဦးအား ခြေနှစ်ချောင်းကိုကိုင်၍ ပစ်ပေါက်လိုက်လျှင် စကြဝဠာတံတိုင်းအပြင်အထိ လွင့်စဉ်သွားနိုင်၏။ သူ၏ကြုံးဝါးသံသည် ဇမ္ဗူဒီပါတစ်ကျွန်းလုံးကိုထစ်ချုန်းရိုက်ခတ် ပဲ့တင်ထပ်ကာ သတ္တဝါအပေါင်းတို့အား လန့်ဖျပ်သွားစေနိုင်၏။ ဒေါသမာန်ဖြင့် တောင်ထွတ်များကို ခြေဖြင့်ဆောင့်နင်းလိုက်လျှင် ကျောက်ဆောင်များ မီးပွင့်ထွက်ကာ ကွဲအက်လွင့်စဉ်သွားကြ၏။

ထို့အပြင် တန်ခိုးဣဒ္ဓိပါဒ် ကြီးမားသူလည်း ဖြစ်ပေ၏။ တောတောင်များမှ သစ်ပင်ကြီးများ ကျွတ်ထွက်အောင် လေမုန်တိုင်းကြီးကို တိုက်ခတ်စေနိုင်၏။ ကျောက်ခဲမိုး၊ သဲမိုး၊ ပြာပူမိုး၊ မီးကျီးမိုး၊ လက်နက်မိုးတို့ကိုလည်း တစ်ခဲနက်ရွာသွန်းကျစေနိုင်၏။ သူ၏ဘွဲ့ဖြူလက်နက်ဘီလူးစက်မှာ အဏုမြူဗုံးများထက်ပင် ကြောက်စရာကောင်းလှသေး၏။ ထိုလက်နက်ကို ကောင်းကင်၌ပစ်လျှင် ၁၂ နှစ်တိုင်တိုင် မိုးမရွာနိုင်။ မြေပြင်မှာပစ်လျှင် သစ်ပင်များခြောက်သွေ့ကာ ၁၂ နှစ်အတွင်း မည်သည့်အပင်မျိုးမှမပေါက်နိုင်။ သမုဒ္ဒရာ၌ပစ်လျှင် သမုဒ္ဒရာရေ ခြောက်ခန်းသွားမည်ဟုဆို၏။

အာဠဝီပြည်အနီးရှိ အဠဝကဧ၏ဗိမာန်၌ မြတ်စွာဘုရား ဝင်ရောက်၍ သီတင်းသုံးနေကြောင်းကို ဝေဿဝဏ်နတ်မင်းကြီးထံ ခစားနေသော အဠဝကဘီလူးကြီးကြားသိလေလျှင် လျင်မြန်သောအဟုန်ဖြင့် မိမိဗိမာန်သို့ ပြန်လာ၏။

"ငါ့ဗိမာန်နန်းပြင်ကို ရောက်ဝင်မှားသည် ဘုရားဟူကား ဘဇာသားနည်း" (စာဆိုတော်ဦးပုညစပ်ဆိုထားသော စကားအသုံးအနှုန်းဖြစ်၏။) ဤသို့ကြုံးဝါးပြီးလျှင် "အဠဝကအကြောင်း သိစေမယ်ဟေ့" ဟူသောသဘောဖြင့် လေမုန်တိုင်းကြီးကိုဆင်၍ တိုက်ဖျော့စေ၏။ မြတ်စွာဘုရား၏သင်္ကန်းတော်မျှ မလှုပ်ချေ။ မီးကျီးမိုး, လက်နက်မိုးအမျိုးမျိုးကိုရွာသွန်းစေပြန်၏။ ထိုမီးကျီးခဲများနှင့်လက်နက်များသည် ပန်းပေါက်ပေါက်များ ဖြစ်သွားကြပြီးလျှင် မြတ်စွာဘုရား၏ခြေတော်ရင်း၌ စုပုံနေကြ၏။ "ကဲ...သွားပေရော့" ဟုဘွဲ့ဖြူလက်နက်ကိုပစ်လွှတ်လိုက်ပြန်၏။ အဠဝက၏ထိုအမြတ်ဆုံးလက်နက်သည် မြတ်စွာဘုရား၏ခြေတော်ရင်း၌ ခြေသုတ်ပုဆိုးအဖြစ် ခွေနေလေ၏။

မြတ်စွာဘုရား၏မေတ္တာလက်နက်ကို အကြမ်းနည်းဖြင့် မဖြိုခွင်းနိုင်ကြောင်း အဠဝက သိရှိလာသည့်အခါ ကြိမ်းမောင်းချုပ်ချယ်သောနည်းဖြင့် မေတ္တာပျက်ပြယ်အောင်လုပ်မည်ဟု အဠဝက အကြံရလာ၏။ ထို့ကြောင့်...

"ရဟန်းကြီး...ငါ့ဗိမာန်မှထွက်သွားပါ"

ဒေါသနှင့် မာန်မာနတို့ကို ခန္တီမေတ္တာဖြင့်သာ ငြိမ်းအေးချိုးနှိမ်နိုင်မည်ကို သိတော်မူသဖြင့် ဘုရားရှင်သည် လိုက်လျောကာ ဗိမာန်အပြင်သို့ ထွက်ခွာပေးလိုက်၏။

"ရဟန်းကြီး… ပြန်ဝင်ပါ"

ဘုရားရှင်သည် ဗိမာန်အတွင်းသို့ ပြန်ဝင်၏။ အဠာဝကသည် နောက်ထပ်နှစ်ကြိမ် မြတ်စွာဘုရားအား ထွက်စေ, ဝင်စေ အမိန့်ပေးရာ မြတ်စွာဘုရားက အသာတကြည်လိုက်နာ၏။ စတုတ္ထအကြိမ် ထွက်ခွာရန် အဠာဝကအမိန့်ပေးသည့်အခါ၌မူ မြတ်စွာဘုရားမထွက်ခွာတော့ချေ။

"ဒကာဘီလူး…ငါမထွက်တော့၊ သင်လုပ်ချင်ရာလုပ်ပေတော့"

အဠာဝကသည် မြတ်စွာဘုရားအား ပြဿနာများမေး၍ အနိုင်ယူရန် ကြံစည်ပြန်၏။

"ရဟန်းကြီး… သင့်အား ငါ့ပြဿနာများ မေးအံ့။ သင်ဖြေနိုင်က ဖြေပါ၊ အကယ်၍ သင်မဖြေနိုင်လျှင် သင့်အား ရူးသွပ်အောင်သော်လဲ ငါလုပ်မည်၊နှလုံးကွဲအောင်သော်လဲ ငါဖန်တီးရမည်၊ ခြေထောက်နှစ်ဖက်ကိုကိုင်ဆွဲ၍ မြစ်တစ်ဖက်ကမ်းသို့သော်လဲ ပစ်ပေါက်ရမည်"

"ဒကာဘီလူး…ဤလောက၌ သင်သော်လည်းကောင်း၊အခြားတန်ခိုးကြီးသူတစ်ဦးသော်လည်းကောင်း ငါ့အား ရူးသွပ်အောင်, နှလုံးကွဲအောင် ဖန်တီးနိုင်သူဟူ၍မရှိချေ။မြစ်တစ်ဖက်ကမ်းသို့ ပစ်ပေါက်နိုင်သူဟူ၍လည်း မရှိချေ။ သို့ဖြစ်စေကာမူ သင်မေးမြန်းလိုသည်ကို မေးမြန်းပါလော့"

"အို…ရဟန်း၊ ပထမပုစ္ဆာများကို ငါမေးပေအံ့။ (၁) လောကလူ့ရွာမှာ အမြတ်ဆုံးဥစ္စာက ဘာလဲ၊ (၂) ကောင်းစွာလေ့ကျင့်အပ်တဲ့ တရားအပေါင်းမှာ ဘယ်တရားက ချမ်းသာကိုဆောင်နိုင်သလဲ၊ (၃) အရသာအပေါင်းတို့မှာ အကောင်းမြတ်ဆုံးအရသာက ဘာလဲ၊

(၄) အသက်မွေးမှုအပေါင်းတို့မှာ အမြတ်ဆုံးအသက်မွေးမှုက ဘာလဲ"

"အို...အဋ္ဌာဝက၊ ဤလောကမှာ (၁) အမြတ်ဆုံး ဥစ္စာကား ရတနာသုံးပါးကို ယုံကြည်တဲ့ သဒ္ဓါတရားပါပဲ၊ (၂) ကောင်းစွာလေ့ကျင့်အပ်တဲ့ တရားအပေါင်းမှာ ကုသိုလ်ကမ္မပထတရားဆယ်ပါးဟာ ချမ်းသာကိုဆောင်နိုင်တယ်၊ (၃) အရသာအပေါင်းတို့မှာ နိဗ္ဗာန်ဆိုတဲ့ပရမတ္ထသစ္စာနဲ့ ဝစီသစ္စာတို့ဟာ အကောင်းမြတ်ဆုံးပါပဲ၊ (၄) အသက်မွေးခြင်းတကာတို့မှာ ပညာဖြင့်အသက်မွေးခြင်းဟာ အမြတ်ဆုံးပါပဲ"

"ကောင်းလေစွ...ကောင်းလေစွ၊ အို...ရဟန်း၊ နောက်ထပ်ပုစ္ဆာများကို ဖြေကြားပါဦးလော့။ (၁) အဘယ်တရားဖြင့် သံသရာအယဉ်ဟူသောဩဃကို ကူးမြောက်နိုင်သလဲ၊ (၂) အဘယ်တရားဖြင့် သံသရာတည်းဟူသော သမုဒ္ဒရာကို ကူးမြောက်နိုင်သလဲ၊ (၃) အဘယ်တရားဖြင့် ကာမဂုဏ်ဆင်းရဲကို လွန်မြောက်နိုင်သလဲ၊ (၄) အဘယ်တရားဖြင့် စိတ်၏ စင်ကြယ်ခြင်းကိုဖြစ်စေနိုင်သလဲ"

"မှတ်သားပေလော့ ဒကာဘီလူးကြီး... (၁) သံသရာအယဉ်ဟူသော ဩဃကို ယုံကြည်မှု သဒ္ဓါတရားဖြင့် ကူးမြောက်နိုင်တယ်၊ (၂) သံသရာတည်းဟူသောသမုဒ္ဒရာကို မမေ့မလျော့မှု အပ္ပမာဒတရားဖြင့် ကူးမြောက်နိုင်တယ်၊ (၃) ကာမဂုဏ်ဆင်းရဲကို ဝီရိယဖြင့် လွန်မြောက်နိုင်တယ်၊ (၄) ပညာဖြင့် စိတ်၏ စင်ကြယ်ခြင်းကို ဖြစ်စေနိုင်တယ်"

"ကောင်းလေစွ...ကောင်းလေစွ...အရှင်ရဟန်း၊ နောက်ထပ်ပုစ္ဆာများကို ဖြေကြားပါဦးလော့။ ဤလောက၌ (၁) အဘယ်သို့သော

သူသည် ပညာကိုရသလဲ၊ (၂) အဘယ်သို့သောသူသည် ဥစ္စာကို ရသလဲ၊ (၃) အဘယ်တရားဖြင့် ကျော်စောခြင်းသို့ရောက်သလဲ၊ (၄) အဘယ်သို့သောတရားဖြင့် အဆွေခင်ပွန်းများကို ရသလဲ၊ (၅) အဘယ်သူသည် သေသည်၏နောက် တမလွန်လောကဌ် မစိုးရိမ်ရသလဲ"

"အို...အဠာဝက၊ (၁) မမေ့လျော့သောပညာရှိသည် နိဗ္ဗာန်ရောက်ကြောင်း တရားကောင်းကို နာကြားသည်ဖြစ်၍ ပညာကိုရ၏၊ (၂) လျောက်ပတ်သောအမှုကိုပြုလုပ်ရန် ဝီရိယရှိသောသူသည် ဥစ္စာကိုရ၏၊ (၃) မှန်သောစကားဖြင့် ကျော်စောခြင်းသို့ရောက်၏၊ (၄) ပေးကမ်းခြင်းဖြင့် အဆွေခင်ပွန်းကို ရ၏၊ (၅) မှန်ကန်မှုသစ္စာ၊ ပညာရကြောင်း ဓမ္မ၊ အားထုတ်မှု ဓိတိ၊ စွန့်ကြဲမှုစာဂ ဤတရားလေးပါးတို့နှင့် ပြည့်စုံသောသူသည် နောင်တမလွန်ဘဝဌ် မစိုးရိမ်ရသူဖြစ်ပေ၏"

"အရှင်ဂေါတမ ... ထိုသို့တရားတို့ကို ကျွန်ုပ်ယနေ့သိရပါပြီ၊ မြတ်စွာဘုရားသည် ကျွန်ုပ်၏အကျိုးငှာ ကြွတော်မူလာပေ၏"

မြတ်စွာဘုရား၏တရားစကားတော်ကြောင့် အဠာဝကဘီလူးရိုင်းသည် ယဉ်ကျေးမြင့်မြတ်သည့် သောတာပန်အဆင့်သို့ တက်လှမ်းနိုင်လေတော့၏။

အာဠာဝီပြည်မှ တစ်နေ့လျှင် လူတစ်ယောက်နှင့် ထမင်းတစ်အုပ်ကျဖြင့် ၁၂ နှစ်တိုင်တိုင် လူပေါင်း ၄၃၈၀ ကို စားသောက်ခဲ့သော အဠာဝကဘီလူးရိုင်း၏ မီးဟုန်းဟုန်းတောက်နေသည့် ဒေါသမာန်စွယ်ကို မြတ်စွာဘုရားသည် ခန္တီမေတ္တာဖြင့် ပယ်ဖြတ်ကာ အောင်ပွဲခံယူနိုင်ခဲ့ပေသည်တကား။

## အထက်မြက်ဆုံးသောပီယဆေး

မျက်နှာမြင်လျှင် ချစ်ခင်စေသော အကောင်းဆုံးသော ပီယဆေးမှာ မေတ္တာပင်ဖြစ်၏။ လူရောနတ်ရော တိရစ္ဆာန်များပါ ချစ်ခင်လေးစား၍ သေးရန်မပြုနိုင်သော အထက်မြက်ဆုံးသောအဆောင်နှင့် အရံအတားသည်လည်း မေတ္တာပင်ဖြစ်ပေ၏။

မြတ်စွာဘုရားသည် **ပဥ္စဝဂ္ဂီ**တို့အား တရားဦးဟောကြားရန် မိဂဒါဝုန်တောသို့ ကြွလာတော်မူသောအခါ ပဥ္စဝဂ္ဂီတို့က...

"ငါ့ရှင်တို့...ကမ္မဋ္ဌာန်းအလုပ်မှ လျှောကျခဲ့တဲ့ ရဟန်းကြီး ဂေါတမသည် ဟိုရှေ့မှလာနေပြီ၊ ရဟန်းဂေါတမသည် ပစ္စည်းလေးပါးပေါများရန် ကျင့်ကြံသူဖြစ်၏၊ ထိုရဟန်းအား ငါတို့ခရီးဦးမကြိုကြစတမ်း၊ ရှိမခိုးကြစတမ်း"ဟု ကတိကဝတ်ပြုကြ၏။

သူတို့၏ စိတ်ဖြစ်ပုံကို မြတ်စွာဘုရားသိတော်မူသဖြင့် သူတို့ထံသို့ ဩဓိသမေတ္တာကို ပွားပို့တော်မူ၏။ ပဥ္စဝဂ္ဂီတို့သည် မူလကတိကဝတ်၌ မတည်နိုင်ကြတော့ဘဲ ဘုရားရှင်အား ပျာပျာသလဲခရီးဦးကြိုဆိုကြ၊ ခြေဆေးပေးကြ၊ နေရာထိုင်ခင်းပေးကြလေတော့၏။



ဝေသာလီပြည် မဟာဝုန်တော၌ မြတ်စွာဘုရားသီတင်းသုံးနေစဉ် **လိစ္ဆဝီမင်းသားငယ်များ**သည် ခွေးများခြံရံကာ လက်နက် လေးမြား ကိုယ်စီကိုင်ဆောင်လျက် တောလိုက်ထွက်ကြ၏။ မြတ်စွာဘုရားကိုမြင်လေလျှင် လက်နက်များကိုစွန့်ပစ်၍ ခွေးများကို မောင်းထုတ်ပြီးလျှင် ဘုရားရှင်အား ရှိခိုးဦးညွတ်ကြ၏။

ဤအဖြစ်ကို အညောင်းပြေလမ်းလျှောက်ထွက်လာသော မဟာနာမ်လိစ္ဆဝီမင်းသားကြီးမြင်လေလျှင် ဘုရားရှင်ထံချဉ်းကပ်၍ "ဝဇ္ဇီ

မင်းမျိုးတွေ ချမ်းသာကြီးပွားကြဦးတော့မှာပဲ အရှင်ဘုရား" ဟူ၍ နှစ်ကြိမ် ဝမ်းသာအားရစွာ ရင့်ကျူးလျှောက်ထားလေ၏။

"မဟာနာမ်...အဘယ့်ကြောင့် ဤမျှလောက်ရင့်ကျူးနေဘိသနည်း"

"မှန်လှပါ မြတ်စွာဘုရား...ဤလိစ္ဆဝီမင်းသားငယ်များသည် ခက်ထန်ရိုင်းစိုင်းကြကုန်၏၊ မာန်မာနကြီးမြင့်ကြကုန်၏၊ လမ်းသွားလမ်းလာသူများထံမှ မုန့်ပဲသရေစာများကို လုယူစားသောက်ကြကုန်၏၊ အမျိုးသမီးကြီးငယ်များကိုလဲ နောက်မှလိုက်၍ ပြောင်လှောင်ကြ, ကန်ကျောက်နှောင့်ယှက်ကြကုန်၏။ ယခုမူ ထိုလိစ္ဆဝီဆိုးသွမ်းလူငယ်များသည် မြတ်စွာဘုရားရှေ့မှောက်၌ လိမ္မာယဉ်ကျေးကာ အေးချမ်းစွာလက်အုပ်ချီမိုးနေကြသည်ကိုမြင်တွေ့ရသဖြင့် ဝဇ္ဇီမင်းမျိုးတွေ ချမ်းသာကြီးပွားကြဦးမှာပဲဟု ဝမ်းသာအားရ ရင့်ကျူးမိခြင်းဖြစ်ပါသည်ဘုရား"

"မဟာနာမ်...ရေမြေကိုအစိုးရသော မင်းဖြစ်စေ၊ မြို့ရွာကို စားရသောမြို့စား ရွာစားဖြစ်စေ၊ အသင်းအဖွဲ့တစ်ခု၏ အကြီးအမှူးဖြစ်စေ၊ ဆွေမျိုးစုတစ်စု၏ အကြီးအကဲဖြစ်စေ **တရားငါးပါးကို လက်တွေ့ကျင့်သုံးမည်ဆိုပါက ကောင်းကြီးပွားတိုးတက်လိမ့်မည်၊** ဆုတ်ယုတ်ပျက်စီးခြင်းမရှိနိုင်။ ထိုတရားငါးပါးကား...

"၁။ မဟာနာမ်...ဤလောက၌ အမျိုးကောင်းသားသည် လုံ့လဝီရိယနှင့် လက်ရုံးစွမ်းရည်ကို အားကိုးပြု၍ ချွေးဒီးဒီးကျအောင် တရားသဖြင့် ဥစ္စာရှာဖွေပြီးလျှင် ထိုဥစ္စာဖြင့် မိဘလူကြီးသူမတို့ကို အရိုအသေပြု၏၊ ပူဇော်၏။

“၂။ ထိုဥစ္စာဖြင့် သားမယားနှင့် အခိုင်းအစေများကို အလေးအမြတ်ပြု၏၊ ထောက်ပံ့၏။

“၃။ လယ်နီးချင်း, ယာနီးချင်း, လုပ်ဖော်ကိုင်ဖက်, ရောင်းဖော်ဝယ်ဖက်တို့အားလဲ အလေးအမြတ်ပြု၏၊ ပေးကမ်း၏။

“၄။ မိရိုးဖလာရိုးရာနတ်များကိုလဲ အရိုအသေပြု၏၊ ပူဇော်၏။

“၅။ ရဟန်းသံဃာနှင့် သူတော်သူမြတ်များကိုလဲ အရိုအသေပြု၏၊ ပူဇော်၏။ မဟာနာမ်...ထိုအမျိုးကောင်းသားသည် မုချကြီးပွားတိုးတက်လိမ့်မည်၊ ဆုတ်ယုတ်ပျက်စီးခြင်းမရှိနိုင်။ (အင်္ဂုတ္တိုရ်ပဉ္စက၊ လိစ္ဆဝီကုမာရကသုတ်)

“သို့အတွက် ကြီးပွားတိုးတက်လိုသူတိုင်းသည် မိဘသားမယား၊ ဆွေမျိုးများ၊ လူကြီးသူမများ၊ သူတော်ကောင်းများနှင့် ရိုးရာနတ်များ၏ မေတ္တာကို ခံယူရမည်၊ မေတ္တာကိုရရှိရန် မေတ္တာဖြင့်ပူဇော်ချီးမြှင့်ရမည်။

*“မိဘသားမယား၊ ဆွေမျိုးများနှင့် စေပါးလုပ်ဖော်၊ နတ်သူတော်၊ သင့်ပေါ်ချစ်ပါစေ။ ချစ်ခင်မေတ္တာရသူမှာ၊ ချမ်းသာကြီးမြင့်ကေန်ပေ။”*

## မေတ္တာစက်ကွင်း ဘေးရန်ရှင်း

သံလိုက်တုံးတစ်ခုတွင် ယင်း၏သံလိုက်အား သက်ရောက်နိုင်သောနယ်ပယ်ကိုသံလိုက်စက်ကွင်းဟုခေါ်၏။ ထိုသံလိုက်စက်ကွင်းအတွင်း၌ရှိသော သံမှိုသံစ, သံလိုက်အိမ်မြှောင်စသည်တို့ကို ထိုသံလိုက်တုံးသည် ဆွဲငင်လှည့်ပတ်နိုင်စွမ်းရှိ၏။ သံလိုက်တုံးနှင့် နီးကပ်လေလေ သံလိုက်၏ဆွဲငင်အားမှာလည်း ကြီးမားသိသာလေဖြစ်၏။

ကမ္ဘာမြေကြီး၏ပတ်ဝန်းကျင်၌လည်း ဒြပ်ထုဆွဲငင်အားနယ်ပယ်ရှိ၏။ ထိုဆွဲအားနယ်အတွင်းရှိဒြပ်ဝတ္ထုအားလုံးကို ကမ္ဘာမြေကြီးက ဆွဲငင်ထား၏။ ကမ္ဘာ့မျက်နှာပြင်နှင့် နီးကပ်လေလေ ဆွဲငင်အားမှာလည်း ကြီးမားလေလေဖြစ်၏။

ထို့အတူ မေတ္တာပွားပို့နေကြသည့် သူတော်သူမြတ်တစ်ဦးစီ၌လည်း သူ၏မေတ္တာဓာတ်ပျံ့နှံ့ရာ မေတ္တာစက်ကွင်းသည် ရှိ၏။ ထိုမေတ္တာစက်ကွင်းအတွင်း၌ရှိကြသော သတ္တဝါများသည် မေတ္တာပွားပို့နေသူအား ချစ်ခင်မြတ်နိုးကြသည့်အပြင် မိမိတို့အချင်းချင်းသည်လည်း ထူးခြားစွာမေတ္တာသက်ဝင်လာကြသည်ကို တွေ့မြင်ရ၏။

သီရိလင်္ကာကျွန်း၌ သာသနာထွန်းကားနေစဉ်အခါက အိန္ဒိယပြည် ပါဋလိပုတ်မြို့သား **ဝိသာခ** သည် သီရိလင်္ကာသာသနာအကြောင်း သတင်းကောင်းများကို ကုန်သည်များထံမှ အဆက်မပြတ်ကြားနေရ၏။

"သီရိလင်္ကာကျွန်းမှာ စေတီပုထိုးတွေဟာ ပန်းကုံးလိုစီတန်းနေကြတယ်၊ ဘာသာရေးပွဲသဘင်များက တစ်ကျွန်းလုံးခြိမ့်ခြိမ့်သဲ အမြဲစည်ကားနေကြတယ်၊ သီရိလင်္ကာတစ်ကျွန်းလုံး သင်္ကန်းရောင် ရွှေရောင် ဖုံးလွှမ်းနေတယ်၊ ရာသီဥတုမျှတပြီး အစားအသောက်လဲ ပေါများတယ်"

ဝိသာခသည် သာသနာအမွေကိုခံယူလိုသဖြင့် ပစ္စည်းဥစ္စာများကိုသားမယားတို့အားအပ်နှံပြီးလျှင် သင်္ဘောခအတွက် ငွေတစ်ကျပ်ကိုသာယူဆောင်ပြီး အိမ်မှထွက်လာ၏။ သင်္ဘောဆိပ်၌ သင်္ဘောပတ်မကြုံသဖြင့် တစ်လကြာစောင့်ဆိုင်းနေရ၏။ ထိုကာလအတွင်း၌ ကုန်သွယ်မှုတွင်ကျွမ်းကျင်သော ဝိသာခသည် ငွေတစ်ကျပ်ကိုအရင်း

အနီးပြု၍ ရောင်းဝယ်ဖောက်ကားရာ အသပြာကျပ် ၁၀၀၀ ကို ရရှိလာ၏။

ထို့နောက် သင်္ဘောကြဲ၍ သီရိလင်္ကာကျွန်းသို့ကူးသွားပြီးလျှင် မဟာဝိဟာရကျောင်းတိုက်ကြီးသို့သွား၏။ သံဃာတော်များထံ ရဟန်းပြုခွင့်တောင်းရာ ခွင့်ပြုချက်ရသဖြင့် သိမ်ဆီသို့သွား၏။ ထိုအခါ ဝိသာခ၏ခါးပိုက်ထဲမှ အသပြာတစ်ထောင်ထုပ် ပြုတ်ကျလာသဖြင့် သံဃာတော်များက "ဘာအထုပ်လဲ" ဟု မေး၏။ အသပြာထုပ်ဖြစ်ကြောင်း သိကြရလျှင်...

"ဒကာကြီး...ရဟန်းမဝတ်မီ သင့်ငွေကိုစီရင်ပါ၊ ရဟန်းဖြစ်ပြီးသည့်အခါ စီရင်ခွင့်မရတော့ပါ" ဟု တိုက်တွန်းကြ၏။

သို့အတွက် ဝိသာခသည် သိမ်ရင်ပြင်သို့ရောက်လာကြသော ပရိသတ်များအား "လက်ချည်းပြန်မသွားကြပါစေနှင့်" ဟု မေတ္တာထားကာ ငွေကိုစွန့်ကြဲလိုက်လေ၏။

ရဟန်းဖြစ်ပြီးသည့်အခါ ဝိသာခမထေရ်သည် ကမ္မဋ္ဌာန်းတရားကို ပွားများအားထုတ်သဖြင့် မကြာမီ အာသဝေါတရားကုန်ခန်း၍ ရဟန္တာအဖြစ်သို့ ရောက်ရှိလေ၏။

ထိုမထေရ်သည် တစ်ကျောင်းလျှင် လေးလစီဖြင့် လှည့်လည်သီတင်းသုံး၏။ စိတ္တလတောင်၌လည်း လေးလပြည့်မြောက်သည့်နေ့၌ သပိတ်နှင့်သင်္ကန်းတို့ကိုဆောင်ယူ၍ ထွက်ခွာမည်ပြုစဉ် စကြံဦး သပြေပင်စောင့်နတ်က ကျောက်ဖျာပေါ်တွင်ရပ်လျက် ငို၏။

"သင် ဘယ်သူလဲ" ဟု မထေရ်ကမေး၏။

"တပည့်တော် သပြေပင်စောင့်နတ်ပါဘုရား"

"သင် ဘာကြောင့်ငိုနေသလဲ"

"အရှင်ဘုရားတို့ ဤအရပ်မှထွက်ခွာမည်ကို စိုးရိမ်လို့ပါဘုရား"

"ငါ...ဤအရပ်မှာရှိခြင်းကြောင့် သင်တို့မှာ ဘယ်လိုအကျိုးခံစားရလို့လဲ"

"အရှင်ဘုရားရဲ့မေတ္တာအာနုဘော်ကြောင့် နတ်တို့အချင်းချင်း ချစ်ခင်မြတ်နိုးကြပါတယ်၊ အလွန်အေးချမ်းကြပါတယ်၊ အရှင်ဘုရား အံရပ်တစ်ပါးသို့ကြွသွားလျှင် နတ်အပေါင်းတို့က ရှေးကအတိုင်း ခိုက်ရန်ဒေါသဖြစ်ကြပါလိမ့်မယ်၊ ဒါကြောင့် အေးချမ်းစွာနေထိုင်ရတော့မည်မဟုတ်ပါဘုရား"

"ဤသို့ဖြစ်လျှင် ဤအရပ်၌ နောက်ထပ်လေးလ ငါသီတင်းသုံးပါအံ့"

မထေရ်၏ မေတ္တာစက်ကွင်းကြောင့် နတ်တို့ခိုက်ရန်မဖြစ်ဘဲ အေးချမ်းစွာနေထိုင်ကြရ၏။ လေးလပြည့်၍ မထေရ်ထွက်ခွာမည်ပြုတိုင်း သပြေပင်စောင့်နတ်က ငိုယိုတောင်းပန်သဖြင့် မထေရ်သည် စိတ္တလတောင်၌ပင်လျှင် ပရိနိဗ္ဗာန်စံတော်မူသည့်အထိ ဆက်လက်သီတင်းသုံးတော်မူ၏။

*မေတ္တာ၏အာနိသင်ကား နတ်များချစ်ခင်အောင် စွမ်းဆောင်နိုင်၏။ မေတ္တာ၏စက်ကွင်းကြောင့် ခိုက်ရန်မှုများကင်းရှင်းရ၏။*

## သပိတ်အိုင်တောရမှ မေတ္တာစက်ကွင်း

ကောဇာသက္ကရာဇ် ၁၃၀၀ ကျော်တစ်ဝိုက်တွင် မြန်မာပြည်၌ အထူးကျော်ကြားသော **မူလသပိတ်အိုင်ဆရာတော်ဦးကိတ္တိ**သည် သီလနှင့် မေတ္တာပိုင်ရှင်တစ်ဦးဖြစ်၏။ ဆရာတော်သီတင်းသုံးသော သပိတ်

အိုင်တောရကျောင်းသည် မွန်ပြည်နယ်၊ ပေါင်မြို့နယ်၊ ကျုံကရွာနှင့် နှစ်မိုင်ကျော်ဝေး၍ တောနက်သည့်အရပ်၌တည်ရှိ၏။ မြွေ၊ ကျား၊ သစ်၊ တောဝက်၊ ဆင် စသည့်တောရိုင်းတိရစ္ဆာန်များနှင့် သောင်းကျန်း သူများ သွားလာလှုပ်ရှားရာဒေသဖြစ်၏။

ဆရာတော်ကြီးကို လူအများက မြေလျှိုးမိုးပျံနိုင်သောအဘိညာဉ် ရရဟန္တာတစ်ပါးဟု ထင်မှတ်ကြသဖြင့် စနေ၊ တနင်္ဂနွေနှင့် ဥပုသ် နေ့များတွင် ဆရာတော်ကျောင်းသို့လာကြသော ပရိသတ်သည် ပွဲ ဈေးတန်းတမျှစည်ကား၏။ သို့စေကာမူ တောရိုင်းတိရစ္ဆာန်များနှင့် သောင်းကျန်းသူတို့၏ အနှောင့်အယှက်ကို လုံးပမခံကြရချေ။ ဆရာ တော်၏ သီလနှင့် မေတ္တာတို့၏ အာနုဘော်ကြောင့်ပေတည်း။

၁၂၉၃ ခုနှစ် တန်ဆောင်မုန်းလ၌ ဆရာတော်ဆွမ်းခံကြွစဉ် လမ်း ကျဉ်းကလေးတစ်ခုဝယ် ကျားတစ်ကောင်နှင့်ရင်ဆိုင်တိုးမိ၏။ ဆရာ တော်အား ခေတ္တစိုက်ကြည့်ပြီးနောက် ကျားသည် နောက်ပြန်ဆုတ် ၍ လမ်းဘေးတောထဲသို့ ဝင်သွား၏။

၁၃၀၂ ခုနှစ် ကဆုန်လတွင် ဒကာလေးယောက်သည် ဆရာတော် ကျောင်းအနီးရှိသစ်ပင်ချုံနွယ်များကို ရှင်းလင်းကြ၏။ ထိုအခါ သစ် တုံးကြီးတစ်ခုအောက်တွင် ကျားမတစ်ကောင် သားပေါက်နေသည် ကို တွေ့ကြရ၏။ ကျားမသည် ထိုဒကာတို့ကို ရန်မမူဘဲ မိမိ၏ သား ငယ်ကိုချီ၍ နေရာရွှေ့ပြောင်းလိုက်၏။ ထို့နောက် ကျားမ မရှိခိုက် ထိုဒကာတို့သည် ကျားငယ်ကိုကောက်ယူ၍ ဆရာတော်အား ပြသ ၏။

ကျားမသည် လူတို့ကိုအန္တရာယ်မပြုဘဲ သူ၏ သားကို ရှာဖွေနေ ၏။ ဆရာတော်သည် ကျားငယ်ကိုယူ၍ ကျားမဆီသို့ ဆယ်တောင်

ခန့်နီးသည်အထိ သွားရောက်ကာပို့ပေး၏။ ကျားမသည် မည်သို့မျှ အန္တရာယ်မပြုပေ။ ဆရာတော်ပြန်ကြွသွားသောအခါမှ သူ့သားကို ကောက်ချီသွား၏။

တစ်ဖန် သစ်လုပ်ငန်းလုပ်သော သူဌေးသားတစ်ဦးသည် တိုင်းပြည် မအေးသောကြောင့် အလုပ်ကိုရပ်ကာ ဆင်များကို ပစ်ထားခဲ့၏။ ထိုဆင်များသည် ခုနစ်ကောင်ရှိ၍ တောထဲ၌ဆင်ရိုင်းများ ဖြစ်လာကြ၏။ ထိုဆင်တို့ကို မည်သူမျှဖမ်းဆီး၍မရ။ ဆင်ဦးစီးများလည်း ထိုဆင်များအနီးသို့ ချဉ်းကပ်၍မရကြချေ။

ထိုဆင်တို့သည် ဆရာတော်၏ ကျောင်းပတ်ဝန်းကျင်၌သာ နေကြ၏။ ဆရာတော်ခေါ်လိုက်လျှင် ယဉ်ကျေးစွာချဉ်းကပ်လာကြ၏။ ဆရာတော်အစာကျွေးလျှင် စားကြ၏။ ဆရာတော်ကိုင်လျှင်လည်း ငြိမ်ခံနေကြ၏။ တစ်ခါတစ်ရံကျောင်းသို့လာပြီးအစာတောင်းတတ်ကြသဖြင့် ဆရာတော်က သဘော်ပင်များနှင့် ငှက်ပျောပင်များကို ကပ္ပိယကာရကတို့အား အသင့်ပြင်ဆင်ထားစေ၏။

ဆရာတော်ကို မြွေလည်းမကိုက်ချေ။ ဆရာတော်သည် သေးသေးကြီးကြီး မြွေဆိုးမြွေကောင်းအားလုံးကို လက်နှင့်ကိုင်ဖမ်း၏။ သို့ပါသော်လည်း မြွေအကိုက်မခံရချေ။

သောင်းကျန်းသူများနှင့် ဓားပြသူခိုးများသည်လည်း ဆရာတော်အားလည်းကောင်း၊ ဆရာတော်ထံ လာရောက်ဖူးမြော်ကြသော ပရိသတ်အားလည်းကောင်း အနှောင့်အယှက်မပြုကြချေ။

သီလ, မေတ္တာတို့နှင့်ပြည့်စုံသော ဆရာတော်အား လူများရော နတ်များရော တိရစ္ဆာန်များရော အားလုံးချစ်ခင်ကြည်ညိုကြ၏။ သီလနှင့်မေတ္တာတို့၏ စက်ကွင်းအာနိသင်ပေတည်း။

## မေတ္တာနယ်မှာ ငြိမ်းချမ်းသာ

**ဝေဘူဆရာတော်** (၁၂၅၇–၁၃၃၉) သီတင်းသုံးရာ ကျောက်ဆည်မြို့ ဝေဘူချောင်သည် သုံးဖက်သုံးတန်၌ တောင်ရိုးများဝန်းရံနေသည့် တောင်ဝှမ်းဒေသဖြစ်ပြီး တောချုံများထူထပ်သဖြင့် အစကနဦးက ကျားများ, မြွေဆိုးများ အလွန်ပေါများ၏။ သို့စေကာမူ ဆရာတော်နှင့် ယောဂီများတွင် မည်သည့်အန္တရာယ်မျှမဖြစ်ခဲ့ဖူးချေ။

ဝေဘူချောင်အနီးရှိ ဖောင်ရွာမှ ဦးမောင်ကြီးသည် တစ်နေ့တွင် နွားနှစ်ကောင်သဲသဲမဲမဲ ဝှေ့နေကြသည်ကို မြင်တွေ့ရ၏။ ပြေးလိုက် ဝှေ့လိုက်နှင့် နွားနှစ်ကောင်လုံး သွေးသံရဲရဲဖြစ်နေ၏။ သို့နှင့် ထိုနွားနှစ်ကောင်တို့သည် ဝေဘူချောင်အတွင်းသို့ ဝင်ရောက်လာကြ၏။ ထိုအခါ ဦးမောင်ကြီး အထူးအံ့အားသင့်သွားရသည်မှာ နွားနှစ်ကောင်တို့သည် အဝှေ့ရပ်ပြီး အဆွေခင်ပွန်းများပမာ တစ်ကောင်၏ကိုယ်ပေါ်ရှိ သွေးစသွေးနများကို ကျန်တစ်ကောင်က လျှာဖြင့်လျက်ပေးသည်ကို မြင်ရခြင်းကြောင့်ဖြစ်၏။

ထိုအချိန်မှစ၍ ဦးမောင်ကြီးသည် ဝေဘူဆရာတော်အား ဆည်းကပ်ကိုးကွယ်လာခဲ့၏။ ဆရာတော်နှင့်သံဃာတော်များ ဆွမ်းခံကြွသည့်အခါတိုင်း ဦးမောင်ကြီးသည် ရှေ့ဆုံးမှ ဗြောစည်တီး၍ နိဗ္ဗာန်ဆော်အဖြစ် လိုက်ပါလေ၏။

တစ်ဖန် ဒုတိယကမ္ဘာစစ်အတွင်းက ဂျပန်စစ်သားများသည် ဝေဘူချောင်၌ တပ်စွဲလျက် တရုတ်တပ်များက ဝေဘူချောင်ကို ဝန်းရံနေသည့်တောင်ရိုးပေါ်၌ နေရာယူထားကြပြီးလျှင် နေ့ရောညဉ့်ပါ အပြန်အလှန်ပစ်ခတ်ကြ၏။ ဆရာတော်နှင့် ယောဂီများသည် တရား

ကျောင်းကလေးများအသီးသီး၌ နေထိုင်ကြ၏။ စစ်သားအပါအဝင် မည်သူတစ်ဦးတစ်ယောက်မှ ထိမှန်သေဆုံးခြင်းမရှိချေ။

မေတ္တာဓာတ်လှိုင်းပုံ့နှံ့ရာနယ်နိမိတ်သည် ငြိမ်းအေးချမ်းသာသည့်နယ်ပင် ဖြစ်ချေသည်တကား။

## မေတ္တာရောင်ပြန်ဟပ်သောအခါ

၁၃၃၅ ခုနှစ်၌ မဟာစည်သာသနာ့ရိပ်သာတွင် သတိပဋ္ဌာန် ဝိပဿနာတရား ပွားများနေသော အမျိုးသမီးကြီးတစ်ဦးသည် အိမ်နီးချင်း စီးပွားပြိုင်ဘက်အမျိုးသမီးငယ်တစ်ဦးကို မကျေမနပ်ဖြစ်နေသည့်အတွက် သမာဓိထူထောင်၍မရချေ။ မဟာစည်ဆရာတော်က မေတ္တာကမ္မဋ္ဌာန်းကို ပွားများစေ၏။ ဤအခါတွင်လည်း ထိုစီးပွားရေးပြိုင်ဘက်ကို မေတ္တာပွားပို့၍မရချေ။

"သူ့ရဲ့ကောင်းကွက်ကိုရှာပြီး မေတ္တာပို့ပါ"

ဆရာတော်က အမိန့်ရှိပြန်သဖြင့် ကြိုးစား၍မေတ္တာပို့ရပြန်၏။ သုံးရက်မြောက်သည့်နေ့၌ ပြိုင်ဘက်ရန်သူ၏ မျက်နှာကအစ တစ်ကိုယ်လုံးကို ခြေဆုံးခေါင်းဆုံးမြင်အောင်အာရုံယူ၍ မေတ္တာပို့သ၏။ မေတ္တာပို့သနေစဉ် ထိုအမျိုးသမီးငယ်၏ မျက်နှာ ပြုံးရွှင်လာ၏။ သူက တောင်းပန်စကားဆိုလာ၏။

"အဒေါ်…ကျွန်မပြောမိဆိုမိမှားတာရှိရင် သည်းခံခွင့်လွှတ်ပါနော်၊ အဒေါ်တရားဝင်နေတာ ဝမ်းသာပါတယ်၊ ကျွန်မတို့လဲ တရားဝင်ဖို့ အားခဲနေတာပဲ"

နောက်တစ်နေ့နံနက်စောစောတွင် ထိုယောဂီအမျိုးသမီးကြီးသည် ရွှေတိဂုံဘုရားသို့ ဆွမ်း, ပန်း ကပ်လှူရန်သွား၏။ ဘုရားပေါ်

၌ ထိုစီးပွားပြိုင်ဘက်နှင့် တွေ့ဆုံ၏။ သူမဝတ်ထားသည့် ဝတ်စုံမှာ အာရုံတွင် မြင်တွေ့ခဲ့ရသည့်အတိုင်းဖြစ်၏။ ထို့အပြင် ထိုအမျိုးသမီးငယ်က ပြုံးရွှင်စွာ ချဉ်းကပ်လာပြီးလျှင် အထက်ကစကားအတိုင်း တောင်းပန်စကားဆိုလာပြန်လေ၏။

ကိုယ်က သူ့အပေါ် မေတ္တာထားလာနိုင်သောအခါ သူကလည်း ကိုယ့်အပေါ်တွင် မေတ္တာသက်ဝင်လာသည်တကား။



ရိုမန်ကက်သလစ်ဘာသာမှ ဗုဒ္ဓဘာသာသို့ကူးပြောင်းလာခဲ့သူ အီတာလျံလူမျိုး အမေရိကန်ပြည်သားဖြစ်သည့် **ဦးလောကနာထ** သည် ၁၉၃၆ ခုနှစ်တွင် ပြင်သစ်၊ ဆွစ်ဇာလန်၊ ဩစတြီးယား၊ ယူဂိုစလားဗီးယား၊ ဘူလ်ဂေးရီးယား၊ တူရကီ၊ ဆီးရီးယား၊ ပါလက်စတိုင်း၊ ဗုဒ္ဓဂယာသို့ အစဉ်အတိုင်း ရှစ်လကြာခြေလျင်ခရီးထွက်ခဲ့၏။

"ဆိုးသွမ်းတဲ့နေရာမှာ နာမည်ကြီးလှတဲ့ တူရကီတောင်ပိုင်းရှိ တိုးရပ်စ်တောင်တန်းကို ကျွန်ုပ်ဖြတ်ကျော်တဲ့အခါ တူရကီ တောပုန်းဓားပြများက ကျွန်ုပ်ကိုဖမ်းတယ်၊ သူတို့ရဲ့ဓားသွားတွေ ဘယ်လောက်ထက်တာကိုစမ်းသပ်ဖို့ ကျွန်ုပ်ရဲ့လည်ပင်းကို ခုတ်ဖြတ်ရန် ပြင်ဆင်ကြတယ်၊ မကြာမီ ကျွန်ုပ်သေရတော့မှာဖြစ်တယ်။

"အဲဒီအခါမှာ ကျွန်ုပ်က မြတ်စွာဘုရားရဲ့ဂုဏ်တော်ကို အာရုံပြုလိုက်တယ်၊ '၃၁ ဘုံမှာကျင်လည်ကြတဲ့ သတ္တဝါများအား ချမ်းသာစေကြောင်း လှိုက်လှိုက်လှဲလှဲ မေတ္တာပို့တဲ့သူကို ဓားလက်နက်တို့မစူးဝင်နိုင်၊ မီးလဲမလောင်နိုင်၊ အဆိပ်လဲမသင့်နိုင်' ဆိုတဲ့ ဘုရားရှင်ရဲ့ စကားတော်ကို ကြားယောင်လာတယ်။

"ဒီတော့ ကျွန်ုပ်ဟာ မြေပေါ်မှာ တင်ပျဉ်ခွေထိုင်ချပြီးတော့ မျက်လုံးအစုံကိုမှိတ်ကာ လူဆိုးဓားပြများအား ရှူးရှူးစိုက်စိုက် လှိုက်လှိုက်လှဲလှဲ မေတ္တာပို့လွှတ်လိုက်ပါတယ်။ *'မိခင်သည် မိမိ၏ တစ်ဦးတည်းသားကို အသက်စွန့်၍စောင့်ရှောက်နေသကဲ့သို့ သတ္တဝါတို့၏အပေါ်၌ အကန့်အသတ် အပိုင်းအခြားမရှိသော မေတ္တာစိတ်ထားရမည်'* ဆိုတဲ့ ဗုဒ္ဓအဆုံးအမအရ ကျွန်ုပ်က မိခင်နေရာမှာနေတယ်၊ ဓားပြနှစ်ဦးကို သားအရင်းများပမာသဘောထားလျက် 'ငါ့သားနှစ်ဦး အတွက် ငါ့အသက်ကို ကြည်ဖြူစွာပေးအပ်တော့မည်' ဟု နှလုံးသွင်းနေလိုက်တယ်။

"မေတ္တာပို့ရင်းနဲ့ လည်ကုပ်ပေါ်ကို ဓားသွားဘယ်တော့ကျမလဲလို့ မျှော်မိတယ်။ ဒီအခါမှာ တစ်မိနစ်ဆိုတဲ့အချိန်ဟာ အနှစ် တစ်သန်းလောက် ရှည်ကြာတယ်လို့ ထင်မိတယ်၊ နောက်ဆုံးမတော့ 'ကဲ ထ ...သွားတော့' ဆိုတဲ့အမိန့်ပေးသံကိုကြားလိုက်ရတယ်၊ ဓားပြများက သူတို့ရဲ့မိခင်အရင်းကို မသတ်နိုင်ကြသလို ကျွန်ုပ်ကိုလဲ မသတ်နိုင်ကြတော့ဘူးလေ"

မေတ္တာ၏ကြီးမားသော တန်ခိုးစွမ်းအင်သည် ရောင်ပြန်ဟပ်နိုင်သည်မှာ ထင်ရှားလှပေတော့၏။

## မေတ္တာပို့လို့ ရောက်ပါသလား

ကမ္ဘာမြေပြင်မှ ရေဒီယိုလှိုင်းများကို လကမ္ဘာဆီသို့ပို့လွှတ်လိုက်လျှင် ထိုရေဒီယိုလှိုင်းများသည် လမျက်နှာပြင်နှင့် ရိုက်ခတ်မိပြီးနောက် ကမ္ဘာမြေပြင်သို့ပြန်ရောက်လာ၏။ လေဆာရောင်ခြည်တန်းတစ်ခုကို စေလွှတ်လိုက်လျှင်လည်း ချက်ချင်းပြန်လာ၏။ ဤပြန်

လာသော အခြင်းအရာကို ထောက်ရှု၍ ပို့လွှတ်လိုက်သော ရေဒီယို လှိုင်း သို့မဟုတ် လေဆာရောင်ခြည်တန်းတို့သည် ပို့လွှတ်ရာအရပ် ဆီသို့ တည့်တည့်မတ်မတ်ရောက်သွားကြကြောင်း သိရှိရ၏။

ထိုနည်းအတူ ရန်သူတစ်ဦးအား မေတ္တာပို့သ,သဖြင့် ထိုသူက မေတ္တာတုံ့ပြန်လာလျှင် ပို့သလိုက်သော မေတ္တာသည် ခရီးပေါက် မြောက်ကြောင်း သိနိုင်ပေ၏။ တိရစ္ဆာန်များကို မေတ္တာပို့သဖြင့် တိရစ္ဆာန်များက ချစ်ကြည်ကာ ရန်မမူကြခြင်းကို ထောက်ရှု၍လည်း မေတ္တာပို့လျှင် ထိရောက်ကြောင်း သိနိုင်ပေ၏။

ယခုအခါ ကမ္ဘာ့လူထူးလူဆန်းတစ်ဦးအဖြစ် သတ်မှတ်ခံရသော နယ်ခြားတောင်တန်းသာသနာပြုဆရာတော်ကြီး **ဦးဥတ္တမသာရ** သည် သားရဲတိရစ္ဆာန်များ ပေါများသည့် ချင်းတောင်, ကချင်တောင်, နာဂတောင်တန်းများပေါ်တွင် နေ့ညဥ့်မရှောင် အဖော်မပါလက်နက် ဗလာဖြင့် နှစ် ၅၀ ကျော် သွားလာနေခဲ့သော်လည်း ယနေ့ထက်တိုင် တစ်ခါသော်မျှ အနှောင့်အယှက်မကြုံတွေ့ရချေ။ ဤကား ဆရာတော် ကြွလေရာခရီးတစ်လျှောက်၌ ဆရာတော်ပို့သသည့် မေတ္တာဓာတ် သည် သားရဲတိရစ္ဆာန်များ၏ နှလုံးသားကို ရိုက်ခတ်ပြီး မေတ္တာရောင် ပြန် ထင်ဟပ်စေသည်မှာ သေချာလှပေတော့၏။

မေတ္တာပို့သခြင်းသည် စိတ်စွမ်းအင်ကိုစေလွှတ်ခြင်းပင် ဖြစ်၏။ အသံစွမ်းအင်၊ အလင်းစွမ်းအင်ကို ဝေးရာသို့စေလွှတ်သည့်အခါ တစ် ခဏချင်း ရောက်သွားသကဲ့သို့ စိတ်စွမ်းအင်ကို နီးနီးဝေးဝေး ရည် မှန်းရာအရပ်သို့စေလွှတ်လိုက်လျှင် တစ်မဟုတ်ချင်းပင် ရောက်သွား လေ၏။

၁၃၄၉ ခုနှစ် မိုးရာသီတွင် ပေ ၇၀၀၀ ကျော်မြင့်သည့် နယ်ခြား

ချင်းတောင်ပေါ်တွင် သီတင်းသုံးနေသောဆရာတော်ဦးဥတ္တမသာရ ထံသို့ မြိတ်မြို့မှဒကာတစ်ဦးက စာဖြင့်လျှောက်ကြားလာ၏။

"အရှင်ဘုရား...တပည့်တော်၏သားကြီးသည်အသက်သုံးဆယ် ကျော်လူပျိုကြီးတစ်ဦးဖြစ်ပါသည်၊ စကားလုံးဝမပြောပါ၊ အကယ် ၍ ရူးသွပ်နေမည်ထင်ပါက ထိုရောဂါပျောက်စေတတ်သော ဆေး နည်းကို ညွှန်ကြားတော်မူပါ။ အထူးသဖြင့် သားစိတ်အနေမှန်လာ အောင် မေတ္တာပေးပို့တော်မူပါ"

ဆရာတော်သည် ချက်ချင်းပင်လျှင် ထိုမမြင်ဖူးသောသူကိုစိတ် အာရုံ၌မှန်းဆပြီး မေတ္တာပို့ပေး၏။ သတိရတိုင်း ဆက်လက်ပြီး မေတ္တာပို့ပေး၏။ မိုးကုန်သောအခါ ဆရာတော်သည်ပြည်မသို့ခရီး ထွက်လာ၏။ ၁၃၄၉ ခု တပို့တွဲလဆန်း ၇ ရက်နေ့တွင် မြိတ်မြို့သို့ ရောက်လာ၏။ လေယာဉ်ပေါ်မှဆင်းသက်ပြီး မြိတ်မြေပြင်ကိုဆရာ တော်ခြေချလိုက်သည်နှင့်တစ်ပြိုင်နက် ဘဝတစ်လျှောက်လုံး စကား မပြောဘဲနေခဲ့သော လူပျိုကြီးသည် ထူးဆန်းစွာစကားပြောလာ၏။

"သား သင်္ကန်းဝတ်ချင်တယ်" ဟူ၍ဖြစ်၏။

မိခင်သည် အံ့သြခြင်းကြီးစွာဖြင့် ဝမ်းသာမဆုံး ဖြစ်ရ၏။ ထို အချိန်၌ ဖခင်ဦးဟုတ်စိန်သည် ခရီးသွားနေခိုက်ဖြစ်၏။

"ကောင်းပြီသားရေ...သင်္ကန်းဝတ်ချင်ရင် ဝတ်ရစေမယ်၊ သား အဖေရောက်လာတဲ့အခါ အဆင်သင့်ဝတ်နိုင်အောင် မေမေအခုပဲ သင်္ကန်းသွားဝယ်ထားမယ်ကွယ်"

ဦးဟုတ်စိန်ပြန်ရောက်လာသည့်အခါ ထိုသားကြီးနှင့်တကွ သား ငါးယောက်နှင့် တူခုနစ်ယောက်တို့ကို ရဟန်းခံပွဲကျင်းပပေးလေ၏။

ထို့ကြောင့် မေတ္တာကို ဝေးရပ်သို့ပင် ရောက်အောင် ထိမိအောင် ပို့လွှတ်နိုင်ကြောင်း ထင်ရှားပေတော့၏။

## မေတ္တာကို ဘယ်လိုပို့လွှတ်ရသလဲ

*ဆရာတော်ဦးဥတ္တမသာရက ဘဝချမ်းသာအောင် နေလိုသူတိုင်းသည် မေတ္တာတရားဖြင့် နေရမည်။ မေတ္တာတရားဖြင့် သတ္တလောကကြီးတစ်ခုလုံးအပေါ်ခြုံလွှမ်း၍ စိတ်အာရုံဖြန့်ပွားပေးရမည်။ အလွယ်ကူဆုံး မေတ္တာဖြန့်ပွားနည်းမှာ...*

* စကြဝဠာအနန္တ၌ရှိကြကုန်သော နတ်, လူ, သတ္တဝါ အားလုံး ဘေးရန်ကြောင့်ကြ, ဆင်းရဲကင်း၍ ကိုယ်စိတ်နှစ်ဖြာကျန်းမာချမ်းသာကြပါစေ။
* ကောင်းကျိုးလိုရာဆန္ဒ ပြည့်ဝကြပါစေ။

ဤမေတ္တာဖြန့်ပွားနည်းအကျဉ်းကို ပထမအသံထွက်ပြီး ရွတ်ဆိုပါ။ ရွတ်ဖန်များလာသည့်အခါ အဓိပ္ပာယ်သဘောကို သိလာ၏။ စိတ်ဝင်စားလာ၏။ ထိုအခါ အသံမထွက်ဘဲ စိတ်ထဲကသာ ရွတ်ဆိုပြီး ဆင်ခြင်ဖြန့်ပွားနေပါ။ နတ်လူသတ္တဝါအားလုံးတို့အပေါ်မှာချစ်ခြင်းမေတ္တာနှင့် သနားခြင်းကရုဏာစိတ် ဖြစ်ပေါ်လာလိမ့်မည်။

ဤကား မေတ္တာရှင်, ကရုဏာရှင်ဖြစ်ရန် လမ်းစပေတည်း။

"သတ္တလောကကြီးတစ်ခုလုံး၌ ရှိသမျှသော နတ် လူသတ္တဝါအားလုံးတို့အပေါ်ဝယ် မိမိရဲ့မေတ္တာပျံ့နှံ့စေ၍ ခြုံလွှမ်း၍ ဖြန့်ကျက်၍ လူတို့ရဲ့စိတ်နှလုံးတွင်းသို့ စိမ့်ဝင်စေ၍ တကယ်ချမ်းသာစေလိုသော စေတနာဖြင့် လှိုက်လှဲစွာ ပို့လွှတ်နေခြင်းကို မေတ္တာဘာဝနာပွားခြင်းလို့ ဆိုပါတယ်"

## ၅၂၈ - သွယ်မေတ္တာပွားပုံ

ပဋိသမ္ဘိဒါမဂ်ပါဠိတော်လာ ၅၂၈ – သွယ်မေတ္တာပွားနည်းတွင် ရှေးဦးစွာ မေတ္တာကို အနောဓိသမေတ္တာနှင့် ဩဓိသမေတ္တာဟူ၍ နှစ်မျိုး ခွဲ၏။

### (၁) အနောဓိသမေတ္တာ ငါးမျိုး

သတ္တဝါတို့ကို အထူးမရည်ညွှန်းဘဲ သာမညပွားပို့သောမေတ္တာကို အနောဓိသမေတ္တာဟုခေါ်၏။ အနောဓိသ သတ္တဝါငါးမျိုးရှိ၏။

၁။ သဗ္ဗေသတ္တာ = အလုံးစုံသော သတ္တဝါအပေါင်းတို့သည်...

၂။ သဗ္ဗေပါဏာ = အလုံးစုံသော ထွက်သက်ဝင်သက်ရှိသည့် သတ္တဝါအပေါင်းတို့သည်...

၃။ သဗ္ဗေဘူတာ = အလုံးစုံသော ကိုယ်ထင်ရှားရှိသည့် သတ္တဝါအပေါင်းတို့သည်...

၄။ သဗ္ဗေပုဂ္ဂလာ = အလုံးစုံသော ပုဂ္ဂိုလ်အပေါင်းတို့သည်

၅။ သဗ္ဗေအတ္တဘာဝပရိယာပန္နာ= အလုံးစုံသော ခန္ဓာကိုယ်အတ္တဘောရှိသူအပေါင်းတို့သည်...

### (၂) ဩဓိသမေတ္တာ ခုနစ်မျိုး

သတ္တဝါတို့ကို အထူးရည်ညွှန်း၍ ပွားပို့သောမေတ္တာကို 'ဩဓိသမေတ္တာ' ဟုခေါ်၏။ ဩဓိသသတ္တဝါခုနစ်မျိုးရှိ၏။

၁။ သဗ္ဗာဣတ္ထိယော = အလုံးစုံသောမိန်းမ (အမသတ္တဝါ) အပေါင်းတို့သည်...

၂။ သဗ္ဗေပုရိသာ = အလုံးစုံသော ယောကျ်ား (အထီး သတ္တဝါ) အပေါင်းတို့သည်...

၃။ သဗ္ဗေအရိယာ = အလုံးစုံသော အရိယာအပေါင်းတို့ သည်...

၄။ သဗ္ဗေအနရိယာ = အလုံးစုံသော ပုထုဇဉ်အပေါင်းတို့ သည်...

၅။ သဗ္ဗေဒေဝါ = အလုံးစုံသော နတ်ဗြဟ္မာအပေါင်း တို့သည်...

၆။ သဗ္ဗေမနုဿာ = အလုံးစုံသော လူအပေါင်းတို့သည်

၇။ သဗ္ဗေဝိနိပါတိကာ= အလုံးစုံသော အပါယ်သတ္တဝါ အပေါင်းတို့သည်...

## (၃) မေတ္တာပွားနည်း လေးချက်

အထက်ပါသတ္တဝါတစ်မျိုးစီကို အောက်ပါအတိုင်း မေတ္တာ လေးချက်စီ ပွားပို့ရမည်။

၁။ အဝေရာဟောန္တု = ဘေးရန်ကင်းကြပါစေ

၂။ အဗျာပဇ္ဈာဟောန္တု= စိတ်ဆင်းရဲကင်းကြပါစေ

၃။ အနီဃာဟောန္တု = ကိုယ်ဆင်းရဲကင်းကြပါစေ

၄။ သုခီအတ္တာနံပရိဟရန္တု = ကိုယ်စိတ်နှစ်ဖြာ ချမ်းသာ လွယ်ကူစွာဖြင့် မိမိတို့၏ ခန္ဓာဝန်ကို ရွက်ဆောင်နိုင် ကြပါစေ။

**(၄) အရပ်မျက်နှာ ၁၀–ပါး**

| | | |
|---|---|---|
| ၁။ ပုရတ္ထိမာယဒိသာယ | = | အရှေ့အရပ်၌ ရှိကြကုန်သော... |
| ၂။ ပစ္ဆိမာယဒိသာယ | = | အနောက်အရပ်၌ ရှိကြကုန်သော... |
| ၃။ ဥတ္တရာယဒိသာယ | = | မြောက်အရပ်၌ ။ ။ |
| ၄။ ဒက္ခိဏာယဒိသာယ | = | တောင်အရပ်၌ ။ ။ |
| ၅။ ပုရတ္ထိမာယအနုဒိသာယ | = | အရှေ့တောင်အရပ်၌ ရှိကြကုန်သော... |
| ၆။ ပစ္ဆိမာယအနုဒိသာယ | = | အနောက်မြောက်အရပ်၌ ရှိကြကုန်သော... |
| ၇။ ဥတ္တရာယအနုဒိသာယ | = | အရှေ့မြောက်အရပ်၌ ရှိကြကုန်သော... |
| ၈။ ဒက္ခိဏာယအနုဒိသာယ | = | အနောက်တောင်အရပ်၌ ရှိကြကုန်သော... |
| ၉။ ဟေဋ္ဌိမာယဒိသာယ | = | အောက်အရပ်၌ ရှိကြကုန်သော... |
| ၁၀။ ဥပရိမာယဒိသာယ | = | အထက်အရပ်၌ ရှိကြကုန်သော... |

## (၅) ၅၂၈–သွယ်သောမေတ္တာ ဖြစ်လာပုံ

အရပ်မျက်နှာမရည်ညွှန်းဘဲ အနောဓိသသတ္တဝါငါးမျိုး၊ ဩဓိသသတ္တဝါခုနစ်မျိုး၊ ပေါင်း သတ္တဝါ ၁၂ မျိုးကို မေတ္တာလေးချက်စီ ပွားပို့သဖြင့် မေတ္တာ ၁၂ x ၄ = ၄၈ ပါး ရ၏။

ထို့နောက် အရှေ့အရပ်၌ရှိကြကုန်သော အထက်ပါသတ္တဝါ ၁၂ မျိုးကို မေတ္တာလေးချက်စီပွားပို့သဖြင့် မေတ္တာ ၄၈ ပါးရပြန်၏။

အရပ် ၁၀ မျက်နှာအတွက် မေတ္တာပေါင်း =

၄၈ x ၁၀ = ၄၈၀ ပါး

အရပ်မျက်နှာကိုမရည်ညွှန်းဘဲ ပွားပို့သည့်မေတ္တာ = ၄၈ ပါး

စုစုပေါင်း = ၅၂၈ ပါး

**တိပိဋကဓရအရှင်ဝိစိတ္တသာရာဘိဝံသ ညွှန်ပြသောမေတ္တာပွားနည်း**

၁။ အရှေ့အရပ်၌ရှိသော အနန္တစကြဝဠာ အနန္တသတ္တဝါတို့
ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ၊
ဒေါသခပ်သိမ်း ငြိမ်းကြပါစေ၊
ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ၊
နှလုံးစိတ်ဝမ်း အေးချမ်းကြပါစေ၊

၂။ အနောက်အရပ်၌ရှိသော အနန္တစကြဝဠာအနန္တသတ္တဝါတို့ ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ (စသည်ဖြင့် လေးချက်ပွားပါ)

၃။ မြောက်အရပ်၌ရှိသော အနန္တစကြဝဠာအနန္တ သတ္တဝါတို့ (အထက်ပါအတိုင်း)

၄။ တောင်အရပ်၌ ။ ။ ။
၅။ အရှေ့တောင်ထောင့် ။ ။ ။
၆။ အနောက်မြောက်ထောင့် ။ ။
၇။ အရှေ့မြောက်ထောင့် ။ ။ ။
၈။ အနောက်တောင်ထောင့် ။ ။
၉။ အောက်အရပ်၌ရှိသော ထက်ဝန်းကျင် အနန္တ စကြဝဠာ
အပါယ်ဘုံသား အနန္တ သတ္တဝါတို့...
(အထက်ပါအတိုင်း လေးချက်ပွားပါ)
၁၀။ အထက်အရပ်၌ရှိသော ထက်ဝန်းကျင် အနန္တ စကြဝဠာ
အနန္တ နတ်ဗြဟ္မာတို့...
ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ၊
ဒေါသခပ်သိမ်း ငြိမ်းကြပါစေ၊
ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ၊
နှလုံးစိတ်ဝမ်း အေးချမ်းကြပါစေ။

## မေတ္တာသုတ်လာ မေတ္တာဘာဝနာ ၁၁ မျိုး

တိပိဋကဓရဆရာတော်အရှင်ဝိစိတ္တသာရာဘိဝံသ ညွှန်ပြပေးသော မေတ္တာသုတ်ပရိတ်တော်လာ မေတ္တာဘာဝနာပွားနည်း ၁၁ မျိုးမှာ...

၁။ လုံးစုံများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ၊
ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။
၂။ ကြောက်တတ်–မကြောက်တတ်၊ နှစ်ရပ်များစွာ၊ သတ္တဝါ၊
ချမ်းသာကိုယ်စိတ်မြဲပါစေ။
ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

၃။ မြင်အပ်–မမြင်အပ်၊ နှစ်ရပ်များစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ၊
ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

၄။ ဝေးနေ–နီးနေ၊ နှစ်ထွေများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ၊
ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

၅။ ဘဝဇာတ်ဆုံး၊ မဆုံးများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ၊
ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

၆။ ရှည်–တို–အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ် စိတ် မြဲပါစေ၊
ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

၇။ ကြီး–ငယ်–အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ် စိတ် မြဲပါစေ၊
ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

၈။ ဆူ–ကြုံ–အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ၊
ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

၉။ လူအချင်းချင်း၊ လှည့်ပတ်ခြင်း၊ ကင်းရှင်းကြပါစေ။

၁၀။ အထင်သေးခြင်း၊ အချင်းချင်း၊ ကင်းရှင်းကြပါစေ။

၁၁။ ဆင်းရဲလိုခြင်း၊ အချင်းချင်း၊ ကင်းရှင်းကြပါစေ။

## မေတ္တာညီမျှပါစေ

မေတ္တာဘာဝနာကိုဖြန့်ပွားရာတွင် သတ္တဝါများအားလုံးအပေါ်မှာ မေတ္တာအညီအမျှထားရ၏။ 'ငါမုန်းသောငါ့ရန်သူမှတစ်ပါး အခြားသူအားလုံး ချမ်းသာကြီးပွားကြပါစေ'ဟုကွက်ချန်ထား၍ မရ။ မိမိချစ်သူ, မုန်းသူ, မချစ်မမုန်းသူနှင့် မိမိဟူသည့် ပုဂ္ဂိုလ်လေးဦးကို အညီအမျှမေတ္တာထားနိုင်သည်အထိ လေ့ကျင့်ပွားများသွားရမည်ဖြစ်၏။

မြတ်စွာဘုရားရှင်က "ရဟန်းတို့၊ ရဟန်းမည်သည်ကား ခပ်သိမ်းသောသတ္တဝါတို့၌ ဩဓိသ–ပိုင်းခြားသတ်မှတ်သောမေတ္တာ၊ အနောဓိသ– ကန့်သတ်ပိုင်းခြားမထားဘဲ အားလုံးကုန်သိမ်းခြုံဖြန့်သော မေတ္တာဟူ၍ မေတ္တာနှစ်မျိုးကို ဖြန့်ကြရမယ်။

"မိမိ၏အကျိုးစီးပွားကို လိုသူဖြစ်စေ၊ မလိုသူဖြစ်စေ၊ ရံခါလို၍ ရံခါမလိုသူဖြစ်စေ၊ လိုသူလဲမဟုတ် မလိုသူလဲမဟုတ်သူဖြစ်စေ မိမိဘက်ကမူ အမြဲချမ်းသာစေလိုသောစိတ်ဖြင့် ဖြန့်ပွားရမယ်၊ နှံ့စေရမယ်၊ ပုဂ္ဂိုလ်သတ္တဝါမခွဲခြားရ၊ ညီမျှသောမေတ္တာစိတ် ပုံမှန်ထား၍ နေရမယ်"ဟု ဟောကြားတော်မူခဲ့၏။

## မေတ္တာဘာဝနာ၏အကျိုးကျေးဇူးများ

တိပိဋကဓရဆရာတော် အရှင်ဝိစိတ္တသာရာဘိဝံသက ဤသို့ ဟောကြားထားပေ၏။

"ကနေ့ကြည့်မယ်ဆိုလို့ရှိရင် သတ္တဝါတွေမှာ ရာဂမီး၊ ဒေါသမီး၊ မောဟမီး၊ မီးသုံးပါးတွေ တဟုန်းဟုန်းလောင်နေတယ်။ ဒါကမြင်ရတဲ့ဉာဏ်နဲ့ကြည့်ရင် မြင်ရတဲ့မီးသုံးပါး။ တစ်ခါ ဉာဏ်နဲ့ကြည့်ရင် မြင်ရမယ့် အကျိုးမီးက ငရဲမီး...

"ဣတိဝုတ်ပါဠိတော်လာ**အဂ္ဂိသုတ်**မှာ ဟောထားပုံက…

(၁) လောဘမီးကို အကြောင်းပြုပြီးတော့ ဒေါသမီး တောက်တယ်။

(၂) ဒေါသမီးကို အကြောင်းပြုပြီးတော့ မောဟမီး တောက်တယ်။

(၃) မောဟမီးတောက်တော့ ငရဲမီးတွေတောက်ကုန်တယ်။

(၄) ငရဲမီးတောက်ရင် သတ္တဝါတွေဟာ ဒုက္ခမီးတွေ တဟုန်းဟုန်း တောက်တယ်…တဲ့။

"ဒါဖြင့်ရင် ကောင်းပြီ၊ မီးကိုငြိမ်းစေနိုင်တဲ့ရေရှိသလို အခုပြောတဲ့ လောဘမီး၊ ဒေါသမီး၊ မောဟမီး၊ ငရဲမီး၊ ဒီမီးတွေကိုငြိမ်းစေတတ်တဲ့ တရားရေကော မရှိဘူးလား…ဆို၊ တရားရေက မေတ္တာဘာဝနာသည် အဲဒီမီးတွေကိုငြိမ်းစေတတ်တဲ့ ရေစင်ရေအေးဖြစ်ပါတယ်"

သို့အတွက် သတ္တဝါတစ်ဦးစီကို မရပ်မနားလောင်မြိုက်နေစေတဲ့ ကြောက်စရာ့မီးတောက်ကြီးများကို ငြိမ်းသတ်ပေးနိုင်သည့် ရေစင်ရေအေးမှာ မေတ္တာဘာဝနာပင်ဖြစ်သည်။

မေတ္တာပွားပို့သူသည် မိမိအားလောင်မြိုက်နေသောမီးကြီးများကို ချက်ချင်းငြိမ်းသတ်နိုင်သဖြင့် ချမ်းသာသောဘဝကို လက်ငင်းရရှိသည်။ ထို့အပြင် မေတ္တာအာနိသင်ဖြင့် သတ္တဝါအချင်းချင်း ချစ်ခင်ကြင်နာလာကြသဖြင့် သာယာငြိမ်းချမ်းသောလောကကြီးကို တည်ဆောက်ရာ၌လည်း အထောက်အကူပြုသည်။

မေတ္တာဘာဝနာသည် လောဘမီး, ဒေါသမီး, မောဟမီးတို့ကို ငြိမ်းသတ်နိုင်သည့်အတွက် မေတ္တာပွားပို့ရသော ကုသိုလ်သည် ဒါနကုသိုလ်, သီလကုသိုလ်တို့ထက် ပို၍ကြီးမားသည်။

*"တစ်နေ့သုံးခါ၊ အိုးတစ်ရာဖြင့်၊ ချက်ကာထမင်း၊ ကျွေးမွေးခြင်းထက်၊ မယွင်းစင်စစ်၊ နို့တစ်ညှစ်စာ၊ မေတ္တာပွားများ၊ ကျိုးကြီးမားသည်၊ ဘုရားမြတ်စွာ မိန့်ခွန်းတည်း"*

ဟု မဟာစည်ဆရာတော်ဘုရား စပ်ဆိုထားခဲ့၏။

တစ်နေ့လျှင် အိုးသုံးရာဖြင့် ဆွမ်းစုံချက်ပြီး ပေးကမ်းလှူဒါန်းရခြင်းထက် နွားနို့တစ်ညှစ်စာကာလမျှ မေတ္တာဈာန်နှင့် ယှဉ်သော မေတ္တာပွားပို့ရသည့်ကုသိုလ်က ပိုကြီးမားသည်ဟု မြတ်စွာဘုရား ဟောကြားတော်မူခဲ့၏။

မေတ္တာဘာဝနာကို စူးစူးစိုက်စိုက် စွဲစွဲမြဲမြဲ ပွားများအားထုတ်သူသည် ပထမဈာန်၊ ဒုတိယဈာန်၊ တတိယဈာန်၊ စတုတ္ထဈာန်အသီးသီးတို့ကို အဆင့်ဆင့်ရရှိနိုင်၏။ ထိုဈာန်ချမ်းသာသည်ပင်လျှင် ကာမဂုဏ်ချမ်းသာတို့ထက် များစွာသာလွန်၏။

ထို့ကြောင့် ဤမျက်မှောက်ဘဝ၌ပင် ချမ်းချမ်းသာသာနေထိုင်လိုလျှင် မေတ္တာဘာဝနာကို ပွားများအားထုတ်ရာ၏။ ဈာန်မပျက်ဘဲ တမလွန်ဘဝသို့ကူးပြောင်းသွားသော် ဗြဟ္မာ့ဘုံသို့လားရောက်ရ၏။

ထိုမျှသာမကသေး။ မေတ္တာဘာဝနာသည် စတုရာရက္ခ – သက်စောင့်ကမ္မဋ္ဌာန်းလေးပါးတွင် ပါဝင်၏။ ဈာန်သမာဓိအဆင့်ထိ မေတ္တာဘာဝနာ ပွားများအားထုတ်နိုင်သူသည် ဝိပဿနာဘာဝနာသို့ ကူးပြောင်းလိုက်လျှင် မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို လျင်မြန်ဆောစွာ ရရှိနိုင်ပေသေး၏။

မေတ္တာ၏ အကျိုးကား တန်ဖိုးမဖြတ်နိုင်လေစွတကား။

**မေတ္တာအကျိုး ၁၁ ပါး**

ဝိသုဒ္ဓိမဂ်အဋ္ဌကထာ၌ဖော်ပြထားသော မေတ္တာ၏အကျိုးအာနိသင် ၁၁ ပါးတို့မှာ...

(၁) ချမ်းသာစွာအိပ်ရ၏။

(၂) ချမ်းသာစွာနိုးရ၏။

(၃) ယုတ်မာဆိုးဝါးသောအိပ်မက်များကို မမြင်မက်ရ။

(၄) လူတို့ချစ်ခင်၏။

(၅) နတ်တို့လည်း ချစ်ခင်၏။

(၆) နတ်တို့စောင့်ရှောက်ကုန်၏။

(၇) မေတ္တာပွားများလေ့ရှိသူအား မီးသည်လည်းကောင်း၊ အဆိပ်သည်လည်းကောင်း၊ လက်နက်သည်လည်းကောင်း မရောက်မကပ်နိုင်။

(၈) လျင်စွာလည်တတ်, ပျံ့လွင့်တတ်သောစိတ်သည် အညီအညွတ် ကောင်းစွာတည်၏။

(၉) မျက်နှာအဆင်းကြည်လင်၏။

(၁၀) မတွေမဝေဘဲ စုတေသေလွန်ရ၏။

(၁၁) ထို့ထက်အလွန်ဖြစ်သောမဂ်ဉာဏ်ကို ထိုးထွင်း၍မရခဲ့သော် ဗြဟ္မာပြည်သို့ လားရောက်ရ၏။

အထက်ပါအကျိုး ၁၁ ပါးကို လင်္ကာဖြင့်မှတ်သားလိုလျှင်...

*"အိပ်,နိုး ချမ်းသာ၊ ယုတ်မာမမက်၊ နှစ်သက် လူ, နတ်၊ စောင့်ရှောက်နတ်များ၊ ဆိပ်ကားမနှံ့၊ စိတ်ပြန့်တည်ကြည်၊ ရွှင်သည်မျက်နှာ၊ သေကာမတွေ၊ လားလေဗြဟ္မာ၊ ဆယ့်တစ်ခါဟု၊ မေတ္တာနိသင်၊ ကျိုးဆက်ထင်သည်၊ ရှင်လူအများ ကျင့်ရာသော်"*

## မေတ္တာပရိတ်၏အကျိုးကျေးဇူး

သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ မြတ်စွာဘုရားသီတင်းသုံးနေတော်မူစဉ် **ရဟန်းငါးရာ**တို့သည် ဘုရားရှင်ထံ ကမ္မဋ္ဌာန်းသင်ယူကြပြီးနောက် ယူဇနာတစ်ရာဝေးကွာ၍ ဟိမဝန္တာနှင့်စပ်နေသော တောအုပ်စခန်းတစ်ခုဆီသို့ ကြွလှမ်းသွားကြ၏။

ထိုရဟန်းတို့၏ သီလတန်ခိုးကြောင့် ရုက္ခစိုးနတ်များသည် သစ်ပင်များပေါ်ရှိဗိမာန်များ၌ မနေနိုင်ကြတော့ဘဲ ကလေးသူငယ်များကိုချီပိုးကာ ထွက်ပြေးတိမ်းရှောင်ကြရ၏။ ရက်အနည်းငယ်ကြာသော် ထိုနတ်တို့သည် ရဟန်းများမနေနိုင်အောင် အမျိုးမျိုးခြောက်လှန့်ကြကုန်၏။

ရဟန်းများသည် ကြောက်ရွံ့ထိတ်လန့်ပြီး အအိပ်ပျက် အစားပျက်ဖြစ်ကာ ကြုံလှီဖျော့တော့လာကြကုန်၏။ သို့အတွက် အခြားသပ္ပာယဖြစ်မည့်နေရာတစ်နေရာကိုညွှန်ပြပေးဖို့ တောင်းပန်လျှောက်ထားရန် ဘုရားရှင်ထံပြန်ကြွလာကြ၏။

ဘုရားရှင်က "ချစ်သားတို့...သင်တို့သီတင်းသုံးခဲ့သော တောအရပ်သည် သင်တို့အား အရဟတ္တဖိုလ်ပေါက်အောင် အကျိုးပြုပေးမည့် နေရာဌာနပေတည်း။ ထိုအရပ်သို့သာ သင်တို့ပြန်သွားကြပါကုန်လော့။ သင်တို့အား တောစိုးနတ်များက မခြောက်လှန့်ရန် ဤမေတ္တာသုတ်ပရိတ်တော်ကို သင်ယူသွားကြ"

ရဟန်းငါးရာတို့သည် မေတ္တာသုတ်ကို ရွတ်ဆိုလျက် ထိုတောအရပ်သို့ ပြန်ကြွသွားကြ၏။ ဤအခါတွင် ရုက္ခစိုးနတ်များသည် ရဟန်းများအား ရန်မမူကြသည့်အပြင် ကြည်ဖြူစွာခရီးဦးကြိုဆိုပြီး စောင့်ရှောက်ပေးကြကုန်၏။ ထို့ကြောင့် မေတ္တာသုတ်သည် နတ်

များအား ချစ်ခင်လာစေပြီး ဘေးရန်အသွယ်သွယ်မှကာကွယ်ပေးနိုင်သော "ပရိတ=ပရိတ် အရံအတား" ဖြစ်ပါပေ၏။

မေတ္တာသုတ်ကို ရွတ်ဖတ်ခြင်းသည် မေတ္တာပွားများခြင်း(ဝါ) မေတ္တာကမ္မဋ္ဌာန်းစီးဖြန်းခြင်းပင်ဖြစ်သည်။ မေတ္တာကမ္မဋ္ဌာန်းသည် အမြန်ဆုံးသမာဓိရစေနိုင်သောကမ္မဋ္ဌာန်းတစ်ခုဖြစ်ပြီး ပဋ္ဌာနည်းအရ စတုတ္ထဈာန်အထိ တက်လှမ်းစေနိုင်၏။ ဤဈာန်သမာဓိကိုအခြေခံ၍ ဝိပဿနာရှုမှတ်ကြသည့်အခါ ထိုရဟန်းငါးရာတို့သည် ထိုဝါတွင်းကာလ၌ပင်လျှင် ရဟန္တာဖြစ်ကြလေကုန်၏။

## ဦးဥတ္တမသာရ၏ ကိုယ်တွေ့ဖြစ်ရပ်များ

### (၁) မုန်းသူကိုချစ်အောင်လုပ်နည်း

နယ်ခြားတောင်တန်းသာသနာပြုဆရာတော်ကြီး ဦးဥတ္တမသာရသည် "လူသားများအတွက် လျှို့ဝှက်နည်းကောင်းတစ်ခုပေးပါ့မယ်၊ ဉပမာဆိုကြပါစို့– ဘာအကြောင်းကြောင့်ဖြစ်စေ တစ်စုံတစ်ယောက်သောသူက မိမိကို ရန်သူလို သဘောထားနေလျှင် ဝစီဘေဒဖြင့် အနေခက်အောင် တိုက်ခိုက်နေလျှင် အဲဒီရန်လုပ်နေသူကို သနားစိတ်ထားရမယ်၊ မုန်းစိတ်မထားရဘူး။

ရန်လုပ်နေသူအပေါ် မိမိက စိတ်အာရုံညွှတ်ပြီး...

"သူ့ခမျာ ငါ့ကိုရန်လုပ်နေရတာ စိတ်ချမ်းသာမှာမဟုတ်ဘူး၊ စိတ်နှလုံးပူဆာနေရှာမှာပဲ၊ သနားစရာပဲ။ ဒီတော့ ငါဘာလုပ်ရမလဲ၊ ဒေါသဆိုတာ ဒေါသဖြစ်သူကို ကြီးကျယ်စွာလောင်စေတဲ့မီးပဲ။ မေတ္တာသည် အားကောင်းတဲ့ရေဖြစ်တယ်၊ ငါက မေတ္တာဖြင့် ခုခံကာကွယ်ရမယ်။ သူ့ဒေါသမီးကိုလဲ ငါ့မေတ္တာရေနဲ့ ငြိမ်းသတ်ပေး

မယ်။ အဲသလိုမှန်ကန်တဲ့အသိဉာဏ်ဖြင့် နှလုံးသွင်းနေရမယ်။ အဲဒါ မိမိဘက်က မှုမှန်ရပ်တည်နေနည်းဖြစ်တယ်။

"ဒုတိယနည်းက သူဟာ မမြဲတဲ့သတ္တဝါတစ်ဦးပဲ၊ ငါလဲ မမြဲတဲ့ သတ္တဝါတစ်ဦးပဲ၊ တစ်နေ့နေ့မှာ သေကြရမယ့်သူချည်းပဲ။ မသာ လောင်းကောင်အချင်းချင်း သူကဒေါသထားသော်လဲ ငါက မခံချင် စိတ် မာနနဲ့ လောင်ကျွမ်းစေတတ်တဲ့ ဒေါသမထားသင့်ဘူး။ အမှန် မှာ သံသရာဝဋ်ဆင်းရဲထဲက သတ္တဝါအားလုံးဟာ သနားစရာချည်း ပဲ။ သူ့ခမျာ သနားထိုက်တဲ့လူတစ်ယောက်ပဲ။

"အဲသလို ဦးစွာ ကရုဏာစိတ်ဖြစ်ရမယ်၊ သနားထိုက်သော သတ္တဝါအဖြစ် ပိုင်နိုင်စွာမြင်အောင်ကြည့်ပါ။ မြင်လာပြီဆိုရင် မိမိ ဘက်က နူးညံ့တဲ့ကရုဏာစိတ်ဝင်လာပြီလို့ မှတ်ပါ။ ကြည်လင်တဲ့ ကရုဏာစိတ်ဦးစွာဝင်လာပြီးတဲ့နောက်ကကပ်ပြီး မေတ္တာစိတ် ဝင် လာစေရမယ်။ မေတ္တာစိတ်တစ်ဆက်တည်းကပ်ပါလာအောင် နှလုံး သွင်းရမယ်။ မေတ္တာစိတ်သိသာအောင် စိမ့်ဝင်လာပြီဆိုလျှင် ထိုစိတ် အာရုံကို လက်မလွှတ်စေနဲ့။ တကယ်ချမ်းသာစေလိုတဲ့ စေတနာနဲ့ ပူးပေါင်းပြီး စူးစိုက်ထားပါ။ လှိုက်လှိုက်လှဲလှဲမေတ္တာပို့လွှတ်ပေးနေ ပါ။

"အချိန်ကြာကြာကြီး အစဉ်တစိုက် မလုပ်ဖြစ်စေဦးတော့၊ မေတ္တာ ပို့လွှတ်ဆဲအချိန်ပိုင်းကလေးမှာ လှိုက်လှဲတဲ့စေတနာထက်သန်မှုရှိ ဖို့ အဓိကဖြစ်တယ်။ ထက်သန်အားကောင်းပါမှ မေတ္တာတန်ခိုးထက် မြက်မယ်၊ စေတနာထက်သန်သလောက် အောင်မြင်မှုလျင်မြန်လိမ့် မယ်လို့ မှတ်ပါ။

"ယောက်ျားဖြစ်စေ၊ မိန်းမဖြစ်စေ၊ ကြီးငယ်မရွေး၊ လူမျိုးမရွေး၊

ဘာသာမရွေး မည်သည့်အကြောင်းကြောင့် မုန်းစိတ်ဝင်နေသူ ဖြစ်ပါစေ၊ မိမိရဲ့စိတ်ရင်းစေတနာက တကယ်လှိုက်လှဲလာလျှင် ထိုသူရဲ့မုန်းစိတ် ကင်းပျောက်သွားလိမ့်မယ်။ မုန်းစိတ်ကင်းပျောက်ပြီးရင် မကြာခင် ချစ်စိတ်ဝင်လာပါလိမ့်မယ်။ မုန်းကြလို့ ကွဲကွာနေကြတဲ့ လင်မယားချင်းဖြစ်ပါစေ၊ စိတ်အာရုံတစ်ဖြစ်လဲပြီး ပြန်လည်ချစ်ခင်လာကြလိမ့်မယ်။ မယုံရင် ထိရောက်အောင်စမ်းကြည့်ပါ။"

## (၂) လိုရာပြီးမြောက်သော လက်တွေ့ရေမေတ္တာပို့နည်း

"ဒီနေရာမှာ လက်တွေ့နည်းကောင်းတစ်ခုပေးရဦးမယ်၊ အကယ်၍ စိတ်အာရုံညွှတ်ပြီး မေတ္တာပို့လွှတ်ပေးနေသော်လဲ တစ်စုံတစ်ယောက်ရဲ့ ရန်မူခြင်းကိစ္စ၊ မုန်းတီးနေခြင်းကိစ္စ အမြန်ပြေအေးသွားမယ်လို့မထင်ရလျှင် ရေမေတ္တာပို့ကြည့်ပါ။ အောင်မြင်စေရမယ်။ ရေမေတ္တာဖြင့် အနိုင်ယူပါ။

"နည်းက– သန့်ရှင်းတဲ့ရေတစ်ဖန်ခွက်ကို ဘုရားစင်ပေါ်မှာတင်ထားပါ။

"သန့်ရှင်းတဲ့ကျောက်ခဲကလေးတစ်လုံးဖြစ်စေ၊ သစ်သားချောင်းကလေးတစ်ခုကိုဖြစ်စေ မိမိမေတ္တာပို့လိုသူကို ရည်မှတ်ပြီး ရေဖန်ခွက်ထဲမှာ ထည့်စိမ်ထားပါ။ အမှိုက်အမှုန်မကျရအောင် အဖုံးဖုံးထားပါ။

" 'သူ့ရဲ့စိတ်နှလုံးဟာ ရေကဲ့သို့အေးချမ်းသွားပါစေ' လို့ လှိုက်လှိုက်လှဲလှဲ မေတ္တာပို့လွှတ်ပေးနေပါ။ 'သူ့ရဲ့စိတ်ပူဆာနေခြင်းကို အေးချမ်းသွားစေဖို့ သူ့ကို ငါရေစိမ်ထားလိုက်ပြီ' လို့ မိမိစိတ်ကိုလဲ

ရှင်းရှင်းထားနေပါ။ ပူပန်သောကဝင်ပြီး စိတ်လှုပ်ရှားနေခြင်း မရှိအောင် နေပါ။

"'သူ့ကိုငါဒုက္ခမရောက်စေလိုပါ၊ ငါလဲစိတ်ချမ်းသာ၊ သူလဲ စိတ်ချမ်းသာ နေမြဲတိုင်းနေစေရန်၊ ဖြစ်မြဲတိုင်းဖြစ်စေရန် သူ့ကို ရေခွက်ထဲ ချစိမ်ထားလိုက်ပြီ' လို့ ယုံကြည်စိတ်ချပြီး နေပါ။

"'သူ့စိတ်အေးသွားပြီ၊ သူ့စိတ်ကြည်လင်သွားပြီ၊ သူ့မှာ ငါ့ကို ရန်မူချင်စိတ်ပျောက်သွားပြီ' လို့လဲ မိမိစိတ်ထဲက သိနေပါ။ (တကယ် ချမ်းသာစေလိုတဲ့ စိတ်ရင်းစေတနာသာထားပေးနေပါ။) သို့သူရဲ့စိတ်ဟာ အဲဒီအချိန်ပိုင်းအတွင်းမှာပဲ မူပြောင်းသွားလိမ့်မယ်။

"သူ့ရဲ့ စိတ်အာရုံထဲမှာ မိမိက ပို့လွှတ်ပေးနေတဲ့ စိတ်တန်ခိုးကြောင့် ပူဆာပြီးဆူပွက်ပြီး နေခဲ့တဲ့သူ့ရဲ့ဒေါသစိတ်မာန်ဟာ တဖြည်းဖြည်း ပြေအေးသွားလိမ့်မယ်၊ တစ်ဆက်တည်းမှာပဲ မိမိအပေါ်သနားစိတ်ဝင်လာပါလိမ့်မယ်။ ဆက်လက်ပြီး ချစ်ခင်စိတ် ကြည်နူးစိတ်ပြောင်းဝင်လာပါလိမ့်မယ်။

"ချစ်ခင်စိတ် ဝင်ရောက်လာလျှင် သူကလဲ မိမိကိုမြတ်နိုးဖွယ်ကောင်းတဲ့လူတစ်ယောက်အဖြစ် မြင်လာပါလိမ့်မယ်။ ကြည်နူးဝမ်းသာတဲ့စိတ်လဲ ဝင်စားနေလိမ့်မယ်၊ အဲသည်နောက် သူကိုယ်တိုင်ပြောမှားဆိုမှား ရှိသမျှကို ဝန်ချကာတောင်းပန်လာတတ်တယ်။ တောင်းပန်ဝန်ချခြင်းမပြုရင်တောင် မိမိအပေါ် ဆက်လက်ရန်မူနေခြင်းကို ပြုတော့မည်မဟုတ်ပါ။ မီးကို ရေဖြင့် လုံလောက်အောင် ပက်ဖျန်းထားလိုက်သလို ကိစ္စပြီးလို့ တစ်ခါတည်းအေးငြိမ်းသွားစေလိမ့်မယ်။

"တစ်နည်းအားဖြင့် ရန်မူနေတဲ့သူဟာ မိမိကိုမကြည့်ဝံ့တော့ဘဲ

တခြားဒေသသို့ အမြန်ဆုံးရှောင်ပြေးသွားပါလိမ့်မယ်။ ဒါတွေက လူ့လောကမှာ တွေ့ကြုံလေ့ရှိတတ်လို့ ပြည့်စုံအောင်ညွှန်ပြပေးခြင်း ဖြစ်တယ်”

အထက်ပါ တောင်တန်းသာသနာပြုဆရာတော်၏နည်းကို စိတ်ပညာဆရာတို့ကလည်း အပြည့်အဝထောက်ခံနိုင်ကြမည်ဖြစ်၏။ စိတ်ပညာရှင်တို့သည် စိတ်ဖြင့်စေစားမှု, စိတ်ဖြင့် အဖန်ဖန်တိုက်တွန်းမှုရဲ့အာနိသင်ထူးကို အောင်မြင်စွာအသုံးပြုနေကြသည်မဟုတ်ပါလော။

## (၃) သံရုံးကြီးတစ်ခုမှ ရာထူးလုပွဲ

တစ်ချိန်က ရန်ကုန်မြို့ရှိ နိုင်ငံခြားသံရုံးကြီးတစ်ခုတွင် မြန်မာအမျိုးသားတစ်ဦးနှင့် နိုင်ငံခြားသားတစ်ဦးတို့ ရာထူးလုပွဲကြီး ဖြစ်ခဲ့၏။ အုပ်ချုပ်ရေးအရ အရေးပါသောထိုရာထူးကို ‘သူရထိုက်တယ်၊ ငါရထိုက်တယ်’ဟု အငြင်းပွားကြ၏။

မြန်မာအမျိုးသား၏ မိခင်က သားစိတ်မချမ်းမသာဖြစ်နေသည်ကို မကြည့်ရက်၍ တောင်တန်းသာသနာပြုဆရာတော်ကြီးထံ အကျိုးအကြောင်း စာရေးလိုက်၏။ ‘အားကိုးပါတယ်၊ ကယ်တော်မူပါ၊ လိုက်လံစွာမေတ္တာပို့ပေးတော်မူပါ’ဟုလည်း ပန်ကြားလိုက်၏။

ဆရာတော်က ရေမေတ္တာကိုအသုံးပြုရန် ညွှန်ကြားလိုက်၏။ အရေးပါသူ မြန်မာအမျိုးသားကိုယ်တိုင်က ရေမေတ္တာပွားပို့ရမည်ဖြစ်၍...

၁။ အရက်သေစာမသောက်စားရန်၊

၂။ ဖြစ်နိုင်လျှင် သက်သတ်လွတ်စားရန်နှင့် ရုံခါဥပုသ်စောင့်ရန်၊

၃။ တစ်ဖက်သားကို ဒေါသစိတ်မထားရန်၊ မခံချင်စိတ်, မာန စိတ် မထားရန်တို့ကိုလည်း ဆရာတော်မှာကြားလိုက်၏။

ထို့အပြင် ...

"ဘုန်းကြီးက အဝေးမှနေပြီး မေတ္တာပို့လွှတ်ပေးနေပါတယ်၊ ဘုန်းကြီးရဲ့ဩဝါဒကို နာခံလိုက်နာလျှင် သုံးလကြာတဲ့အခါ အားလုံး အေးငြိမ်းပြီး လိုရာဆန္ဒပြည့်ဝသွားမယ်"ဟုလည်း ရေးသားလိုက် ၏။

မကြာခင် ပြန်စာရောက်လာ၏။ မိခင်က သားအား ဆရာတော် ၏စာကိုပြရာ သားက အေးချမ်းစွာဖြေရှင်းဖို့ သဘောတူကြောင်း၊ သားက အရက်မသောက်တတ်ကြောင်း၊ ဥပုသ်စောင့်ပြီး သက်သတ် လွှတ်လည်း စားကြောင်းတို့ကို ဖော်ပြထား၏။

တစ်လကြာသည့်အခါ ရောက်လာသောစာက ..."အခြေအနေ ကောင်းလာတော့မယ်ထင်ပါရဲ့၊ နိုင်ငံခြားသားက ရာထူးမှနုတ်ထွက် ပြီး သူ့ဌာနေပြန်သွားပြီ၊ ရန်အေးစပြုပြီ"ဟု ဖော်ပြထား၏။

နှစ်လအကြာတွင် ဆရာတော်ထံ စာရောက်လာပြန်၏။

"သားကို နုတ်ထွက်သွားတဲ့နိုင်ငံခြားသားနေရာမှာ အလုပ်ခန့် ဖို့ ပြန်တမ်းထွက်လာပြီ၊ အလုပ်တော့ မရသေးပါ၊ ဆရာတော်၏ ဩဝါဒကိုလက်ခံပါတယ်၊ သက်သတ်လွှတ်စားပါတယ်၊ ရံခါဥပုသ် လဲ စောင့်ပါတယ်ဘုရား"ဟု ရေးသားဖော်ပြထား၏။

သုံးလပြည့်သည့်အခါ စတုတ္ထမြောက်ပြန်စာ ရောက်လာပြန်၏။

"သားက ရာထူးကိုလက်ခံလိုက်ရပါပြီ။ အခုမှစိတ်ချလက်ချဖြစ် ရပါတော့တယ်ဘုရား၊ ကျေးဇူးအထူးတင်ပါတယ်ဘုရား"ဟု ဖော် ပြထား၏။

မေတ္တာကို သူတော်ကောင်းပညာရှိတို့ သုံးစွဲသည့်နည်းအတိုင်း အသုံးချတတ်ပါက လိုရာခရီးရောက်ကြောင်းကို အထူးမှတ်သားသင့်ပေ၏။

## (၄) ကျောင်းဆရာအချင်းချင်း စိတ်ဝမ်းကွဲမှု

ဖဆပလအစိုးရ အုပ်စိုးစဉ်အခါက ဖြစ်၏။ တစ်ခုသောမြို့၏ တစ်ခုသောအထက်တန်းကျောင်းတွင် ကျောင်းဆရာလေးဦးနှင့် ကျောင်းအုပ်ဆရာကြီးတို့ ပုံမှန်လုပ်ကိုင်နေကြ၏။ သင်တန်းညွှန်ကြားချက်အသစ်ရောက်လာသည့်အခါ ဆရာကြီးက လက်ထောက်ဆရာအသီးသီးတို့အား တာဝန်ကိုယ်စီခွဲဝေပေးလိုက်၏။ မကြာခင် ကျောင်းဆရာအချင်းချင်း အတွင်းရေးစိတ်ဝမ်းကွဲမှုဖြစ်ပေါ်လာ၏။

ထိုအကြောင်းကို ဆရာကြီးမသိရခင် ဆရာကြီး၏တူတော်သူ ကျောင်းဆရာလူပျိုက ဆရာကြီးထံခွင့်တောင်း၏။

"ကျွန်တော် တခြားကျောင်းပြောင်းပါရစေ" တဲ့။

"ဘာဖြစ်လို့ပြောင်းရမှာလဲ၊ ဒီကျောင်းမှာ ငါရှိနေသရွေ့ မင်းဘယ်ကိုမှ မပြောင်းရဘူး၊ ငါမထောက်ခံဘူး၊ ဘာဖြစ်လို့ပြောင်းချင်ရတာလဲ"

တူဖြစ်သူဆရာကို ကျန်ဆရာသုံးဦးက မျက်မုန်းကျိုးနေသည်ကို ဆရာကြီးမသိပေ။ "သူ့တူကို မျက်နှာလိုက်တယ်၊ အခွင့်အရေးပေးတယ်" ဟု အထင်အမြင်လွဲကြရာမှ စိတ်ဝမ်းကွဲလာခြင်းဖြစ်၏။ တူတော်မောင်က အနေရခက်သဖြင့် ဆက်လက်နေလိုစိတ်မရှိချေ။

တစ်နေ့တွင် ထိုလူပျိုကျောင်းဆရာသည် ဦးဥတ္တမသာရထံသို့ ရောက်လာ၏။ သူ၏စိတ်မချမ်းသာပုံအကြောင်းစုံကို လျှောက်ထား

၏။ ထို့နောက် "စိတ်ချမ်းသာမှုရအောင် မေတ္တာပို့ပေးပါ"ဟု ပန်ကြား၏။

ဆရာတော်က ရေမေတ္တာပို့နည်းကို နားလည်အောင်ပြောပြပြီး လက်တွေ့ကျင့်သုံးရန် မှာကြားလိုက်၏။

ထိုဆရာလူပျိုသည် သူ့အား ရန်မူနေသည့် ကျောင်းဆရာသုံးဦးကို ရည်မှန်းပြီး တုတ်ချောင်းငယ်သုံးခုကို ရေဖန်ခွက်တွင် ချစိမ်ကာ ဘုရားရှေ့၌တင်ထားလိုက်၏။ ထို့နောက် "သူတို့ရဲ့စိတ်နှလုံးတွေ ရေကဲ့သို့အေးချမ်းကြပါစေ"ဟု စိတ်ထဲက လှိုက်လှဲစွာမေတ္တာပို့သနေ၏။

ရက်သတ္တတစ်ပတ်အတွင်း၌ ဆရာနှစ်ဦးအချင်းချင်းစကားများကြပြီး တခြားသို့ပြောင်းရန် စာတင်ကြ၏။ မကြာမီ ထိုဆရာနှစ်ဦးလုံး အပြောင်းခံကြရပြီး ဆရာသစ်နှစ်ဦးရောက်လာ၏။ ကျန်ရစ်သည့်ဆရာတစ်ဦးကမူ 'သူမှားပါတယ်'ဟုဝန်ခံပြီး တောင်းပန်စကားပြောကြားလာ၏။

ဤသို့ ရေနှင့်မေတ္တာပေါင်းစပ်ပြီး သူတော်ကောင်းနည်းဖြင့် စိတ်ဒမ်းကွဲပြားမှုကို အေးချမ်းစွာဖြေရှင်းနိုင်ခဲ့ကြောင်း သတင်းကောင်းကို လူပျိုဆရာ လာလျှောက်ထားသဖြင့် ဆရာတော်သိရှိရလေ၏။

## (၅) ဆေးတစ်လက်ဖြင့် ရောဂါအစုံပျောက်

ရှေးအခါက အင်းဝမှမောင်ထူးကို ယောဆရာတစ်ဦးက ဆေးနည်းတစ်ခုပေးလိုက်၏။ ထိုဆေးနည်းက "သဲဆပ်ပြာတစ်ကျပ်၊ မန်ကျည်းသီးမှည့်တစ်ကျပ်၊ ဆားတစ်ကျပ်ကို နာနာနယ်ပြီး ရေနှင့်

ဖျော်၍သောက်၊ ၉၆ ပါးရောဂါဝေဒနာအားလုံးပျောက်”ဟူသော နည်းဖြစ်၏။

မောင်ထူးသည် ဤဆေးတစ်လက်ကိုသာသိသဖြင့် ဤဆေးကို မူသေထားကာ ဗိုက်နာသူကိုလည်း ဤဆေးတိုက်၏။ အစာမကြေ သူ၊ လေနာသူတို့ကိုလည်း ဤဆေးတိုက်၏။ မျက်စိနာသူကိုလည်း ဤဆေးတိုက်၏။ ပန်းနာရင်ကျပ်၊ နာစေးချောင်းဆိုး၊ ဖျားနာသူ အားလုံးကို ဤဆေးတိုက်၏။ ဆေးသောက်သည့်လူနာတိုင်း ရောဂါ ပျောက်ကင်းသဖြင့် မောင်ထူးကျော်ကြားလာကာ ဆရာထူးအဖြစ် နန်းတွင်းသမားကျော်ဖြစ်လာလေ၏။

တစ်နေ့တွင် လူတစ်ယောက်သည် သူ့နွားနှစ်ကောင် ပျောက် သွားသဖြင့် တစ်နေကုန်ရှာဖွေ၏။ မတွေ့ချေ။ လူပန်းစိတ်နွမ်းကာ ကြံရာမရဖြစ်၍ ဆရာထူးထံရောက်လာ၏။

ဆရာထူးက “ခင်ဗျားဘာမှမပူနဲ့၊ ဒီဆေးကိုသာသောက်လိုက်၊ ခင်ဗျားရဲ့ရောဂါ ပျောက်ကင်းသွားလိမ့်မယ်”ဟု သဲဆပ်ပြာဆေးကို တိုက်၏။

နွားပိုင်ရှင်က ဘုမသိဘမသိနှင့် ဆေးသောက်လိုက်ရ၏။ မကြာ မီ ဝမ်းနာလာပြီး အခင်းသွားလိုသဖြင့် တောရွာလေ့အရ ချုံထဲဝင် သွား၏။ ထိုအခါ ပျောက်နေသောနွားနှစ်ကောင်ကို သူခိုးက ထိုချုံ ထဲ၌ ကြိုးနှင့်ချည်ထားသည်ကို မြင်တွေ့ရ၏။

“ဟာ…ဆရာထူးရဲ့ဆေး သိပ်စွမ်းတယ်၊ ၉၆ ပါးသောရောဂါ သာမက နွားပျောက်ကိုတောင် ပြန်တွေ့စေနိုင်စွမ်းရှိတယ်”ဟု ဆရာ ထူးသည် ပို၍ကျော်ကြားသွားလေ၏။

ထို့အတူပင် တောင်တန်းသာသနာပြုဆရာတော်၏ ‘ရေမေတ္တာ

နည်း'သည် ပွဲတိုင်းအောင်သဖြင့် သုံးလေလေ ထက်မြက်လေလေ ဖြစ်နေပေတော့၏။

"ရေမေတ္တာဖြင့် အိမ်နီးချင်းစောင်းမြောင်းဆဲရေးနေသူကိုလဲ နိုင်တယ်။ မကြာမကြာကြွေးလာတောင်းနေသူကိုလဲ နိုင်တယ်။ ခြိမ်းခြောက်နေတတ်သူကိုလဲ နိုင်တယ်။ သတ္တဝါတွေရဲ့လိုအင်ဆန္ဒကလဲ ပြည့်စုံပြီမရှိဘူး၊ ဆုံးတယ်မရှိဘူး၊ ဘာဖြစ်ချင်ဖြစ်ချင် ဘုန်းကြီးနည်းကလဲ ရပါတယ်။ ဥပမာ ရာထူးတိုးချင်တဲ့သူကို ရာထူးတိုးမြှင့်ပေးနိုင်သူအား မေတ္တာပို့ခိုင်းတယ်၊ နိုင်ငံခြားသင်္ဘောလိုက်ချင်သူတို့ကို လိုက်ခွင့်ပေးနိုင်သူအား မေတ္တာပို့စေတယ်။ သူတို့လိုတာ ရမရတော့ မသိဘူး၊ ဘုန်းကြီးထံ နားပူတော့ သက်သာသွားတယ်"

"ဘယ်အရာကိုမဆို လိုက်လှဲတဲ့ ကရုဏာစိတ် မေတ္တာစိတ်ကြီးမယ်ဆိုရင် ရမယ်ကေန်မှတ်၊ နောက်အခါလဲ ဒီနည်းကိုပဲ ညွှန်ကြားပေးမှာပါပဲ"ဟု ဆရာတော်အမိန့်ရှိတော်မူ၏။

မေတ္တာ၏ စွမ်းရည်ကိုသိနားလည်ပြီး ယုံယုံကြည်ကြည်လိုက်လိုက်လှဲလှဲဖြင့် မေတ္တာပွားပို့မည်ဆိုလျှင် ဘေးရန်ခပ်သိမ်းအေးငြိမ်းပပျောက်ပြီး လိုအင်ဆန္ဒများပြည့်ဝကာ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာရွှင်လန်းရမည်ဖြစ်ပေသတည်း။

ဝ

## ရတနာသုံးပါးနှင့်မေတ္တာတို့၏စွမ်းအား

ထားဝယ်မြို့ ဆင်ခြေဖုံးရပ်ကွက်တစ်ခု၌ အသားညိုညို, ပိန်ပိန်ပါးပါး, ဥပမိရပ်မစို့မပို့နှင့် ရိုးရိုးအေးအေးနေထိုင်သူ လူငယ်တစ်ဦးရှိ၏။ **မောင်ဗသက်** ဟု ခေါ်၏။

မောင်ဗသက်သည် ဆင်းရဲနွမ်းပါးသူဖြစ်၍ စတုတ္ထတန်းအထိသာ ပညာဆည်းပူးခဲ့ရပြီး ဝမ်းရေးအတွက် အလုပ်ရှာထွက်ခဲ့ရ၏။ သတ္တုမိုင်းများ၌ ရေမြောင်းထဲဆင်း၍ ခဲ, သံများကို ယင်းခွက်နှင့် ကျင်ရသောအလုပ်ကို ရ၏။ ထို့နောက် ခဲသားများကို ယင်းပုံးနှင့် ဖမ်းယူရသော ခဲဖမ်းသမားဖြစ်လာ၏။ ထို့နောက် ယမ်းဘီလူးဖောက်ခွဲသမား ဖြစ်လာ၏။

မောင်ဗသက်တွင် ထူးခြားမှုတစ်ရပ်ရှိ၏။ အသက် ၁၅ နှစ်သားအရွယ်မှစ၍ 'အရဟံ' ဂုဏ်တော်ကို အမြဲနှလုံးသွင်းနေတတ်ပြီး သွားရင်းလာရင်းလည်း 'ဗုဒ္ဓံပူဇေမိ၊ ဓမ္မံပူဇေမိ၊ သံဃံပူဇေမိ၊ မာတာပိတုပူဇေမိ၊ အာစရိယပူဇေမိ' ဟူ၍ ရွတ်ဆိုသွား၏။ အနန္တ ငါးပါးကို ရှိခိုးပူဇော်ခြင်းပေတည်း။

နေ့စဉ်မပြတ် မောင်ဗသက်ဝတ်ထား၍ ဆောင်ရွက်သည့်ကိစ္စတစ်ရပ်မှာ ဘုရားစင်ရှေ့တွင်ထိုင်လျက် အနန္တ ငါးပါးပုတီးငါးပတ်နှင့် အရဟံဂုဏ်တော်ပုတီး ၁၀ ပတ်တို့ကိုစိပ်ရန်ဖြစ်၏။

'နမောအရဟံ' = အရဟံ– လူနတ်ဗြဟ္မာ သတ္တဝါအပေါင်းတို့၏ ပူဇော်အထူးကို ခံယူတော်မူထိုက်သော မြတ်စွာဘုရားကို၊ နမော– ရိုသေမြတ်နိုး လက်စုံမိုး၍ ရှိခိုးကန်တော့ပါ၏။

ရိုးသားမှု, ကြိုးစားမှု, ဂုဏ်တော်နှလုံးသွင်းမှုတို့ကြောင့် တစ်နှစ်အကြာတွင် မောင်ဗသက်အား မိုင်းသူဌေးကခေါ်၍ 'အိုဗာစီယာ'

(ကြီးကြပ်ရေးမှူး) တာဝန်ကို ပေးအပ်လိုက်၏။ ထိုမှတစ်ဆင့် သတ္တုမိုင်း အထွေထွေအရောင်းစာရေး၊ ထို့နောက် သတ္တုတွင်းမန်နေဂျာ၊ ထို့နောက် သံနှင့်ခဲ အဝယ်တော်ဖြစ်လာ၏။

အခြားအဝယ်တော်များက သံနှင့်ခဲပိဿာ ၂၀, ၃၀ ဝယ်ယူနိုင်လျှင် မောင်ဗသက်က ပိဿာ ၃၀၀ ခန့်ဝယ်ယူနိုင်၏။ ထို့ကြောင့် လုပ်ဖော်ကိုင်ဖက်များ၏ မနာလိုငြိုငြင်မှုကို ခံရ၏။ နည်းအမျိုးမျိုးဖြင့် အကျိုးပျက်အောင်လုပ်ခြင်းကိုလည်းခံရ၏။ သို့သော် အနန္တငါးပါး၏ ဂုဏ်ကျေးဇူးကြောင့် ဘေးရန်မကြုံတွေ့ခဲ့ရချေ။

တစ်နေ့တွင်မူ မောင်ဗသက် လည်ချောင်းယားပြီး ချောင်းဆိုးလာ၏။ ဆရာဝန်နှင့်ကုရသောအဆင့်သို့ ရောက်လာ၏။ ရောဂါက မပျောက်ချေ။ မောင်ဗသက်သည် အစာတွင် ဆေး သို့မဟုတ် ဆံပင်မှုန့်ထည့်ခပ်ခြင်းခံရသည်ဟု အပေါင်းအဖော်တို့က ဆိုကြ၏။ ဆရာဝန်ကမူ တီဘီခေါ် အဆုတ်နာရောဂါဖြစ်သည်ဟု သတ်မှတ်ပြီး မောင်ဗသက်အား ဆေးရုံတက်စေ၏။

ဆရာဝန်များက မောင်ဗသက်အား ဂရုစိုက်၍ကုသပေးကြ၏။ သို့စေကာမူ မောင်ဗသက်သည် အသားအရေများ တဖြည်းဖြည်း ဆုတ်ယုတ်လာကာ သွေးများကို အတုံးလိုက်အတစ်လိုက်အန်ထုတ်၏။ အဆုတ်တစ်ခြမ်းမရှိတော့ပြီ။ အလွန်ဆုံးခြောက်လသာအသက်ရှည်တော့မည်ဟု ဆရာဝန်များက ယူဆပြီး မောင်ဗသက်အား ဆေးရုံမှဆင်းခွင့်ပေးလိုက်၏။

မောင်ဗသက်သည် အလုပ်မှနုတ်ထွက်ပြီး ဇေယျဝတီသာသနာ့ရိပ်သာသို့သွား၏။ ဘုရားကု,ကုရန်ဖြစ်၏။ တရားထိုင်ချိန်၌ အများနည်းတူတရားထိုင်ပြီးနောက် ကျန်အချိန်များတွင် သမထအားသန်

သူဖြစ်၍ ဂုဏ်တော်ပုတီးစိပ်၏။ သုံးလကြာသောအခါ မောင်ဗသက် အကြီးအကျယ်ချောင်းဆိုး၍ သွေးအတုံးလိုက်အတစ်လိုက် အန်ပြန် ၏။ လေးငါးရက် သွေးဆက်အန်ပြီးနောက် ရောဂါ တစ်စတစ်စ သက်သာလာကာ လုံးဝပျောက်ကင်းသွားလေ၏။ တရားတော်၏ ဂုဏ်ကျေးဇူးကြောင့်ပင်တည်း။

မောင်ဗသက်သည် အထူးအားတက်လာကာ နေ့စဉ်အနန္တငါး ပါးကို ရှိခိုးကန်တော့ပြီး သတ္တဝါများအား မေတ္တာဘာဝနာပွားခြင်း နှင့် အရဟံဂုဏ်တော်ပုတီးစိပ်ခြင်းတို့ကို နိစ္စဘတ်မပြတ်မှန်ကန်,သဒ္ဓါ ထက်သန်စွာ ကြိုးစားအားထုတ်လေ၏။ ရက်, လ ကြာလာသည့် အခါ သမာဓိအားကောင်းလာ၏။

*ကင်္ခတိဘိက္ခဝေ သီလဝတော စေတောပဏိဓိ ဝိသုဒ္ဓတ္တာ။*

*ရဟန်းတို့– သီလရှိသောပုဂ္ဂိုလ်တို့အား မိမိစိတ်အလိုရှိတိုင်း တောင့်တတိုင်းသည် ပြည့်စုံပြီးစီး၏။ အဘယ့်ကြောင့်နည်းဟူမူ အကုသိုလ်အညစ်အကြေးတို့မှ ကင်းဝေးစင်ကြယ်သည်၏အဖြစ် ကြောင့်တည်း။ (အင်္ဂုတ္တရပါဠိတော်)*

သီလစင်ကြယ်နေသောဦးဗသက်သည် အလိုဆန္ဒရှိတိုင်း ပြည့်စုံ လာတော့၏။ တစ်ကြိမ်တွင် ငွေလိုသဖြင့် သစ္စာဆို၍ဆုတောင်း၏–

"ကျွန်ုပ်သည် အနန္တငါးပါးကိုအစဉ်မမေ့မလျော့ပူဇော်ကန်တော့ ပါ၏၊ သတ္တဝါများကိုလဲ ချစ်ခင်၍ မေတ္တာပွားများပါ၏၊ အရဟံဂုဏ် တော်ကိုလဲ နေ့စဉ်ပုတီးစိပ်ပါ၏။ ဤမှန်သောသစ္စာစကားများနှင့် ဗုဒ္ဓဂုဏ်တော်၏ အာနုဘော်ကြောင့် ယခုအကျွန်ုပ်မှာ အကြွေးပေးရန် ငွေ ၁၆ ကျပ်နှင့် သုံးစွဲရန် ငါးကျပ်၊ စုစုပေါင်း ၂၁ ကျပ်လိုအပ်နေခြင်း ကို ကူညီမစမည့်သူပေါ်ပေါက်၍ ပြည့်စုံရပါလို၏"

ထိုနေ့ညနေတွင် မောင်ဘကြွယ်က တစ်ကျပ်၊ သိကျွမ်းဖူးသော မကြည်က ၂၀ ကျပ် လာရောက်လှူဒါန်းသွား၏။

မကြာမီ ဦးဗသက် ထံ အလည်လာသူမိတ်ဆွေ တစ်ဦး သည် တောင်ပြို၍ ကားလမ်းပိတ်သွားသဖြင့် သောင်တင်နေ၏။ ထိုလူ စိတ်ဆင်းရဲနေသည်ကို ဦးဗသက်သနားကြင်နာသဖြင့် "ထိုသူအား ကူညီခေါ်ဆောင်မည့်သူ ရောက်ပါစေ" ဟု ဆုတောင်းအဓိဋ္ဌာန်ပြု၏။

နောက်တစ်နေ့နံနက်တွင် မိုင်းထဲမှလူတစ်ယောက် ခဲခဲယဉ်းယဉ်း လာရောက်ပြီး ထိုမိတ်ဆွေကိုခေါ်ဆောင်သွား၏။

မိုးတွင်းရောက်လာသောအခါ ဦးဗသက်သည် ဆောင်းစရာထီး မရှိ၍ အပြင်မထွက်နိုင်ဖြစ်နေ၏။ ထီးတစ်လက်ပေးလှူမည့်သူ ပေါ် ပေါက်ပါစေဟု ဆုတောင်း၏။ နောက်နေ့တွင် ရုံးစာရေး ကိုတင် လှိုင်နှင့်ဇနီးတို့သည် ဦးဗသက်အား ဖဲထီးအကောင်းစားတစ်လက် လာလှူသွားကြ၏။

ဦးဗသက်တရားထိုင်သည့်အခါ ဝတ်ဖို့ ပိတ်ဖြူလုံချည်တစ်ကွင်း လိုအပ်လာပြန်၏။ ဆုတောင်းအဓိဋ္ဌာန်ပြု၏။ သီလရှင်တစ်ပါးက "ပိတ်ဖြူလုံချည်တစ်ကွင်းစာရှိတာ လှူပါရစေ" ဟုဆိုပြီး လှူသွား ၏။

အတန်ကြာသော် ဦးဗသက် ငွေ ၁၀၀ ကျပ်လိုအပ်လာသဖြင့် ဆု တောင်း အဓိဋ္ဌာန်ပြုပြန်၏။ အမှန်တကယ် လိုအပ်နေသည့်ငွေကို လူ တစ်ယောက်အားပြောပြနေသကဲ့သို့ တွက်ချက်ပြ၏။ ထိုနေ့ညဥ့် တွင် ဒေါ်ကြာအင်း အမည်ရှိသည့် အမျိုးသမီးကြီး တစ်ဦး သည် "တရားအားထုတ်ရာတွင် လိုသလိုသုံးရန်" ငွေ ၁၀၀ ကျပ်ပေးလှူ သွား၏။

တစ်ဖန် ရိပ်သာ၌ ဦးဗသက်တရားအားထုတ်နေစဉ် "လွတ်လပ်ဆိတ်ငြိမ်စွာ တရားအားထုတ်နိုင်မည့်ကျောင်းကလေးတစ်ကျောင်းလိုချင်ပါသည်၊ ကျောင်းအပ်နှံလှူဒါန်းမည့်ဒကာ ပေါ်ပေါက်ပါစေ" ဟုဆုတောင်း၏။

နောက်နေ့တွင် ကိုစန်းမောင်ဆိုသူရောက်လာပြီး ရေကန်ကြီးဘေး၌ သူဆောက်လုပ်လှူဒါန်းထားသည့် အေးချမ်းဆိတ်ငြိမ်သော ကမ္မဋ္ဌာန်းကျောင်းကလေးကို အပ်နှံလှူဒါန်းသွား၏။

မှန်ကန်ခြင်းသည် သစ္စာ၊ မှန်မှန်ကန်ကန်လိုအပ်သည့်အတိုင်း မှန်သောစကားများကို သစ္စာဆို၍ဆုတောင်းလျှင် အကြိမ်ကြိမ်ပြည့်စုံလာနိုင်ကြောင်းကို ဦးဗသက် သက်သေပြလိုက်ခြင်းပေတည်း။



ဦးဗသက်၏ မိဘများ ကွယ်လွန်ကြကုန်ပြီ။ ဦးဗသက်သည် တရားကောင်းသော်လည်း လောကီအာရုံများကို မဖြတ်နိုင်သေးသဖြင့် ရိပ်သာမှထွက်ကာ အိမ်ခန်းကလေးတစ်ခုကို တစ်လ ၁၀ ကျပ်ဖြင့် ငှားရမ်း၏။ ရရာအလုပ်ကလေးများလုပ်၏။ အာဟာရက မဝ၊ နေ့စားအလုပ်ကလည်း ပင်ပန်းသဖြင့် ကျန်းမာရေးချို့တဲ့ကာ ဦးဗသက်ပြန်လဲလေ၏။ အိမ်လခမပေးနိုင်သဖြင့် အိမ်ရှင်က နှင်ထုတ်နေ၏။

ဦးဗသက်သည် ဝမ်းနည်းအားငယ်ပြီး မျက်ရည်စို့လာ၏။ အားကိုးစရာဖြစ်သည့် ပုတီးစိပ်ကို လည်ပင်းမှဖြုတ်ယူပြီး တွင်တွင်ကြီးစိပ်လေတော့၏။ နံနက် ၅ နာရီသာသာတွင် အိပ်မက်လိုလို ခေါ်သံတစ်ခုကိုကြားရ၏။

"မောင်ဗသက်ရှိပါသလားဗျာ"

ဦးဗသက်သည် အိပ်ရာမှလေးဖက်ထောက်ထ၍ အခန်းပေါက်သို့ကြည့်၏။ ဦးဗသက်သိကျွမ်းသည့် မိုင်းသူဌေးတရုတ်ကပြားတစ်ဦးကိုမြင်ရ၏။ ဦးဗသက်သည် ကုန်းကုန်းကွကွ ဖြည်းဖြည်းထ၍–

"ဩော်...ဆရာပါလား၊ ဘယ်ကလာတာလဲ၊ ကျွန်တော်ကောင်းကောင်းနေမကောင်းလို့ ရတ်တရက်မထနိုင်တာပါ"

"ဟာ...ခက်တာပဲ၊ ငါက မင်းကိုအလုပ်ခန့်မလို့လာခေါ်တာ"

"ဗျာ...တကယ်လား"

"အေး...နေမကောင်းလဲ ကိစ္စမရှိဘူးကွ၊ ငါက မင်းကိုပဲခန့်ချင်လို့ ကိုယ်တိုင်လာခဲ့တာ၊ ရော့...ငွေယူထား၊ မင်းမြန်မြန်နေကောင်းအောင် ဆေးဝယ်စားကွာ၊ ကျန်းမာတဲ့အခါ ငါ့ဆီအမြန်လာခဲ့"

ငွေ ၅၀ ကျပ်။ ဦးဗသက် အလွန်ဝမ်းသာသွား၏။ သုံးလေးရက်ကြာသော် ဦးဗသက်နေကောင်းလာသဖြင့် မိုင်းသူဌေးထံသွား၏။ သူဌေးက စာတစ်စောင်ရေးပေးပြီး လက်ရှိမန်နေဂျာသူ့တူအား ပေးရန် မှာကြား၏။ ဦးဗသက်မိုင်းသို့ရောက်သည့်အခါ သူဌေးတူသည် စာကိုဖတ်ပြီးနောက် သူထိုင်နေသည့် စားပွဲကုလားထိုင်မှ ထပေးကာ...

"ဦးဗသက်...ဒီမှာထိုင်ပါ"

"နေပါစေ၊ ကျွန်တော် ဒီရှေ့မှာပဲ ထိုင်မယ်"

သူဌေးတူက စာကမ်းပေးပြီး ဖတ်ခိုင်း၏။

"ဒီစာရလျှင် မင်းပြန်လာတော့၊ မင်းရဲ့နေရာမှာ ခုစာယူလာသူ မောင်ဗသက်အား မန်နေဂျာအဖြစ်ခန့်ထားလိုက်ပြီ"

ဦးဗသက် အလွန်အားနာသွား၏။ သူဌေးသည် အဘယ့်ကြောင့် မိမိတူပညာတတ်ကို ဖယ်ရှား၍ လေးတန်းစာမျှသာတတ်သော သူ စိမ်းယောက်ျားကို မန်နေဂျာခန့်လေသနည်း။

သူဌေးတူသည် ပစ္စည်းများကိုသိမ်းဆည်း၍ သေတ္တာကိုဆွဲကာ ထွက်ခွာ၏။ စိန်ဘုံမိုင်း၏ မန်နေဂျာအလုပ်တာဝန်နှင့် နေအိမ်ကို ဦး ဗသက်အား လွှဲအပ်ခဲ့၏။ ဦးဗသက်သည် မေတ္တာစေတနာထား၍ ကြိုးစားလုပ်ကိုင်သည့်အတွက် မိုင်းလုပ်သား ၃၀၀ တို့၏ ချစ်ခင် လေးစားခြင်းကို ခံယူရလေ၏။

လကုန်ရက်တစ်ရက်တွင် ဦးဗသက်သည် မြို့သို့တက်၍ အလုပ် သမားများအတွက် လခငွေထုတ်၏။ မိုင်းအဝင်လမ်းဝအထိ ကား ကြုံစီးလာ၏။ ထိုလမ်းဝမှ သုံးမိုင်ခန့်ဝေးသော စိန်ဘုံမိုင်းဆီသို့ တောလမ်းခရီးဖြင့် ခြေလျင်သွားရ၏။ နှစ်ဖာလုံခန့်လျှောက်ဝင်မိ လျှင် အရပ်မြင့်မြင့် ဗလကောင်းကောင်းနှင့်လူနှစ်ယောက်သည် ဓား ရှည်ကိုယ်စီဖြင့် ချုံကွယ်မှထွက်လာကြ၏။

"ဟေ့ကောင်...မင်း စိန်ဘုံမိုင်းက မန်နေဂျာဗသက် မဟုတ်လား"

"ဟုတ်ပါတယ်ဗျာ"

"မင်းလွယ်အိတ်ထဲမှာ ငွေတွေပါလာတယ်မဟုတ်လား"

"ဟုတ်ပါတယ်၊ ငွေတွေပါ"

"ဟန်ကျလိုက်လေကွာ၊ သူပြောတာမှန်သားပဲ"

လူဆိုးနှစ်ယောက်တို့သည် အချင်းချင်းတိုင်ပင်ကြ၏။ ဦးဗသက် က ကြောက်ကြောက်နှင့် သူတို့အား စိုက်ကြည့်နေမိ၏။ ထို့နောက် သတိရကာ အနန္တ ငါးပါးကို ရှိခိုးပြီး မေတ္တာပွားပို့၏။ ဦးဗသက် မေတ္တာပို့ပုံမှာ မှတ်သားစရာဖြစ်၏။

"ဗုဒ္ဓပူဇေမိ– သတ္တဝါများ ချမ်းသာပါစေ၊ ဓမ္မံပူဇေမိ – သတ္တဝါများ ချမ်းသာပါစေ၊ သံဃံပူဇေမိ – သတ္တဝါများချမ်းသာပါစေ"ဟု ၍ဖြစ်၏။

"ကဲ…လာခဲ့၊ မင်းကိုသတ်ဖို့ တို့စောင့်နေတာ"

ဦးဗသက်အား ကျောကိုဓားနှင့်ထောက်၍ လမ်းဘေးတောစပ်သို့ခေါ်သွား၏။ ဦးဗသက်က ထိုင်ရှိခိုး၍…

"ငွေလိုချင်ရင် ယူကြပါဗျာ၊ ကျွန်တော့်အသက်ကိုတော့ ချမ်းသာပေးပါ"

လူဆိုးနှစ်ယောက်သည် ဦးဗသက်၏မျက်နှာကို စိုက်ကြည့်နေ၏။ ထို့နောက် အသက်ပိုကြီးသည့်လူဆိုးက "ဟင်း…"ဟု သက်ပြင်းချလိုက်၏။

"ငါ…မလုပ်ချင်တော့ဘူးကွာ၊ ဒီကောင့်ကို သနားပါတယ်"

မျက်နှာပေါက်ဆိုးသော သူ့အဖော်က သူ့ဘက်လှည့်ပြီး…

"မင်း ဘာကြောင့်စိတ်ပြောင်းသွားရတာလဲ၊ မရဘူး၊ သတ်မှာပဲ"

ထိုလူဆိုးသည် ဦးဗသက်ဘက်လှည့်ပြီး သူ့ဓားရှည်ကို မြှောက်လိုက်၏။ ဦးဗသက်က မျက်စိမှိတ်ကာ ထိုသူတို့အား မေတ္တာပို့နေ၏။

"ဟေ့ကောင်…မလုပ်နဲ့၊ ဘာလဲ…မင်းက လူမိုက်လုပ်ချင်သလား၊ လုပ်ကြည့်စမ်း၊ မင်းနဲ့ငါနဲ့သိမယ်"

သူတို့အချင်းချင်းစကားများကြ၏။ ဦးဗသက်က မေတ္တာနာနာပွားပို့နေ၏။ လူဆိုးတို့အပေါ်၌ မုန်းစိတ်မရှိဘဲ အစ်ကိုရင်းများသဖွယ် သဘောထား၏။ ထိုစဉ်အခါက ဦးဗသက်သည် အသက် ၃၅ နှစ်။

အတန်ကြာသော လူဆိုးနှစ်ဦးတို့ ကျေအေသွားကြ၏။

"ဟော့ကောင် ...ထ...ထ၊ မင်းကို တို့မသတ်တော့ဘူး၊ ငွေလဲ မယူတော့ဘူး၊ မင်းသွားလိုရာ သွားနိုင်ပြီ"

"ဗျာ..." ဦးဗသက်သည် မယုံနိုင်အောင် အံ့သြသွား၏။

"ဗျာမနေနဲ့၊ မင်းကို တို့ကားလမ်းအထိ လိုက်ပို့မယ်၊ မင်း ကား စီးပြီး မြို့ကိုပြန်သွားတော့"

"ဟာ...ကျွန်တော်မြို့ပြန်သွားလို့မဖြစ်ဘူး၊ မိုင်းလုပ်သားတွေ က လခထုတ်ဖို့ စောင့်မျှော်နေကြတယ်၊ ဒီလခလေးရမှ သူတို့လိုတာ လေး ဝယ်ခြမ်းစားသောက်နိုင်ကြမှာ"

"ဟော့...မင်းကို တို့ပြောတာနားထောင်၊ အခု မင်းမိုင်းဆီဆက် သွားရင် ငသော့ဆိုတဲ့အကောင်က မင်းကိုသတ်ပြီး ငွေယူလိမ့်မယ်"

"ဗျာ...ငသော့တဲ့လား၊ ကျွန်တော့်မိုင်းလုပ်သား ငသော့က ကျွန် တော့်ကို သတ်မှာတဲ့လား"

"အေး...မင်းနားလည်အောင် ငါရှင်းပြမယ်၊ မဲသံတောင်နယ် နတ်ပွဲမှာ ကစားဝိုင်းကောင်းလို့ တို့ဝင်ကစားတယ်၊ ငသော့လဲ ကစား တယ်၊ တို့ကနိုင်ပြီး ငသော့က ရှုံးတယ်၊ တို့ဆီက ငသော့ငွေ ၃၀၀ ချေးတယ်၊ ဒီငွေကိုတောင်းတော့ ငသော့က မပေးနိုင်ဘူး၊ တို့က သတ် မယ်လုပ်တော့ ငသော့က မသတ်ဖို့တောင်းပန်တယ်၊ ကနေ့ မင်းငွေ ယူလာတဲ့အခါ မင်းကိုသတ်ပြီး ငွေလုယူမယ်၊ ပြီးတော့တို့ငွေကို ပေး ဆပ်မယ်တဲ့။ တို့က ဒင်းထက်အရင်ဦးအောင်လို့ ဒီမှာလာစောင့် နေတာ၊ မင်းဆက်သွားရင် ငသော့နဲ့တွေ့ပြီး သေမှာပဲ"

ဦးဗသက် လိပ်ပတ်လည်သွား၏။ ရှေ့၌ ငသော့ဓားနဲ့စောင့်နေ မည်ကိုလည်း မြင်ယောင်မိ၏။ သို့စေကာမူ ...

"မိတ်ဆွေတို့ကို ကျွန်တော်သိပ်ကျေးဇူးတင်တယ်ဗျာ၊ ကျွန်တော့် မိုင်းလုပ်သားတွေက ဆန်ဆီဆားကလေးဝယ်စားဖို့တောင် ငွေမရှိကြရှာဘူး၊ သိပ်သနားစရာကောင်းတယ်။ သူတို့ကို လခထုတ်ပေးနိုင်အောင် ကျွန်တော်ဆက်သွားမှဖြစ်မယ်ဗျာ"

"ကဲ…ဒါဆိုလဲ မင်းရဲ့သဘောအတိုင်းပါပဲ၊ တရားသမားနဲ့ ဓားသမား တွေ့ကြသေးတာပေါ့"

ဦးဗသက်သည် ငွေအိတ်ကိုလွယ်ပြီး မိုင်းဆီသို့ထွက်လာ၏။ တစ်လမ်းလုံး မေတ္တာပွားပို့သွား၏။ တစ်မိုင်သာသာခန့်လျှောက်မိသည့်အခါ ဝါးရုံတောနောက်ကွယ်မှ ငသော့သည် ဓားလွတ်ကိုကိုင်၍ ခုန်ထွက်လာ၏။

"ဟေ့ကောင်ဗသက်…လာလိုက်ခဲ့"

ငသော့သည် လက်တစ်ဖက်ဖြင့် ဦးဗသက်လည်ကုပ်ကိုဆွဲညှစ်၍ ဝါးရုံတောထဲသို့ဆွဲခေါ်သွား၏။ ငွေအိတ်ကို ဆွဲယူလိုက်၏။ ဦးဗသက်အား ထိုင်စေပြီး ခေါင်းငုံ့ထားစေ၏။

ဦးဗသက်ဓားချွေးပြန်ပြီး တစ်ကိုယ်လုံးတုန်တုန်ယင်ယင် ဖြစ်နေ၏။

"ငွေကိုယူချင်ယူပါဗျာ၊ ကျွန်တော့်ကို မသတ်ပါနဲ့"

"ဝမ်းနည်းပါတယ် ဗသက်ရာ…ငွေယူပြီးတော့မှ မင်းကို အစဖျောက်မှဖြစ်တော့မှာပေါ့၊ မင်း ဘုရားရှိခိုးချင် ရှိခိုးကွာ"

ဦးဗသက်သည် မြတ်စွာဘုရားကိုအာရုံပြုပြီး သစ္စာဆို၏။

"တပည့်တော်သည် 'ရတနာသုံးပါးနဲ့ မိဘဆရာတို့ကို အမြဲအောက်မေ့သတိရပါတယ်၊ သတ္တဝါများအားလုံးကိုလဲ မေတ္တာထားပါတယ်၊ ယခု မိုင်းလုပ်သားများဒုက္ခရောက်မှာစိုးလို့ ဒီလမ်းကိုလာ

ခဲ့ခြင်းဖြစ်ပါတယ်။ ဤမှန်ကန်သော သစ္စာစကားကြောင့် သေဘေးမှ လွတ်ရပါစေသား"

ဦးဗသက်သည် ငသော့ကို အာရုံစိုက်၍ "ဗုဒ္ဓပူဇေမိ–ငသော့ချမ်းသာပါစေ၊ ဓမ္မံပူဇေမိ–ငသော့ချမ်းသာပါစေ၊ သံဃံပူဇေမိ–ငသော့ချမ်းသာပါစေ..." ဟု လှိုက်လှိုက်လှဲလှဲမေတ္တာပို့နေ၏။ မျက်ရည်များလည်း ယိုစီးကျနေ၏။

ငသော့သည် ချီတုံချတုံဖြစ်ပြီးနောက် ဓားရှည်ကိုတအားမြှောက်ပင့်လိုက်၏။ 'ဒိုး...'ဟူသောအသံကို ဦးဗသက်ကြားရပြီးနောက် လည်ပင်းပေါ်တွင် ပူခနဲနာကျင်သည့်ဝေဒနာတစ်ခုကို ခံစားလိုက်ရ၏။ ဦးဗသက်လဲကျပြီး သတိမေ့သွားလေ၏။

တစ်အောင့်မျှကြာသောအခါ ဦးဗသက်သတိဝင်လာ၏။ သူ့အနီး၌ တအီးအီး ငိုရှိုက်နေသံကိုကြားရ၏။ တမလွန်လောကသို့ ရောက်နေပြီဟု ဦးဗသက်ထင်မိ၏။ သူ့ခန္ဓာကိုယ်ကို လှုပ်ကြည့်သည်။ လှုပ်၍မရ။ ငိုရှိုက်သံက ပို၍ပီသလာ၏။ ဦးဗသက်မျက်စိဖွင့်လိုက်၏။ သူ မသေသေးပါကလား။ သူမြင်ရသော မြင်ကွင်းက အလွန်အံ့သြစရာ...။

လူမိုက်ကြီးငသော့သည် ဦးဗသက်၏ ခြေရင်း၌ ပြားပြားဝပ်၍ ရှိခိုးကာ တဟီးဟီးငိုနေ၏။

"ခင်ဗျား ဘာဖြစ်လို့ငိုနေတာလဲ၊ ကျွန်တော့်ကို ဘာဖြစ်လို့ရှိခိုးနေတာလဲ၊ မလုပ်ပါနဲ့ဗျာ...ကျွန်တော် ငရဲကြီးနေပါဦးမယ်"

"ဗသက်ရာ...မင်းက ငယ်ပေမယ့် ဘုရားတရားမြဲတဲ့လူပါ၊ ငါက အသက်ကြီးပေမယ့် ဘုရားမှန်းတရားမှန်းမသိတဲ့ လူမိုက်ပါ၊ ငါက မင်းကိုအသေသတ်ဖို့ ဓားကိုတအားမြှောက်ပြီး ခုတ်လိုက်တာ

ဘယ်ကနေ ဘယ်လိုမှန်းမသိဘူး၊ ဝါးကိုင်းတစ်ခုက ရုတ်တရက်ကျ လာပြီး မင်းရဲ့လည်ပင်းကိုထိတယ်၊ ငါ့ဓားကတော့ အပေါ်ဘက် လွင့်ထွက်သွားပြီးတော့ ငါ့ဦးခေါင်းပေါ် တည့်တည့်စိုက်ကျလာ တယ်၊ ငါအရှောင်မြန်ပေလို့ပေါ့ကွာ၊ ပြီးတော့ ငါ့ကိုကြိမ်းမောင်း တဲ့ အသံဗလံတွေကိုလဲ ကြားရတယ်၊ ငါမှားပါပြီကွာ... ငါ့ကိုခွင့် လွှတ်ပါ ဗသက်ရာ"

ရတနာသုံးပါးနှင့် မေတ္တာတို့၏ ကျေးဇူးသည် အလွန်တရာကြီး မြတ်ပါပေ၏။



ဦးဗသက်သည် မိုင်းအတွင်းရှိအိမ်၌ အေးချမ်းစွာနေထိုင်နေ၏။ တစ်နေ့တွင် အဝတ်ကြိုးတန်းရန် ကြိမ်နွယ်ရှည်ရှည်တစ်ပင်လိုချင် သဖြင့် ဓားမတစ်ချောင်းကိုကိုင်ကာ တောင်ပေါ်သို့တက်သွား၏။

ဤတောင်ပေါ်တွင် လူသွားလူလာနည်း၏။ သစ်ခုတ်ဝါးခုတ်သူ များသာ တစ်ခါတစ်ရံလာရောက်ကြ၏။ တောကောင်ပေါသည်ဟု လည်း ပြောကြ၏။

ဦးဗသက်သည် ကြိမ်ပင်ရှည်ရှည်ကိုရွေးချယ်ရင်း တောင်ထိပ် ပေါ်သို့ရောက်လာ၏။ စိတ်ကြိုက်ကြိမ်နွယ်ရှည်ရှည်တစ်ပင်ကို ခုတ် ယူပြီးနောက် အခက်အလက်များကိုရှင်းကာ ကြိမ်နွယ်ကိုခွေလိုက် ၏။ တောင်အောက်သို့ဆင်းလာရာတွင် ရုတ်တရက်ဗိုက်နာလာသ ဖြင့် ချုံနွယ်ရှင်းလင်းသည့်နေရာတစ်နေရာ၌ ထိုင်ချလိုက်ရ၏။

တောင်ပေါ်လည်းဖြစ်၊ တောတွင်းလည်းဖြစ်နေသည့်အတွက် ဦး

ဗသက်သည် မထိုင်ချမီ တောစောင့်နတ်, တောင်စောင့်နတ်များကို အမျှပေးဝေပြီး ခွင့်တောင်းလိုက်၏။ လုံချည်မ,ပြီး ဆောင့်ကြောင့် ထိုင်နေစဉ် တချွတ်ချွတ်နင်းလာသည့် ခြေသံများကို ကြားရ၏။ ခြေသံက လေး၍စကားပြောသံကိုလည်း မကြားရသည့်အတွက် တောကောင်များဖြစ်လေမလားဟု ဦးဗသက်စိုးရိမ်လာမိ၏။

ဦးဗသက်စူးစိုက်၍ကြည့်နေစဉ် ရှေ့တည့်တည့်ငါးတောင်အကွာလောက်၌ အဝါနှင့်အနက်စင်းများနှင့် ကျားကြီးတစ်ကောင် ပေါ်လာလေတော့၏။ ကျားကြီးသည် ဦးဗသက်အား မျက်တောင်မခတ်ဘဲ စိုက်ကြည့်နေ၏။

ဦးဗသက်ကြောက်ရွံ့၍ တစ်ကိုယ်လုံးတုန်လာ၏။ ချွေးပြန်ပြီး တစ်ကိုယ်လုံးထူထူပူပူဖြစ်နေ၏။ ဦးဗသက်သည် ကျားကြီးကို စိုက်ကြည့်၍ "သင်နှင့်ငါ ရန်သူများမဟုတ်ကြပါ၊ သင့်အား ငါရန်မမူသလို ငါ့အားလဲ သင်ရန်မပြုပါနှင့်။ ဗုဒ္ဓံပူဇေမိ– ကျားကြီးချမ်းသာပါစေ၊ ဓမ္မံပူဇေမိ– ကျားကြီးချမ်းသာပါစေ၊ သံဃံပူဇေမိ–ကျားကြီးချမ်းသာပါစေ..." ဟုမေတ္တာပွားပို့နေ၏။

ကျားကြီးသည် ရှေ့လည်းမတိုး၊ နောက်လည်းမဆုတ်၊ ဦးဗသက်ကိုသာ စူးစိုက်ကြည့်နေ၏။ ဦးဗသက်ကလည်း ကျားကြီးကို စိုက်ကြည့်ပြီး မေတ္တာပို့နေ၏။ စက္ကန့်တွေကုန်လွန်သွားကြ၏။ ဤအချိန်သည် အကြာကြီးဟု ဦးဗသက်ထင်မိ၏။

ထို့နောက် ဦးဗသက်၏စိတ်၌ ဘယ်လိုဖြစ်လာသည်မသိ။ ပါးစပ်မှ ဘယ်လိုအသံထွက်လာသည်မသိ "ဗုဒ္ဓေါ...ဗုဒ္ဓေါ...ဟေး... သွား...သွား" ဟု ကျားကြီးကို ကြွက်ခြောက်သလို ယောင်ယမ်းပြီး အော်ပြောလိုက်မိ၏။

ကျားကြီးသည် ငြိမ်နေရာမှ ထိုအသံကြောင့် "ဝုန်း..."ဟု ကျယ်လောင်စွာ ဟိန်းပြီးလျှင် နောက်ကျွမ်းပစ်လိုက်၏။ ကျားခန္ဓာကိုယ်ကြီး လျင်မြန်စွာ ကျွမ်းထိုးသွားသည့်အရှိန်ကြောင့် လေအဟုန်သည် ဦးဗသက်အား နောက်ပြန်လဲသွားရန် တွန်းချလိုက်လေ၏။

ဦးဗသက်သည် လျင်မြန်စွာထ၍ ပုဆိုးကိုပြန်မဝတ်နိုင်တော့ဘဲ ပုဆိုးကို လက်နှစ်ဖက်ဖြင့်ကိုင်လျက် တောင်အောက်သို့ တစ်ချိုးတည်း ပြေးဆင်းသွားလေ၏။ တောင်ခြေတွင် ခလုတ်တိုက်၍ လဲကျသွား၏။ ဟောဟဲ...ဟောဟဲနှင့် အမောဆို့ကာ တော်တော်နှင့် ပြန်မထနိုင်တော့ချေ။ ဓားမနှင့် ကြိမ်ခွေတို့သည်လည်း တောင်ပေါ်၌ ကျန်ရစ်ကြ၏။



ဦးဗသက်၏ ကိုယ်တွေ့ဖြစ်ရပ်များကား မှတ်သားထိုက်ပေ၏။ ဦးဗသက်အသုံးပြုသွားသည့် ရတနာသုံးပါးကို ဦးတိုက်၍ မေတ္တာပွားပို့သည့်နည်းသည် လွယ်ကူသဖြင့် လူတိုင်းအသုံးပြုနိုင်၏။ လမ်းသွားလမ်းလာ မည်သည့်အခါ၌မဆို နှလုံးသွင်းနိုင်၏။

"ဗုဒ္ဓံပူဇေမိ–သတ္တဝါများချမ်းသာကြပါစေ၊ ဓမ္မံပူဇေမိ–သတ္တဝါများ ချမ်းသာကြပါစေ၊ သံဃံပူဇေမိ–သတ္တဝါများ ချမ်းသာကြပါစေ"

ဦးဗသက်သည် ယခုအခါ အသက် ၆၀ ပင် ကျော်လာလေပြီ။ ငယ်ရွယ်စဉ်အခါ အဆုတ်နာရောဂါဖြစ်စဉ်က ခြောက်လသာနေရမည်ဟု ဆရာဝန်များမှတ်ချက်ချခဲ့သော မောင်ဗသက်သည် ယခုထက်တိုင် ကျန်းမာနေပါ၏။

ရတနာသုံးပါး၏ ဂုဏ်ကျေးဇူး၊ သီလနှင့်မေတ္တာတို့၏ ဂုဏ်ကျေးဇူးတို့ကား ကြီးမားလှဘိတောင်း။

(မင်းသူရိန်၏ 'တန်ခိုးထက်မြက်သည့် ဗုဒ္ဓဂုဏ်တော်များနှင့် ကိုယ်တွေ့ဖြစ်ရပ်များ' စာအုပ်မှ ထားဝယ်သတ္တုလုပ်သားဟောင်း ဦးဗသက်၏ ကိုယ်တွေ့ဖြစ်ရပ်ကို မှီငြမ်းပါသည်။)



# သစ္စာအပွင့်

**သစ္စာဟူသည်မှာ**...

သစ္စာဟူသည်မှာ **'မှန်ကန်ခြင်း' (truth)** ဖြစ်၏။

သစ္စာဟူသည် တည်ကြည်ဖြောင့်မတ်ပွင့်လင်းသည့်သဘောကို ဆောင်၏။ လိမ်လည်လှည့်ပတ်ခြင်း၊ ကွေ့ကောက်ခြင်း၊ ဖောက်ပြန်ခြင်း၊ ကွယ်ဝှက်ခြင်းသဘောတို့ကို ဆန့်ကျင်၏။

သစ္စာကိုမြတ်နိုးသောသူသည် အမှန်ကိုအမှန်အတိုင်း ပြောဝံ့၏၊ အရှိကိုအရှိအတိုင်း ဝန်ခံဝံ့၏၊ ထို့ကြောင့် ရဲစွမ်းသတ္တိရှိသူဖြစ်၏။

လိမ်လည်လှည့်စားခြင်းသည် အကျည်းတန်၏၊ ယုတ်ညံ့၏၊ ရှုတ်ချဖွယ်ဖြစ်၏။ **'မုသားမပါ လက်ာမချော'** ဟူသောစကားသည် သစ္စာတန်ဖိုးကို မသိနားမလည်ကြသော လူမိုက်တို့၏ လက်သုံးစကားသာ ဖြစ်၏။

ဓမ္မပဒပါဠိတော် လောကဝဂ်၌ **'သစ္စာတရားတစ်ခုကို လွန်၍ မုသားစကားကိုဆိုလေ့ရှိသော နောင်ဘဝအတွက် ဆင်ခြင်စဉ်းစား**

**ခြင်း အလျဉ်းမရှိသောသူအား မပြုနိုင်မည့် မကောင်းမှုအကုသိုလ် မည်သည် မရှိ'** ဟု ဗုဒ္ဓမြတ်စွာမိန့်ကြားတော်မူခဲ့၏။

ထို့ကြောင့် မုသားပြောသူသည် မိုက်တွင်းနက်သူဖြစ်၏၊ အကုသိုလ်အမှုများကိုပြုလုပ်ခြင်းဖြင့် မိမိ၏ဘဝကို ဆုံးရှုံးအောင် ပြုလုပ်နေသူဖြစ်၏။

သစ္စာသည် အပြစ်ကင်း၏၊ ကုသိုလ်ကောင်းမှုအဝဝတို့ စီးဆင်းစုဝေးရာ ရေလှောင်ကန်ကြီးနှင့်တူ၏။ သစ္စာသည် အကျိုးယုတ်ခြင်းကို မည်သည့်အခါမျှမဖြစ်စေပါ။

တစ်ဖန် **သစ္စာသည် တရားမျှတမှု၏ တမန်တော်ဖြစ်၏ ။** လောကတွင် တရားမျှတမှုကို လူတိုင်းလိုလား၏။ တရားမျှတမှုသည် မှန်ကန်ခြင်းပင်ဖြစ်၏။ မှန်ကန်ခြင်း 'သစ္စာ' ကိုမြတ်နိုးသူသည်မတရားမှုမှန်သမျှကို စက်ဆုပ်ရွံမုန်း၏။ မိမိကိုယ်တိုင်လည်း မတရားမပြုချေ။

လောကဌ် မှန်ကန်ခြင်းဟူသော **'သစ္စာပန်း'** ပွင့်လန်းရှင်သန်နေသည့်အခါ တရားမျှတမှုကိုကိုယ်စားပြုသော 'စံပယ်ပန်း၊ မြတ်လေးပန်း၊ သရဖီပန်း' စသည်တို့လည်း ပွင့်လန်းဝေဆာနေကြမည်ဖြစ်၏။ ထိုအခါ လောကကြီးသည် လှပတင့်တယ်ပြီး သာယာဝပြော၏။

ထို့ကြောင့် သစ္စာ 'truth' သည် တရားမျှတမှု 'justice', လှပမှု 'beauty' တို့နှင့် ဒွန်တွဲနေသည့်တရား ဖြစ်၏။

'Truth, justice, beauty' ဟူသော တရားသုံးပါးတို့မှာ အနောက်တိုင်းတွေးခေါ်ရှင်များက ထိပ်တန်းတင်၍ရှာဖွေနေကြသော တရားများ ဖြစ်ကြ၏။ သစ္စာကိုပိုင်လျှင် တစ်လောကလုံးကိုအောင်နိုင်သူဖြစ်သတည်း။

## သစ္စာနှစ်မျိုး

သစ္စာသည် အခြေခံအားဖြင့် **သမုတိသစ္စာ**နှင့် **ပရမတ္ထသစ္စာ**ဟူ၍ နှစ်မျိုးရှိ၏။

လောက၌ ပညာရှိများသည် စကားဖြင့် ဆက်သွယ်ပြောဆိုနိုင်ရန်အတွက် 'ခွေး၊ ကြောင်၊ ဆင်၊ မြင်း၊ လူ၊ ယောကျ်ား၊ မိန်းမ၊ အိမ်၊ ကျောင်း၊ သစ်ပင်' စသည်ဖြင့် ဝေါဟာရအမျိုးမျိုးကို သမုတ်ထားကြ၏၊ ပညတ်ထားကြ၏။ ထို့ကြောင့် ဤဝေါဟာရများကို 'ပညတ်' များဟုလည်း ခေါ်၏။

ဤပညတ်ဝေါဟာရများက မည်သည့်အရာများကို ရည်ညွှန်းကြကြောင်းကို လူအများက သိနားလည်ကြ၏။ သိနားလည်ပြီး သဘောတူ လက်ခံကြသည့်အတိုင်း ခွေးကို ခွေးဟူ၍၊ လူကို လူဟူ၍၊ ယောကျ်ားကိုယောကျ်ားဟူ၍၊ အိမ်ကိုအိမ်ဟူ၍ ခေါ်ဝေါ်ပြောဆိုခြင်းသည် လှည့်စားမှုမပါဘဲ အမှန်ကိုပြောဆိုခြင်းဖြစ်၍ **'သမုတိသစ္စာ'** ဟုခေါ်၏။ သမုတိသစ္စာသည် မုသာဝါဒ၏ ဆန့်ကျင်ဘက်ဖြစ်၏။

ထို့ကြောင့် 'သူခိုးကို သူခိုး' ဟုခေါ်၍ 'ပညာရှိကို ပညာရှိ' ဟုခေါ်ခြင်းသည် မုသားမဖြစ်၊ သစ္စာဖြစ်၏။ 'သူခိုးကိုလူကောင်း' ဟု ခေါ်လျှင် 'ပညာရှိကိုလူမိုက်' ဟုခေါ်လျှင် မုသားဖြစ်၏။ သစ္စာမဖြစ်။

ထို့အတူ အမျိုးသားတစ်ဦးက အမျိုးသမီးတစ်ဦးကို တကယ်မချစ်ဘဲ 'ချစ်တယ်' ဟုပြောလျှင် မုသားဖြစ်၏။ မုန်းသည့်အတွက် 'မုန်းတယ်' ဟုပြောလျှင် သမုတိသစ္စာဖြစ်၏။

**ပရမတ္ထသစ္စာကား လောက၌အမှန်တကယ်ရှိပြီး မဖောက်မပြန် အမြဲမှန်ကန်နေသည့်သဘောများကို ခေါ်၏။**

လောက၌အမှန်တကယ်ရှိကြသောတရားများမှာ ရုပ်**အစစ်** ၁၈ ပါး၊ စိတ်၊ စေတသိက် ၅၂ ပါးနှင့် နိဗ္ဗာန်တို့ဖြစ်ကြ၏။ ဤတရားများကို ပရမတ္ထသစ္စာဟုခေါ်၏။

**ရုပ်**ဆိုသည်မှာ အပူအအေးစသည့် ဆန့်ကျင်ဘက်အကြောင်းများကြောင့် ဖောက်ပြန်တတ်သောသဘောကို ခေါ်၏။ သိပ္ပံပညာက သိသော ဒြပ်နှင့်စွမ်းအင် (matter and energy) တို့သည် ရုပ်တွင် အကျုံးဝင်ကြ၏။

**စိတ်**သည် အာရုံကိုသိတတ်သောသဘော (consciousness) ဖြစ်၏။ အဆင်းကိုမြင်လျှင် မြင်မှန်းသိ၏။ အသံကိုကြားလျှင် ကြားမှန်းသိ၏။ အနံ့ရလျှင် ရမှန်းသိ၏။ ဤသို့အာရုံကိုသိသောသဘော 'စိတ်' သည် လူမှာလည်းရှိ၏၊ ခွေးမှာလည်းရှိ၏၊ အသညသတ်ဗြဟ္မာများမှလွဲ၍ သတ္တဝါတိုင်း၌ရှိ၏။

**စေတသိက်** သည် စိတ်၌မှီတွယ်ပြီး စိတ်ကိုခြယ်လှယ်နေသည့် သဘောဖြစ်၏။ လိုချင်တပ်မက်ခြင်း–လောဘ၊ ကြမ်းတမ်းခက်ထန်ခြင်း–ဒေါသ၊ ကိုယ့်ထက်သာမနာလိုခြင်း–ဣဿာ၊ ဝန်တိုခြင်း–မစ္ဆရိယ၊ ရတနာသုံးပါးကို ယုံကြည်ခြင်း–သဒ္ဓါ စသော သဘောတရားများသည် လူ၌ရှိသလို တိရစ္ဆာန်များ, နတ်များ စသည်တို့၌လည်း ရှိကြ၏။ အင်္ဂလိပ်လို 'mental factors' ဟုခေါ်၏။

**နိဗ္ဗာန်** သည် ဒုက္ခခပ်သိမ်းချုပ်ငြိမ်း၍ ထာဝရချမ်းသာသည့်သန္တိသုခသဘောဖြစ်၏၊ အင်္ဂလိပ်ဘာသာဖြင့် 'Nirvana or Nibbana' ဟုခေါ်၏။ နိဗ္ဗာန်သည် အမြဲတည်ရှိနေပြီး မဂ်ဉာဏ်, ဖိုလ်ဉာဏ်တို့ဖြင့် မျက်မှောက်ပြုနိုင်သော ပရမတ်တရားပါပေတည်း။

## အရိယသစ္စာ

နိဗ္ဗာန်သည် ဆင်းရဲခပ်သိမ်းမှလွန်မြောက်သောတရားဖြစ်၏၊ ၃၁ ဘုံမှ လွန်မြောက်သောတရားဖြစ်၏၊ ဗုဒ္ဓဘာသာဝင်တို့၏ နောက်ဆုံးပန်းတိုင်ဖြစ်၏။ နိဗ္ဗာန်၏သဘောကို တကယ်သိလျှင် နိဗ္ဗာန်ကို တကယ်လိုချင်လာမည်ဖြစ်၏။

နိဗ္ဗာန်၏ချမ်းသာသည့်သဘောကိုသိလိုလျှင် လောက၏ဆင်းရဲသည့်သဘောကို မှန်မှန်ကန်ကန်သိမြင်ဖို့လို၏။

လောကဆိုသည်မှာ လူ့လောကတစ်ခုကိုသာ ရည်ညွှန်းသည် မဟုတ်၊ နတ်ဘုံ, ဗြဟ္မာ့ဘုံများအပါအဝင် ၃၁ ဘုံလုံးလုံးဟူသည့် **ဩကာသလောက၊** သတ္တဝါအားလုံးဟူသည့် **သတ္တလောက၊** ကြောင်းကျိုးဆက်နွယ်မှုအရဖြစ်ပျက်ပြောင်းလဲနေသည့် **သင်္ခါရလောက** တို့ကို ရည်ညွှန်းသောဝေါဟာရဖြစ်၏။

ဤလောကသုံးပါး၌အမှန်ရှိကြသောတရားများသည် စိတ်,စေတသိက်နှင့် ရုပ်တို့သာဖြစ်ကြ၏။ စိတ်နှင့်စေတသိက်တို့သည် အာရုံကို သိတတ်ပြီး အာရုံဆီသို့ ကိုင်းညွတ်တတ်သောသဘောကြောင့် **နာမ်** ဟုအမည်ရကြ၏။ **ရုပ်**သည် အပူအအေးစသည့် ဆန့်ကျင်ဘက်အကြောင်းများကြောင့် ဖောက်ပြန်ပြောင်းလဲတတ်သောသဘောဖြစ်၏။ ရုပ်တွင် ဒြပ်နှင့်စွမ်းအင်တို့ ပါဝင်ကြ၏။

သို့အတွက် ၃၁ ဘုံလုံးမှာ တကယ်ရှိသည့်အရာများသည် ရုပ်နှင့်နာမ်သာဖြစ်ကြ၏။ လူသည်လည်း ရုပ်နှင့်နာမ်သာဖြစ်၏။ ခွေး၊ နွား၊ နတ်၊ ဗြဟ္မာ စသည်တို့လည်း ရုပ်နှင့်နာမ်အစုများသာ ဖြစ်ကြ၏။

ရုပ်နှင့်နာမ်တို့သည် တည်မြဲသောတရားများမဟုတ်။ လက်ဖျစ်တစ်တွက်, လျှပ်တစ်ပြက်ကာလတွင် ရုပ်က ကုဋေ ၅၀၀၀ ကျော်၊

နာမ်က ကုဋေတစ်သိန်းကျော် ရှေ့ဆက်နောက်ဆက် ဖြစ်ပျက်သွားကြ၏။ ထို့ကြောင့် ၎င်းတို့သည် လက်ညှိုးထိုးပြ၍မရလောက်အောင် လျင်မြန်စွာဖြစ်ပျက်နေကြသည့် တရားများဖြစ်ကြ၏။ ဤသို့ ခဏမစဲ တသဲသဲဖြစ်ပျက်နေကြသည့် ရုပ်နာမ်တို့၏ မမြဲခြင်းသဘောကို **'အနိစ္စ'** ဟုခေါ်၏။

ထိုသို့ ခဏမစဲတသဲသဲဖြစ်ပျက်နေသော ဒဏ်ချက်တို့ဖြင့် အမြဲမပြတ် နှိပ်စက်ခံနေရသည့် ဆင်းရဲခြင်းသဘောကို **'ဒုက္ခ'** ဟုခေါ်၏။ အရွယ်ရင့်ရော်အိုမင်းခြင်း၊ ကျန်းမာရေးချို့ယွင်းခြင်း၊ သေခြင်း စသည်တို့သည် မမြဲခြင်းသဘောကိုဖော်ပြကြ၏။ မမြဲခြင်းသည် ဆင်းရဲခြင်းအမှန်ဖြစ်၏။

ရုပ်နာမ်တို့သည် ဖြစ်လာပြီးလျှင် ချက်ချင်းပျက်ရ၏။ မပျက်အောင် တားဆီး၍မရ။ ပျက်သွားပြီးသည့်နောက် 'မဖြစ်ပါစေနှင့်' ဟု ဆုတောင်း၍မရ။ အကြောင်းတရားတို့ မပြတ်ရှိလျှင် အကျိုးတရားဖြစ်သော ရုပ်နှင့်နာမ်တို့သည်လည်း မပြတ်ဖြစ်နေကြရ၏။ ဤသို့ မိမိအလိုသို့လည်းမလိုက်၊ ခိုင်မြဲသောအနှစ်သာရလည်းမရှိ၊ ဖန်ဆင်းသူ- အဖန်ဆင်းခံ သတ္တဝါလည်းမရှိ ဟူသောသဘောကို **'အနတ္တ'** ဟုခေါ်၏။

ရုပ်နာမ်တို့၏ အနိစ္စသဘော, ဒုက္ခသဘော, အနတ္တသဘောတို့ကို တကယ်ထင်ထင်ရှားရှားမြင်သိလာသည့်အခါတွင်မှ ရုပ်နာမ်တရားတို့သည် ဆင်းရဲအမှန်ဖြစ်ခြင်းဟူသည့် **ဒုက္ခသစ္စာ** ကို မြင်သိ၏။

ရုပ်နာမ်တို့၏ ကြောင်းကျိုးဆက်နွယ်မှုများကို မှန်မှန်ကန်ကန်မြင်သိလျှင် တဏှာကြောင့် ဘဝသစ်နှင့် ရုပ်နာမ်ဟူသည့် ဒုက္ခတရားများ ဖြစ်ပေါ်နေသည်ကို မြင်သိ၏။ ထို့ကြောင့် တဏှာလောဘသည်

ဆင်းရဲခြင်း၏ အကြောင်းရင်းအမှန်ဖြစ်ခြင်းဟူသည့် **သမုဒယသစ္စာ** ကို မြင်သိ၏။

၃၁ ဘုံလုံးသည် ရုပ်နာမ်တရားများသာဖြစ်ကြပြီး ဤရုပ်နာမ်တရားတို့သည် ခဏမစဲဖြစ်ပျက်နေကြသည့် အမှန်ဆင်းရဲသော တရားများဟု ထင်ထင်လင်းလင်းမြင်သိလာသောအခါ ထိုရုပ်နာမ်တရားတို့ကို တပ်မက်တွယ်တာသော တဏှာသည်လည်း ချုပ်ငြိမ်းသွား၏။ ထိုအခါ ဆင်းရဲခြင်းကိုဖြစ်စေတတ်သောအကြောင်းနှင့် ဆင်းရဲခပ်သိမ်းချုပ်ငြိမ်းသွားကြသည့်အတွက် ထာဝရချမ်းသာခြင်းသာ ရှိတော့၏။ ဤသဘောကို **နိရောဓသစ္စာ** (နိဗ္ဗာန်) ဟုခေါ်၏။

မုဆိုး၏ ထောင်ချောက်မှ လွတ်မြောက်လာသော သမင်ပျိုသည် အတိုင်းမသိ ချမ်းသာခြင်းဖြစ်သလို၊ မြွေခံတွင်းမှလွတ်မြောက်လာသော ဖားသူငယ်သည် အတိုင်းမသိချမ်းသာသလို၊ မီးအဝိုင်းခံနေရခြင်းဟူသော ဆင်းရဲမှလွတ်မြောက်လာသောယောကျ်ားသည် အကြီးအကျယ် ချမ်းသာခြင်းဖြစ်သလို၊ အလွန်နာကျင်ကိုက်ခဲသည့် ကင်ဆာရောဂါမှ လွတ်မြောက်လာသူသည် အလွန်ချမ်းသာခြင်း ဖြစ်သလို၊ အကြီးကျယ်ဆုံးဆင်းရဲဟူသည့် သံသရာဝဋ်ဆင်းရဲမှ လွတ်မြောက်ခြင်းဟူသော နိဗ္ဗာန်သည် အချမ်းသာဆုံးချမ်းသာဖြစ်သည်ကို တွေးဆကြည့်နိုင်ပါသည်။

ဒုက္ခသစ္စာကိုမြင်သိပြီး သမုဒယသစ္စာကိုပယ်သတ်ကာ နိရောဓသစ္စာသို့ ဆိုက်ရောက်ရေးအတွက် ပွားများအားထုတ်ရမည့်ကျင့်စဉ်တရားမှာ မဂ္ဂင်ရှစ်ပါးဟူသော မဂ္ဂသစ္စာဖြစ်၏။ ဤ 'သိ – ပယ် – ဆိုက် – ပွား' ဟူသော သစ္စာလေးပါးကို **အရိယသစ္စာလေးပါး** ဟုခေါ်၏။

သမုဒယသစ္စာသည် မြတ်၏၊ ပရမတ္ထသစ္စာသည် ပိုမြတ်၏။

အရိယသစ္စာမှာ အမြတ်ဆုံးဖြစ်၏။

အရိယသစ္စာလေးပါးကိုသိသော မဂ်ပညာသည် အမြင့်ဆုံးပညာဖြစ်၏။

အရိယသစ္စာကို သိမြင်ခြင်းအတွက် ရရှိသောအကျိုးကျေးဇူးသည် အကြီးကျယ်ဆုံး,အမြင့်မြတ်ဆုံးဖြစ်သော အကျိုးကျေးဇူးဖြစ်ပေ၏။

သစ္စာရှင်သည် မာယာရှင်, ဓနရှင်, အာဏာရှင်တို့ထက် အခါခပ်သိမ်း သာလွန်မြင့်မြတ်သည်သာတည်း။

## ဗုဒ္ဓ ဓမ္မ ဟူသမျှသည် သစ္စာ

သဗ္ဗညုတဉာဏ်ပိုင်ရှင် ဖြစ်တော်မူသော မြတ်စွာဘုရားသည် အမှားနှင့်အမှန်ကို ပိုင်းခြား၍သိတော်မူ၏၊ သတ္တဝါတို့အား ကြီးပွားချမ်းသာစေသည့်သဘောမှန် (သစ္စာတရား) များကိုလည်း သိ၏၊ အရိယသစ္စာလေးပါးကိုကိုယ်တော်တိုင်သိမြင်ခဲ့ပြီး သတ္တဝါအပေါင်းတို့မြင်သိအောင်လည်း ညွှန်ပြတော်မူနိုင်စွမ်းရှိတော်မူပေ၏။

အမြင့်မြတ်ဆုံးသော သစ္စာပိုင်ရှင်သည် သစ္စာကိုမြတ်နိုး၍ သစ္စာစကားကိုသာ မိန့်ဆိုတော်မူခဲ့၏၊ မှန်ကန်၍အကျိုးရှိသော တရားစကားများကိုသာ ဟောကြားတော်မူခဲ့၏။

ထို့ကြောင့် ဗုဒ္ဓမြတ်စွာ၏ အဆုံးအမစကားများသည် သစ္စာချည်းသာ ဖြစ်ကြ၏။ ထိုအဆုံးအမစကားများကို 'ဓမ္မတရား' ဟု ခေါ်ဆိုခြင်းသည် လျော်ကန်လှ၏။

ဗုဒ္ဓဓမ္မများသည် အခါခပ်သိမ်း တည့်မတ်မှန်ကန်ကြောင်းကို လက်တွေ့အစမ်းသပ်ခံနိုင်သော သန္ဒိဋ္ဌိကဂုဏ်တော်နှင့် ပြည့်စုံ၏။ သတ္တဝါအပေါင်းတို့၏စစ်မှန်သော ချမ်းသာရေးအတွက် ကောင်းစွာ ဟောကြားထားသည့် သွာက္ခာတဂုဏ်နှင့်လည်း ပြည့်စုံ၏။ အခါမလင့် အကျိုးပေးတတ်သည့် အကာလိကဂုဏ်တော်နှင့်လည်း ပြည့်စုံ၏။

ထို့ကြောင့် **ဓမ္မသည်သစ္စာ၊ ဓမ္မသည် လိုက်နာကျင့်ကြံသူအား ဆင်းရဲမှထုတ်ဆောင်၍ ချမ်းသာကိုပေးဆောင်နိုင်သောတရား** ဖြစ်၏။

သို့အတွက် မင်္ဂလသုတ်, ရတနသုတ်, မေတ္တာသုတ် စသောသုတ်တော်များကို အကြိမ်ကြိမ်ရွတ်ဆိုလျှင်သော်လည်းကောင်း၊ ဘုရားဂုဏ်တော်, တရားဂုဏ်တော်, သံဃာဂုဏ်တော်များကို အဖန်ဖန်ပွားများလျှင်သော်လည်းကောင်း ဘေးရန်အန္တရာယ်အသွယ်သွယ်တို့မှ ကင်းပပြီး ကောင်းကျိုးချမ်းသာအဖြာဖြာတို့နှင့် ပြည့်စုံလာနိုင်၏။

ဘေးရန်အန္တရာယ်များကို တားဆီးနိုင်သဖြင့် 'ပရိတ်ကြီး' ဟုလည်းကောင်း၊ 'ဗုဒ္ဓမန္တန်' ဟုလည်းကောင်း အမည်ရကြသော ပါဠိတော်များကို ရွတ်ဖတ်သရဇ္ဈာယ်သည့်အတွက် တစ္ဆေ, ပြိတ္တာ, မြေဘုတ်, ဘီလူး စသည်တို့၏ ဘေးဆိုးများမှလည်းကောင်း၊ ရောဂါအမျိုးမျိုးနှင့်တကွ ကြောက်မက်ဖွယ် အန္တရာယ်အသွယ်သွယ်တို့မှလည်းကောင်း အံ့သြဖွယ်ရာ ကင်းလွတ်ခဲ့ကြသည့်ဖြစ်ရပ်များမှာ မရေမတွက်နိုင်အောင်ပင် များပြားကြကုန်၏။

**ဓမ္မမှန်လျှင် သစ္စာဖြစ်၍ သစ္စာမှန်လျှင် အစွမ်းထက်သည်သာတည်း။**

## ကိုယ်ကျင့်တရားသည်သစ္စာ

ကောင်းသောကိုယ်ကျင့်တရားသည် မှန်ကန်သောအတွေး၊ မှန်ကန်သော အပြော၊ မှန်ကန်သောအပြုအမူတို့၏ အသီးအပွင့်များဖြစ်၍ သစ္စာ၏ အကျိုးတရားဖြစ်သည်ဟု ဆိုနိုင်၏။

လူများအတွက် အကောင်းဆုံးကိုယ်ကျင့်တရားမှာ ငါးပါးသီလဖြစ်၏။ ငါးပါးသီလသည် အလေးအမြတ်ပြုပြီး စောင့်ရှောက်ထိန်းသိမ်းထိုက်သောတရားဖြစ်သည့်အတွက် **'ဂရုဓမ္မ'** ဟုအမည်ရ၏။

သတ္တဝါတိုင်းသည် မိမိ၏ဘဝကို ချစ်ခင်တပ်မက်၏။ မိမိအားညှဉ်းပန်းနှိပ်စက်သည်ကို မလိုလား။ မိမိအား သတ်ဖြတ်ခြင်းကိုကား မလိုလားဆုံးဖြစ်၏။ မိမိက ညှဉ်းပန်းနှိပ်စက်ခံရခြင်း, သတ်ဖြတ်ခံရခြင်းတို့ကိုမလိုလားလျှင် သူတစ်ပါးအား ညှဉ်းပန်းသတ်ဖြတ်ခြင်း **'ပါဏာတိပါတ'** သည် မတရားမှုကြီးဖြစ်၏။ သို့အတွက် သူတစ်ပါးအသက်ကို သတ်ခြင်းမှ ရှောင်ကြဉ်ခြင်းသည် တရားသောလမ်းစဉ် 'သစ္စာလမ်း' ဖြစ်၏။

မိမိ၏ဥစ္စာပစ္စည်းများ အခိုးခံရလျှင် မိမိစိတ်ဆင်းရဲရသလို သူတစ်ပါးဥစ္စာပစ္စည်းများကိုမိမိခိုးယူလျှင်လည်း သူတစ်ပါးစိတ်ဆင်းရဲမည်ဖြစ်၏။ ထို့ကြောင့် ပိုင်ရှင်မပေးသောပစ္စည်းဥစ္စာများကို ခိုးဝှက်ယူခြင်း၊ လိမ်ညာယူခြင်း၊ အနိုင်ကျင့်၍လုယူခြင်း စသည့် အဒိန္နာဒါနအမှုသည် မတရားလမ်းစဉ်ဖြစ်ပြီး ထိုအမှုမှရှောင်ကြဉ်ခြင်းသည် တရားသောလမ်းစဉ် 'သစ္စာလမ်း' ဖြစ်၏။

မိမိ၏ ဇနီးခင်ပွန်း သားသမီးများကို သူတစ်ပါးဖျက်ဆီးလျှင် မိမိမနှစ်သက်သလို သူတစ်ပါး၏ ဇနီးခင်ပွန်း သားသမီးများကို ဖျက်

ဆီးခြင်းဟူသည့် **'ကာမေသုမိစ္ဆာစာရ'** အမှုသည်လည်း မနှစ်သက်အပ်သည့် မတရားလမ်းစဉ်သာ ဖြစ်၏။ ထိုအမှုမှ ရှောင်ကြဉ်ခြင်းသည် တရားသောလမ်းစဉ် 'သစ္စာလမ်း' ဖြစ်၏။

မိမိအား လိမ်ညာလှည့်စားလျှင် မိမိမနှစ်သက်သကဲ့သို့ သူတစ်ပါးအား လိမ်ညာပြောဆိုခြင်းဟူသည့် **'မုသာဝါဒ'** သည် မနှစ်သက်အပ်သော မတရားလမ်းစဉ်သာဖြစ်၏။ ထိုအမှုမှရှောင်ကြဉ်ခြင်းသည် တရားသောလမ်းစဉ် **'သစ္စာလမ်း'** ဖြစ်၏။

သေရည်အရက်နှင့် ဘိန်း, ဘင်း, ကိုကင်း စသည့် မူးယစ်ဆေးဝါးကို သောက်သုံးခြင်းသည် မိမိ၏ ဘဝပျက်စီးခြင်း၊ မိမိ၏ မိသားစုဆင်းရဲခြင်းနှင့် မကောင်းမှုကျူးလွန်ခြင်းတို့ကို ဖြစ်ပေါ်စေ၏။ သို့အတွက် အရက်နှင့်မူးယစ်ဆေးဝါးတို့ကို သောက်သုံးခြင်းဟူသည့် 'သုရာမေရယမဇ္ဇပမာဒဋ္ဌာနာ' သည် အကျိုးယုတ်စေသောလမ်းစဉ်ဖြစ်၍ ထိုအမှုမှရှောင်ကြဉ်ခြင်းသည် တရားသောလမ်းစဉ် 'သစ္စာလမ်း' ဖြစ်၏။

အကျဉ်းအားဖြင့် **သူတစ်ပါးတို့အား ထိပါးနစ်နာဆုံးရှုံးစေသော ကြံတွေးမှု, ပြောမှု, ပြုမှုဟူသမျှသည် အပြစ်ရှိသောကြောင့် မကောင်းမှု အကုသိုလ်ဖြစ်၏၊ အဓမ္မလမ်းစဉ်ဖြစ်၏။**

အဓမ္မလမ်းစဉ်ကိုလိုက်လျှင် မကောင်းကျိုးကိုရ၏၊ အပါယ်ငရဲသို့ ကျရောက်ရ၏။ သစ္စာလမ်းစဉ်ကိုလိုက်လျှင် ကောင်းကျိုးကို ရ၏၊ သုဂတိဘုံသို့လားရောက်ရ၏။

ကိုယ်ကျင့်တရား 'သီလ' နှင့်ပြည့်စုံသူသည် နတ်ပြည်ဗြဟ္မာပြည်အထိ ဂုဏ်သတင်းကျော်ကြား၏၊ နတ်ကောင်း သူတော်ကောင်းများ စောင့်ရှောက်သည့်အတွက် ဘေးရန်အန္တရာယ်ကင်းရှင်း၏၊

ဣဋ္ဌာသယရတနာရွှေအိုးကို ပိုင်စိုးထားသည့်နှယ် အလိုဆန္ဒရှိတိုင်း ပြည့်စုံလေ့ရှိ၏။

**သီလက မပေးနိုင်သော ပစ္စည်းဥစ္စာ ရတနာဟူသည် မရှိချေ။**

## ကတိသစ္စာတည်သောအခါ

**'လူမှာကတိ မင်းမှာသစ္စာ'** ဟူသည့်အတိုင်း လူသားတို့သည် ကတိသစ္စာတည်ကြရမည်။ ပေးအပ်သောတာဝန်ဝတ္တရားကို မှန်ကန် ကျေပွန်စွာထမ်းဆောင်ပါမည်ဟု ကတိခံဝန်ချက်ထားရှိခဲ့သည့် အတိုင်း မှန်မှန်ကန်ကန် ကြိုးကြိုးစားစား လုပ်ကိုင်ပါမှ ကတိသစ္စာ တည်သူဖြစ်ပါလိမ့်မည်။

'ကတိ'တစ်လုံးကို လွယ်လွယ်မပေးကောင်းပါ။ ပေးပြီးသော ကတိကိုလည်း မဖျက်စကောင်းပါ။

မိဘတိုင်းသည် မိဘဝတ္တရားကျေပွန်ရမည်။ သားသမီးတိုင်းက လည်း သားသမီးဝတ္တရားကျေပွန်ရမည်။ ဇနီးမောင်နှံတိုင်းလည်း တစ်ဦးအပေါ် တစ်ဦး သစ္စာရှိရမည်။ ပြည်သူတိုင်းသည်လည်း နိုင်ငံ အပေါ်မှာ သစ္စာရှိရမည်။ ပြည်သူကိုယ်စားပြုသောနိုင်ငံတော်အစိုးရ ကလည်း ပြည်သူတို့၏ ကောင်းကျိုးချမ်းသာကို သယ်ပိုးဆောင်ရွက် ပေးရမည်။

လူတိုင်း သစ္စာဝါဒီဖြစ်သင့်သည်။ သစ္စာတရားကို ပြည်သူတိုင်း မြတ်နိုးပါမှ တိုင်းပြည်စည်ပင်ဝပြောသာယာမည်။

*"**ကတိသစ္စာ၊** တည်သောခါကား၊ ဩဇာလေးနက်၊ ပေါ်*
*ဆီတက်၍၊ နွယ်မြက်သစ်ပင် ဆေးဖက်ဝင်၏။"*

ပြည့်ရှင်မင်းက တရားစောင့်လျှင် မှူးမတ်များနှင့်မင်းချင်းများကလည်း တရားစောင့်ကြ၏။ ထိုအခါ ပြည်သူများလည်း တရားစောင့်ကြ၏။ ရာသီဥတုမှန်ကန်၍ ကောက်ပဲသီးနှံပေါများ၏၊ အရသာဩဇာတို့နှင့်လည်းပြည့်စုံ၏။ သစ်ရွက်သစ်ခေါက်၊ သစ်ဥသစ်ဖုတို့ကလည်း ဆေးဖက်ဝင်ကြ၏။ ထို့ကြောင့် တိုင်းပြည်စည်ပင်ဝပြော၏။

အခါတစ်ပါး၌ မင်းကျင့်တရား ၁၀ ပါးနှင့်အညီစိုးမိုးအုပ်ချုပ်သော **ဗြဟ္မဒတ်မင်း**သည် မြို့တွင်းမြို့ပြင်စနည်းနာရင်း ရသေ့ကျောင်းသင်္ခမ်းတစ်ခုသို့ ရောက်သွား၏။ ရသေ့ကြီးက မိမိစားနေကျ ညောင်သီးဖြင့်ဧည့်ခံရာ ချိုမြိန်လှသဖြင့် သီးနှံများဖွံ့ထွား၍ အရသာရှိရခြင်းအကြောင်းကို ဗြဟ္မဒတ်မင်း မေးလျှောက်၏။ ရသေ့ကြီးက "မင်းကအစ ပြည်သူတွေ တရားစောင့်ကြလျှင် သီးနှံများဖွံ့ထွားပြီး ဩဇာရှိ၏။ တရားမစောင့်ကြလျှင် သီးနှံများ ညှံ့ဖျင်းပြီး အရသာဩဇာကင်း၏" ဟု မိန့်ဆို၏။

ဘုရင်မင်းမြတ်သည် ရသေ့ကြီးပြောသောစကားကို စမ်းသပ်လို၍ မင်းကျင့်တရားတို့ကိုပယ်ဖျက်၏။ ထိုအခါ **အဓမ္မိကသုတ်တော်**၌ မြတ်စွာဘုရား ဟောကြားထားသည့်အတိုင်း ဘုရင်မင်းမြတ်က တရားမစောင့်သည့်အတွက် မှူးမတ်များနှင့် မင်းချင်းများ တရားမစောင့်ကြတော့ချေ။ မှူးမတ်များနှင့် မင်းချင်းများက တရားမစောင့်ကြသည့်အတွက် ပြည်သူများကလည်း တရားမစောင့်ကြတော့ချေ။ မင်းနှင့်ပြည်သူတို့ တရားပျက်ကွက်ကြသည့်အတွက် နေနှင့်လတို့၏ လှည့်ပတ်မှုသည် မညီမညွတ်ဖြစ်လာပြီးလျှင် ရာသီဥတုဖောက်ပြန်လာ၏။ လေနတ်သား, မိုးနတ်သားတို့က အမျက်သိုကြသဖြင့်

လေတိုက်မှုမမှန်ကန်၊ မိုးရာသီတွင် မိုးမရွာဘဲ မိုးခေါင်၏။ ကောက်ပဲ သီးနှံမဖြစ်ထွန်း၍ ငတ်မွတ်ခေါင်းပါးခြင်းဟူသော **ဒုဗ္ဘိက္ခန္တရကပ်** ဆိုက်လာ၏။ အာဟာရချို့တဲ့သဖြင့် ရောဂါဖြစ်ပွားခြင်းဟူသော **ရောဂန္တရကပ်** လည်း ဆိုက်ရောက်လာ၏။ ထိုအခါ ဘီလူး, သရဲ, သဘက်များဝင်စီးသဖြင့် လူအချင်းချင်း ဓား, လှံ, လက်နက်တို့ဖြင့် သတ်ဖြတ်ခြင်းဟူသော **သတ္တန္တရကပ်** လည်း ကျရောက်လာ၏။ လူ အမြောက်အမြားသေကျေပျက်စီးရ၏။

ရှင်ဘုရင်သည် မုဆိုးအသွင်ဆောင်၍ တောထဲရှိသည့် ရသေ့ ကျောင်းသခ်မ်းသို့သွား၏။ ရသေ့က ကြံလိုသောညောင်သီးအနည်း ငယ်ကိုသာ တည်ခင်းပေးနိုင်၏။ ထိုသီးနှံတို့မှာလည်း ဖန်ဖန်ခါးခါး နှင့် အရသာသြဇာမရှိချေ။ အကြောင်းကိုမေးလျှောက်သော် ရသေ့က "ဘုရင်နှင့်ပြည်သူတွေ တရားပျက်လို့" ဟု ပြောကြား၏။

ရှင်ဘုရင်သည် ကိုယ်တိုင်ကိုယ်ကျမြင်တွေ့ခဲ့ရပြီဖြစ်၍ တိုင်း ပြည်ကို တရားနှင့်အညီပြန်လည်အုပ်စိုး၏။ တိုင်းပြည်တစ်ဖန် စည် ပင်ဝပြောလာလေ၏။ (စတုက္ကနိပါတ်၊ ရာဇောဝါဒဇာတ်)

## သစ္စာ၏စွမ်းရည်

'မှန်ကန်ခြင်း' သည် အင်အားတစ်ရပ်ဖြစ်၏။ သစ္စာ၏ စွမ်းအား သည် အံ့မခန်းလိလိကြီးမား၏။

၂ နှင့် ၂ ပေါင်းလျှင် ၄ ဖြစ်သည်ဟူသော မှန်ကန်မှုမျိုးကို အခြေ ခံ၍ သင်္ချာပညာသည် ယနေ့ကမ္ဘာကို လွှမ်းမိုးနေ၏။ သိပ္ပံပညာကို သင်္ချာက ရှေ့ဆောင်နေ၏။ သင်္ချာ၏ သားငယ်ဟုဆိုအပ်သော ကွန် ပျူတာသည် ယနေ့ခေတ်သစ်ကို တည်ဆောက်လျက်ရှိ၏။

ရူပဗေဒ၊ ဓာတုဗေဒ၊ ဇီဝဗေဒ၊ စက်မှုပညာ၊ ဆေးပညာ စသော သိပ္ပံပညာရပ်များသည် ရုပ်တရား၏ မှန်ကန်သောအချက်အလက်များကိုအသုံးပြု၍ ပြည်သူတို့၏ အကျိုးကို အံ့မခန်းအောင်သယ်ပိုးထမ်းရွက်နေကြ၏။ တိုက်ချင်းပစ်ဒုံးပျံများ၊ လသွားအာကာသယာဉ်များ၊ အခြားဂြိုဟ်များကိုစုံစမ်းသည့် အာကာသယာဉ်များ၊ အဏုမြူဗုံးများ၊ လေယာဉ်ပျံကြီးများ၊ သင်္ဘောကြီးများ စသည်တို့ကိုထောက်ရှုလျှင် သမုတိသစ္စာ၏ စွမ်းရည်သတ္တိသည်အလွန်ကြီးကျယ်ကြောင်း သိသာနိုင်၏။

သမုတိသစ္စာ၏ စွမ်းရည်ထက် ပရမတ္ထသစ္စာစွမ်းရည်သတ္တိက ပို၍ထက်မြက်စူးရှမည်ကို ခန့်မှန်းကြည့်နိုင်၏။ ရုပ်စွမ်းရည်ထက် နာမ်စွမ်းရည်က ပို၍ကြီးကျယ်၏။

**စိတ္တေန နီယျတိလောကော။**

စိတ်သည် လောကကို ဦးဆောင်နေ၏။

**စိတ္တေန ပရိကဿတိ။**

စိတ်သည် လောကကိုဆွဲခေါ်နေ၏။

**စိတ္တဿကေဓမ္မဿသဗ္ဗေဝ ဝသမန္ဝဂူတိ။**

အလုံးစုံသောတရားတို့သည် စိတ်ဟုဆိုအပ်သော တစ်ခုသောတရား၏အလိုသို့ အစဉ်လိုက်ပါကြကုန်၏။

ဤအချက်တို့ကိုထောက်ရှုလျှင် နာမ်စွမ်းအားသည် ရုပ်စွမ်းအားထက် အဆပေါင်းများစွာ ပို၍ထက်မြက်ကြောင်း သိသာနိုင်၏။

ဗုဒ္ဓမြတ်စွာ၏ အထက်ပါမြွက်ဆိုချက်များကို ယနေ့စိတ်ပညာရှင်များကလည်း အင်တိုက်အားတိုက်ထောက်ခံနေကြ၏။

"စိတ်တွင် အနန္တ စွမ်းအားရှိ၏။ စိတ်သည် အရာရာကိုပြဌာန်းနိုင်၏။ ချမ်းသာခြင်း, ဆင်းရဲခြင်းတို့သည် စိတ်မှစတင်၏။ စိတ်ကသာ တကယ်ယုံကြည်လျှင် တောင်ကြီးကိုပင် ရွေ့လျားစေနိုင်၏" စသည်ဖြင့် စိတ်ပညာရှင်တို့က ရဲရဲတောက်မိန့်ဆိုနေကြလေပြီ။

ပင်လယ်ဆားငန်ရေကို ရေချိုဖြစ်အောင်၊ သဲကန္တာရကို ယာခင်းစိမ်းစိမ်းဖြစ်အောင်၊ မီးသွေးခဲတက်ကာဗွန်ကို စိန်တုံးဖြစ်အောင် သိပ္ပံပညာက စွမ်းဆောင်နိုင်၏။ ထိုသိပ္ပံပညာကို စိတ်ကချုပ်ထိန်းထားသဖြင့် စိတ်တွင် အနန္တ တန်ခိုးသတ္တိရှိသည်ကို စိတ်ပညာရှင်တို့က မျက်ဝါးထင်ထင် သိမြင်ခဲ့ရပြီဖြစ်၏။

သစ္စာသည် နာမ်စွမ်းအားတစ်ရပ်ဖြစ်၏။ သစ္စာက လမ်းခင်းပေးသော ဖြောင့်မတ်တည်ကြည်သည့်စိတ်တွင် ထူးခြားသော တန်ခိုးသတ္တိများ ရှိလာ၏။ သီလ၏စွမ်းရည်နှင့် ရတနာ့ဂုဏ်တို့၏စွမ်းရည်တို့က ပံ့ပိုးပေးလိုက်သည့်အခါ အံ့ချီးဖွယ်ကောင်းအောင် အစွမ်းသတ္တိထင်ပေါ်လာ၏။

ထို့ကြောင့် သစ္စာသည် လောင်နေသောမီးကို ငြိမ်းသတ်နိုင်၏၊
စီးနေသောရေကို ရပ်တန့်စေနိုင်၏၊ အညာဆန်တက်စေနိုင်၏၊
အဆိပ်ကို ရေဖြစ်စေနိုင်၏၊ ရေကို ဆေးဖြစ်စေနိုင်၏၊
မရွာသည့်မိုးကို ရွာစေနိုင်၏၊ ရွာသည့်မိုးကို ရပ်စေနိုင်၏၊
ရောဂါအမျိုးမျိုးကို ပျောက်ကင်းစေနိုင်၏၊
ဘေးအန္တရာယ်အသွယ်သွယ်ကိုလည်း ကာကွယ်ပေးနိုင်၏၊
ဘေးကျပ်နံကျပ်အခြေအနေဆိုးများကိုကျော်လွန်စေနိုင်၏၊
ကောင်းမြတ်သောအကြံအစည်များကို အောင်မြင်စေနိုင်၏။

**သစ္စာနှင့်တူသောစွမ်းအားမည်သည် မရှိ။**
**သစ္စာက မစွမ်းဆောင်ပေးနိုင်သောအရာသည်လည်း မရှိ။**

## သစ္စာစောင့်သူကို သစ္စာကပြန်စောင့်

ဗာရာဏသီပြည်၌ ဒေဝဒတ်လောင်းဖြစ်သော ဗြဟ္မဒတ်မင်း ထီးနန်းစိုးစံစဉ် ဘုရားလောင်းသည် ထိုမင်း၏သားတော် **မဟာပဒုမမင်းသား** ဖြစ်၏။ သံသရာခရီးတစ်ကွေ့တွင် ဒေဝဒတ်လောင်းနှင့် ဘုရားလောင်းတို့သည် အဖေနှင့်သားအဖြစ် ဆုံတွေ့ရသောဇာတ်လမ်းတစ်ခု ဖြစ်၏။

မဟာပဒုမမင်းသားသည် တက္ကသိုလ်ပြည်၌ ပညာသင်ကြားပြီးနောက် ပြည်တော်သို့ပြန်ရောက်လာ၏။ အတတ်ပညာ အလိမ္မာတို့နှင့် ပြည့်စုံသောသားတော်ကို ခမည်းတော်က အိမ်ရှေ့မင်းအရာကို အပ်နှင်းလိုက်၏။

များမကြာမီပင် အိမ်ရှေ့မင်း၏မယ်တော် နတ်ရွာစံသွားသဖြင့် ခမည်းတော်မင်းကြီးသည် အခြားမင်းသမီးတစ်ပါးကို မိဖုရားကြီးအဖြစ် တင်မြှောက်လိုက်၏။ ဤမိဖုရားကြီးကား စိဉ္စမာနဝိကာလောင်းလျာပေတည်း။

တစ်နေ့တွင် တိုင်းပြည်၏နယ်စွန်ရပ်ဖျား၌ သူပုန်ထသဖြင့် မင်းကြီး ထွက်၍နှိမ်နင်းရ၏။ ထိုအခါ မင်းကြီးသည် သားတော်အား တိုင်းပြည်အုပ်ချုပ်ရန်တာဝန်ကို လွှဲအပ်ထားခဲ့၏။

သူပုန်ရန်ကို နှိမ်နင်းအောင်မြင်ပြီးသောအခါ မင်းကြီးသည် နေပြည်တော်သို့ပြန်လာပြီး မြို့ပြင်၌ စစ်တပ်ချ၍ ယာယီစံမြန်းတော်မူ၏။

ထိုသတင်းကိုကြားသိရသောအခါ မဟာပဒုမမင်းသားသည် မြို့တော်ကိုလှပစွာတန်ဆာဆင်၍ နန်းတော်ကိုလည်း ခမ်းနားတင့်တယ်အောင် ဆင်ယင်စေ၏။ ထို့နောက် မယ်တော်အရာ၌တည်သော မိဖုရားကြီးအား သတင်းပို့ရန် မင်းသားတစ်ဦးတည်း နန်းတွင်းဆောင်သို့ ဝင်သွား၏။

မိဖုရားကြီးသည် နုပျိုခန့်ညား၍ အလွန်ကျက်သရေရှိသောမင်းသားကိုမြင်လေလျှင် ကာမဂုဏ်စိတ်ယိုဖိတ်သဖြင့် မင်းသားအား မိမိနှင့်ပျော်ပါးရန် အမျိုးမျိုးမြူဆွယ်၏။ ချော့မြူ၍မအောင်မြင်သည့်အခါ ပွင့်ပွင့်လင်းလင်းစကားဆို၍ဖိတ်ခေါ်၏။ သို့သော်မင်းသားသည် ခမည်းတော်အား သစ္စာမဖောက်လို၊ အတင်းငြင်းဆို၍ မိဖုရားထံပါးမှ ထွက်ခွာခဲ့၏။

မိဖုရားကြီးသည် မိမိ၏အကြံအစည် မအောင်မြင်သောအခါ အလွန်မကျေမနပ်ဖြစ်၏၊ စိတ်ဆိုး၏၊ ရှက်လည်းရှက်၏၊ သစ္စာမဲ့သူတို့၏လမ်းစဉ်အတိုင်း မိမိအလိုသို့မလိုက်ပါသောခလုတ်ကန်သင်းကို လမ်းရှင်းပစ်ရန် ကြံစည်၏။

သို့အတွက် မင်းကြီးရောက်လာသည့်အခါ မင်းကြီး၏ခြေတော်အစုံကို သိုင်းဖက်၍ ရှိုက်ကြီးတငင်ငိုကြွေးကာ အိမ်ရှေ့မင်းသားသည် မင်းကြီးမရှိခိုက်သူ့အားအဓမ္မပြုကျင့်ရန် ကြံစည်ကြောင်း၊ သူ့အလိုသို့မလိုက်ပါခဲ့သဖြင့် ရိုက်ပုတ်, ထုထောင်း, ကန်ကျောက်ခံရကြောင်းတို့ကို သနားစဖွယ်တိုင်ကြားလေ၏။

ဗျာပါလိုက်ဆူ၊ သည်းအူပြတ်မျှ၊ ငိုကြွေးချက်မနှင့် အချက်ကျကျသရုပ်ပါပါ အသည်းခိုက်၍ စိတ်နာကြည်းအောင် သံတော်ဦးတင်

နေသည့် ချစ်ဇနီး၏ စကားကိုကြားရလျှင် မင်းကြီးသည် ဒေါသမီး ထလောင်ကာ...

"အိမ်ရှေ့မင်းသားကို ဖမ်းကြ၊ ကမ်းပါးပြတ်ကနေ ဦးခေါင်းဇောက်ထိုး ပစ်ချကြ"ဟု တစ်ချက်လွှတ်အမိန့်ကို မင်းချင်းတို့အား ပေးလိုက်လေ၏။

တိုင်းသူပြည်သားအပေါင်းတို့ ခယတောင်းပန်လို့မရတော့။ မင်းတို့၏ စကားသည် ထွက်ပြီးသည့်ဆင်စွယ် ပြန်ဝင်တယ်လို့မရှိသကဲ့သို့ ထွက်ပြီးတိုင်း တည်လေ၏။ ဒေဝဒတ်လောင်းက ဘုရားလောင်းကို အပိုင်ထိုးသတ်သည့်ပွဲအလှည့်ပေတည်း။

သစ္စာရှင်ဖြစ်သော ဘုရားလောင်းမင်းသားသည် စိတ်တုန်လှုပ်ချောက်ချားခြင်းမရှိချေ။ မိမိစောင့်ထိန်းထားသော သီလနှင့် သစ္စာသည် မိမိအား ကောင်းရာသုဂတိသို့သာ ပို့ဆောင်မည်ကို ယုံကြည်၏။ ထို့ကြောင့် သီလမြေပေါ်တွင် ရပ်တည်လျက်သစ္စာပြု၏။

"ကျွန်ုပ်သည် သီလကို ဖြူစင်စွာစောင့်ထိန်းခဲ့၏၊ ခမည်းတော်အပေါ်၌လည်း သစ္စာစောင့်သိခဲ့၏၊ မိဖုရားကြီးအား ပြစ်မှားလိုသော စိတ် အလျဉ်းမရှိခဲ့ပါ။ ဤမှန်သောသစ္စာစကားကြောင့် ကျွန်ုပ် အပေါ်သို့ ကျရောက်လတ္တံ့သောဘေးအန္တရာယ်သည် ပပျောက်ပါစေသတည်း"

တောစောင့်နတ် တောင်စောင့်နတ်တို့အားလည်း မေတ္တာပို့သ၏။ ထိုအခါ တောင်စောင့်နတ်က မနေနိုင်။ ချက်ချင်းလာ၍ ကမ်းပါးပြတ်မှဇောက်ထိုးကျလာသော မဟာပဒုမမင်းသားကို ခံယူပွေ့ချီပြီး တောင်ခြေရင်း၌ချထားပေးရ၏။ မင်းသားသည် ဟိမဝန္တာ

တောသို့ဝင်၍ ရသေ့ရဟန်းပြုကာ သမထဘာဝနာကိုပွားများအား ထုတ်၏။ မကြာမီ ဈာန်အဘိညာဉ်ရရှိလေတော့၏။

**ဓမ္မောဟဝေ ရက္ခတိဓမ္မစာရိံ။**
**တရားစောင့်သူကို တရားကပြန်စောင့်၏။**
**သစ္စာစောင့်သိသူကို သစ္စာက ပြန်စောင့်ရှောက်၏။**

## သစ္စာဖောက်တို့၏သွားရာလမ်း

တစ်နေ့သ၌ မုဆိုးတစ်ယောက်သည် ဟိမဝန္တာတောထဲ၌ အမဲလိုက်စဉ် မဟာပဒုမရသေ့ပျို၏ ကျောင်းသခ်မ်းကလေးသို့ ရောက်လာ၏။ အသားအရေစိုပြည်ဝင်းဝါကာ ကြီးမားသည့်လက္ခဏာသိက္ခာတို့ဖြင့် သီတင်းသုံးနေသည့် ရသေ့ပျိုကို မုဆိုးက တုပ်ဝပ်ရှိခိုးပြီး စကားပြောဆိုခဲ့ရ၏။

ဗာရာဏသီပြည်သို့ မုဆိုးပြန်ရောက်သည့်အခါ ဗြဟ္မဒတ်မင်းကြီးထံ အခစားဝင်၍ မဟာပဒုမမင်းသားကိုတွေ့ခဲ့ရသည့်အကြောင်း လျှောက်ကြားလေ၏။

မင်းကြီးသည် သားတော်အားလွမ်းဆွတ်သတိရပြီး မိမိ၏အမှားကိုလည်း မြင်သိလာလေ၏။ ထို့ကြောင့် စစ်တပ်ဖွဲ့ကာ ဟိမဝန္တာတောသို့ဝင်၏။ သားတော်အား ဖူးတွေ့ပြီးနောက် မိမိအားခွင့်လွှတ်ရန် တောင်းပန်၏။ သားရသေ့က အစကနဦးကပင် ခွင့်လွှတ်ခဲ့ပြီးကြောင်းကို မိန့်ဆို၏။

သစ္စာရှင်တို့မည်သည် ရန်ငြိုးဖွဲ့ခြင်းမရှိ။ အမှန်တရားကိုမမြင်သိနိုင်သူတို့အား ရန်ငြိုးထားသိုပြီး ကလဲ့စားချေခြင်းသည် အကျိုး

မရှိ။ သံသရာတွင် အတုံ့အလှည့် ရှုံးချည်နိုင်ချည်သာရှိပြီး သံသရာရှည်စေသောအလုပ်ဖြစ်၏။ အပြန်တစ်ရာခွင့်လွှတ်ခြင်းသည်သာ သစ္စာလမ်းဖြစ်၏။

ဗြဟ္မဒတ်မင်းကြီးက သားတော်အား နေပြည်တော်ပြန်၍ မင်းပြုရန် တောင်းပန်တိုက်တွန်း၏။ လောကလူ့ဘောင်၏အရှုပ်အထွေးထဲမှ ကံကောင်းမ၍ရုန်းထွက်နိုင်ခဲ့ပြီး ကာမဂုဏ်စည်းစိမ် ထီးနန်းစည်းစိမ်တို့နှင့် မလဲလှယ်နိုင်သော ဈာန်ချမ်းသာကို ခံစားနေရသည့် မဟာပဒုမရသေ့သည် တည်တည်ငြိမ်ငြိမ်ပင် ငြင်းဆိုလိုက်၏။ မင်းကြီးအား မိမိသစ္စာစောင့်ထိန်းခဲ့ကြောင်းကိုလည်း ပြောပြလိုက်၏။

အပြန်ခရီး၌ မင်းကြီးသည် သားတော်နှင့်ကွဲကွာကွေကွင်းရခြင်းမှာ မလိုတမာလိမ်ညာလှည့်စား၍ လျှောက်ထားသည့် မိဖုရားခေါင်ကြောင့်ဖြစ်ကြောင်း တွေးမိ၏။ "ငါ့ကျေးဇူးသစ္စာကိုသော်မှု မစောင့်၊ ငါ့ရဲ့တစ်ဦးတည်းသော ရင်သွေးရစ်နှစ်ကိုပင် သေအောင် ကြံဆောင်ရက်လေသည်၊ သစ္စာဖောက်မိန်းမယုတ်ကို မိဖုရားဆက်လုပ်၍ အဘယ်အကျိုးရှိအံ့နည်း"

"မှူးမတ်များ...မိဖုရားကြီးကိုဖမ်းပြီး ခိုးသူများကိုပစ်ချရာ ကမ်းပါးပြတ်မှ ဦးခေါင်းဇောက်ထိုး ပစ်ချကြလော့"

သစ္စာဖောက်ဖျက်သူကို မည်သည့်နတ်ကမျှ မစောင်မ မကူညီချေ။ မိမိထောင်ဖမ်းခဲ့သည့်ကျော့ကွင်းထဲသို့ ကျရောက်ရသူပမာ မိမိအကွက်ဆင်ခဲ့သည့်နည်းလမ်းဖြင့်ပင် မရှုမလှသေပွဲဝင်ရလေတော့၏။

မဟာပဒုမမင်းသားက ဂေါတမမြတ်စွာဘုရားဖြစ်လာသည့် အချိန်၌ မတော်မတရားစွပ်စွဲခဲ့သည့် ဗြဟ္မဒတ်မင်း၏မိဖုရားကြီးသည်

**စိဋ္ဌမာနဝိကာ** ဖြစ်လာ၏။ သံသရာတစ်ကွေ့တွင် ပြန်လည်ဆုံတွေ့ရခြင်းဖြစ်၏။ သံသရာ မည်မျှပင်ရှည်ကြာပါသော်လည်း ရန်ငြိုးသိုထားသူ၏ စိတ်အစဉ်တွင် ရန်ငြိုးမျိုးစေ့သတ္တိသည် ကိန်းအောင်းပါရှိလာသည်သာ ဖြစ်၏။

စိဋ္ဌမာနဝိကာသည် ရှေးရှေးဘဝများကကုသိုလ်ကံ၏အရှိန်အဝါကြောင့် မြတ်ဗုဒ္ဓသာသနာတွင် နတ်သမီးတမျှ လှပချောမောသူတစ်ဦး ဖြစ်လာ၏။ သို့သော် သစ္စာလမ်းကိုသွေဖည်ခဲ့သူတစ်ဦးဖြစ်သည်နှင့်အညီ ဗုဒ္ဓဘာသာတွင် မသက်ဝင်မယုံကြည်နိုင်ဘဲ မြတ်စွာဘုရား၏ဘုန်းကျက်သရေကိုညှိုးနွမ်းစေမည့် တိတ္ထိတို့၏အကြံအစည်တွင် ရောရောရှုရှုပါဝင်လေ၏။

စိဋ္ဌမာနပရိဗိုဇ်မသည် ကိုယ်ဝန်အရင့်အမာရှိလေဟန် ဘဲဥထက်ခြမ်းပုံ သစ်သားတုံးကို ရင်၌ဖွဲ့ချည်ပြီးလျှင် နီမြန်းသောအဝတ်ကိုဝတ်ရုံ၏။ ခြေဖမိုးလက်ဖမိုးတို့ကို မွေးဖွားခါနီးမိန်းမ၏ခြေလက်ကဲ့သို့ ရောင်ရမ်းနေအောင် နွားရိုးဖြင့်ထုနှက်ထား၏။ မျက်စိမျက်နှာကိုလည်း ပင်ပန်းနွမ်းနယ်နေသည့် အမျိုးသမီးအသွင် ဟန်ပြင်ထား၏။

မြတ်စွာဘုရားသည် ညနေချမ်းအခါဝယ် ဇေတဝန်ကျောင်းတော်၌ ပရိသတ်လေးပါးတို့အား တရားဟောနေကျအတိုင်း တရားဟောနေတော်မူ၏။ စိဋ္ဌမာနဝိကာသည် ပရိသတ်ရှေ့မှောက်သို့ဝင်ရောက်လာပြီးသော် ဘုရားရှင်၏ ရှေ့တည့်တည့်၌ရပ်လိုက်၏။ ထဘီအောက်စကို စွန်တောင်ဆွဲ၍ ညာလက်ညှိုးဖြင့် ဘုရားရှင်ကို ညွှန်ထိုးကာ

"ရဟန်းကြီး ...သင်သည် လူအပေါင်းတို့အား တရားဟောကာဖြင့် အချိန်ကုန်စေဘိ၏၊ ကျွန်တော်မမှာ သင်ရဟန်းကြီးကိုစွဲ၍

ကိုယ်ဝန်ရရှိကာ ယခုအခါ ရင့်ကျက်သောကိုယ်ဝန်ရှိသူဖြစ်ရလေပြီ။ သင်ရဟန်းကြီးကား ကျွန်တော်မအတွက် သားဖွားရန် အိမ်ကိုလဲ မစဉ်းစား၊ ထောပတ်ဆီစသည်များကိုလဲ မစဉ်းစား၊ နေအားဘိ၏။ ထိုကိစ္စများကို ကိုယ်တိုင်မပြုလုပ်လိုလျှင်လည်း မိမိ၏အလုပ် အကျွေး ဒါယကာ, ဒါယိကာမများအနက်မှ ကောသလမင်းကိုဖြစ်စေ၊ အနာထပိဏ်သူဌေးကိုဖြစ်စေ၊ ဝိသာခါကျောင်းအမကိုဖြစ်စေ တစ်ဦးဦးကို ပြောဆိုအပ်နှင်းသင့်၏။ ထိုသို့လဲ မပြောကြားခဲ့။ သင်ရဟန်းကြီးကား မွေ့လျော်ပျော်ပါးဖို့ရန်သာစဉ်းစား၍ ကိုယ်ဝန်သားကို စောင့်ရှောက်ရန်ကိုကား မစဉ်းစားလေယောင်တကား"

စိဉ္စမာနဝိကာ၏ အချက်အလက်ပိုင်ပိုင်ဖြင့် ဆွဲကိုင်၍စွပ်စွဲလိုက်ခြင်းသည် ဒုတိယကမ္ဘာစစ်အတွင်းက ဟီရိုရှီးမားမြို့ပေါ်၌ အဏုမြူဗုံး ပေါက်ကွဲသည်ထက်ပင် ဆိုးရွားချေ၏။ ပရိသတ်အားလုံး ကြောင်အမ်းငေးငိုင်သွားကြ၏။

အကြီးကျယ်ဆုံးသောသစ္စာရှင်ကို အမမှုစကားကြောင့် ယိမ်းယိုင်ပြိုလဲအောင် ထိုးနှက်နေလေပြီ။ ဘုရားရှင်သည် ဟောလက်စတရားစကားကို ခေတ္တရပ်နား၍ တည်ကြည်အေးဆေးစွာပင် စကားတုံ့ပြန်လိုက်၏။

"နှမစိဉ္စမာန ...သင်ယခုပြောကြားအပ်သောစကား၏မှန်သောအဖြစ်၊ မမှန်ကန်သောအဖြစ်ကို သင်နှင့်ငါတို့သာ သိကြကုန်၏"

စိဉ္စမာနကား အလျှော့မပေး။ "ဟုတ်ပေသည်ရဟန်းကြီး၊ သင်နှင့်ငါတို့နှစ်ဦးသာ သိကြသောကြောင့်ပင် ယခုလို ကိုယ်ဝန်ရင့်မာမှု ဖြစ်ရလေသည်"ဟု ထပ်မံစွပ်စွဲပြန်၏။

ဉာဏ်ပညာနည်းပါးကြသည့် ပရိသတ်အချို့ကမူ ဟုတ်မှန်လေသလားဟု သံသယဖြစ်လာကြ၏။ ထိုအခါ သိကြားမင်း၏ နေရာပဏ္ဍုကမ္ဗလာမြကျောက်ဖျာသည် ပူနွေးတင်းမာလာ၏။ သိကြားမင်းဆင်ခြင်လိုက်သည့်အခါ အကြောင်းမှန်ကိုသိမြင်သဖြင့် နတ်သားလေးယောက်နှင့်အတူ ဆင်းလာ၏။

သစ္စာ၏ လျှို့ဝှက်စွမ်းအားကို ကြိုတင်မမြင်သိခဲ့သော စိဉ္စမာနသည် ကျောက်ခါးပန်းကြီးကိုဦးခေါင်းနှင့်ပြေးဆောင့်သူပမာ အထိနာရပြန်လေပြီ။

နတ်သားလေးယောက်တို့သည် ကြွက်ငယ်အယောင်ဆောင်ကြပြီးနောက် စိဉ္စမာနဖွဲ့ချည်ထားသောကြိုးများကို တစ်ပြိုင်နက်ကိုက်ဖြတ်ကြကုန်၏။ သစ်သားခြမ်းကြီး ပြုတ်ကျသွားလေရာ စိဉ္စမာန၏ခြေဖမိုးများကိုထိခိုက်သဖြင့် ခြေဖျားနှစ်ဖက်ကျိုးသွားလေ၏။ တစ်ချိန်တည်း၌ လေနတ်သားက လေတိုက်လွှင့်၍ စိဉ္စမာန၏ ဝတ်ရုံနီကို အထက်သို့ဆွဲလှန်လိုက်သဖြင့် စိဉ္စမာန ဖုံးဖိ၍မရအောင် အလိမ်ပေါ်သွားလေ၏။

ထိုအခါတွင်မှ လူပရိသတ်တို့သည် အသက်ဝင်လှုပ်ရှားလာကြပြီး "ထွီ...ဟယ်...အယုတ်တမာမ၊ နင်ကား မြတ်စွာဘုရားကိုစွပ်စွဲဆဲရေးဘိ၏"ဟု ဝိုင်း၍တံတွေးထွေးကြ၏။ စိဉ္စမာနကို ဆွဲကိုင်၍ကျောင်းတိုက်အပြင်သို့ ဆွဲထုတ်သွားကြ၏။

ဤအကြိမ်သစ္စာဖောက်မှုကြီးကို မဟာပထဝီမြေကြီးကပင်သည်းညည်းမခံတော့။ သစ္စာဖောက်မကို ပင့်ချီထားရသည်မှာလေးလံလွန်းလှသည့်ဟန်ဖြင့် ကွဲဟသွားလေ၏။ အဝီစိငရဲကြီးမှ မီးတောက်မီးလျှံတို့သည်လည်း အရှိန်ပြင်းစွာထိုးတက်လာကြပြီးလျှင်

စိဋ္ဌမာနကို လွှမ်းခြုံလိုက်ကြ၏။ စိဋ္ဌမာနသည် ငရဲမီးလျှံဟူသည့် ဝတ်ရုံနီသစ်ကြီးကိုဆင်မြန်းလျက် အဝီစိငရဲသို့ တိုက်ရိုက်သက်ဆင်းသွားရလေ၏။

သစ္စာဖောက်တို့၏ သွားရာလမ်းကား ကြောက်ခမန်းလိလိဖြစ်ပေစွတကား။

## လုပ်အားခ မတရားမှုကလေး

တပ်ကုန်းမြို့နယ်၊ အင်ပင်ရွာမှ **ဒေါ်ဌေး** သည် ကျွဲဘဝမှလူဝင်စားလာသည်ကို အတိအကျပြောပြနိုင်သည့်အတွက် အမေရိကန်ပြည်ထောင်စုရှိ ဗာဂျီနီယာတက္ကသိုလ်မှ ပါမောက္ခဒေါက်တာစတီဗင်ဆင်ကိုယ်တိုင် လာရောက်ကာ မေးမြန်းခဲ့ဖူး၏။ ဒေါ်ဌေးသည် မွေးဖွားလာစအချိန်ကတည်းက ဦးခေါင်း၏ ချိုစောင်းနေရာတွင် အဖုနှစ်ဖုပါရှိလာ၏။ ထိုအဖုတို့သည် ကျွဲချိုများပေါက်သည့်နေရာလောက်၌ ရှိကြသဖြင့် ကျွဲချိုရာဟုပင် ထင်မှတ်စရာရှိ၏။

ဖြစ်ပုံမှာ ဤသို့တည်း။ ဒေါ်ဌေးသည် လွန်ခဲ့သောဘဝက ညောင်ပင်ကြီးရွာတွင် ဦးသက်ထား၏ ဇနီး ဒေါ်မြဖြစ်ခဲ့၏။ ဒေါ်မြသည် လူငှားများဖြင့် တောင်ယာလုပ်သောအလုပ်ကို ကြီးကြပ်ရ၏။ လူငှားများတွင် အသက် ၁၃ နှစ်အရွယ်ရှိ မသိန်းတင်နှင့်သူမ၏ မိခင်တို့လည်း ပါဝင်ကြ၏။

မသိန်းတင်တို့၏ မိသားစုသည် ဆင်းရဲနွမ်းပါး၏။ မိသားစု၏ စားဝတ်နေမှုအဆင်ပြေရေးအတွက် မသိန်းတင်သည် လူကြီးတို့နှင့်ရင်ပေါင်တန်း၍လုပ်၏။ လူကြီးလုပ်ခန့်မှန်းထားအတိုင်း ရရှိရန် ကြိုးပမ်း၍လုပ်ကိုင်ခြင်းဖြစ်၏။ သို့သော် ဒေါ်မြက လုပ်ခရှင်းပေးသော

အခါ မသိန်းတင်အား ကလေးပဲဟုအကြောင်းပြပြီး လူကြီးနှုန်း အောက် ဆန်တစ်တင်းလျှော့၍ပေး၏။

မသိန်းတင်နှင့်မိခင်တို့က လူကြီးများနည်းတူ မသိန်းတင်အလုပ် လုပ်ခဲ့သဖြင့် လူကြီးနှုန်းထားအတိုင်း လုပ်ခပေးရန် တောင်းပန်ကြ ၏။ ဒေါ်မြကမလိုက်လျောချေ။

ဤမတရားမှုမျိုးသည် လောကဌ်မကြာခဏဖြစ်ပေါ်တတ်၏။ လူတို့က အရေးမကြီးဟု ထင်မှတ်ကြ၏။ သစ္စာလမ်းစဉ်ကား မေ့ လျော့သူတို့ကို သက်သာခွင့်မပေးပါ။ ဖြစ်ရိုးဓမ္မတာအတိုင်း ဖြောင့် ဖြောင့် တန်းတန်းဖြစ်စေသည်သာတည်း။

မကြာမြင့်မီတွင် ဒေါ်မြကွယ်လွန်၏။ နောက်နှစ်နှစ်ကြာသော အခါ မသိန်းတင်သည် အရွယ်ရောက်လာပြီးဖြစ်၍ အိမ်ထောင်ကျ ၏။ တစ်ညဉ့်၌ မသိန်းတင်အိပ်ပျော်နေစဉ် ဒေါ်မြကလာပြီး "နင်တို့ နဲ့ ငါလာနေပါရစေ"ဟုတောင်းပန်၏။ မသိန်းတင်က ဒေါ်မြအား မကျေနပ်ခဲ့သူဖြစ်၍ ခပ်မာမာတင်းတင်းပင် နေလိုက်ကြောင်းကို အိပ်မက်မြင်မက်၏။

ထိုသို့အိပ်မက်မက်ပြီးသည့်နောက် မသိန်းတင်တို့၏ခြံထဲရှိကျွဲမ ကြီးတွင် ဧးကပ်လာ၏။ နေ့လစေ့သည့်အခါ ကျွဲမကလေး တစ် ကောင်ကို မွေးဖွား၏။ ကျွဲမကလေးကို 'ယိုင်းမ'ဟု ခေါ်ကြ၏။

ယိုင်းမသည် ကြီးပြင်းလာသောအခါ ကျွဲကလေး လေးကောင် မွေးဖွားပေးခဲ့၏။ တစ်ညဉ့်တွင် မသိန်းတင်အိပ်မက်မက်ပြန်၏။ ဤအကြိမ်တွင် ယိုင်းမက မသိန်းတင်ထံလာပြီး သူ့အသားကိုယူပါ ဟု လာပေးသည်ဆို၏။

မကြာမီ ယိုင်းမသေပြီး မသိန်းတင်ကိုယ်ဝန်ရလာ၏။ လရက်

စေ့သော် သမီးကလေးမဌေးကို မွေး၏။ မွေးကတည်းက ဦးခေါင်းတွင် ကျွဲချိုရာအဖုကလေးနှစ်ခု ပါလာ၏။ မသိန်းတင်က အဖြစ်မှန်ကိုမတွေးမိသေး။ မဌေးကလေး သုံးနှစ်, လေးနှစ်အရွယ်သို့ ရောက်လာပြီးသောအခါ သူမသည် ယိုင်းမဘဝမှ လူဝင်စားလာကြောင်း၊ ယိုင်းမ, မဖြစ်မီက ညောင်ပင်ကြီးရွာတွင် ဒေါ်မြဖြစ်ခဲ့ရကြောင်းကို ပြောပြ၏။ ထိုအခါတွင်မှ ဇာတ်ကြောင်းလိပ်ပတ်လည်သွားလေ၏။

မိခင်မသိန်းတင်နှင့် သမီးမဌေးတို့သည် အတိတ်ဘဝက ကဏ္ဍာကောစ ဖြစ်ခဲ့ကြသည့်အတွက် ယခုဘဝတွင်လည်း ခပ်တန်းတန်းပင် ဆက်ဆံကြ၏။

မဌေး ၁၂ နှစ်သမီးအရွယ်တွင် မိခင်က တာဝန်ပေးသဖြင့် လယ်ကွင်းတွင် ကျွဲကျောင်းရ၏။ ကျွဲကျောင်းရင်း ထိုင်ငိုနေသည့်အတွက် မိခင်က စိတ်ပူပန်မိပြီး လာရောက်စုံစမ်း၏။

"ဟဲ့...သမီး၊ ဘာဖြစ်လို့ ငိုတာလဲ၊ ဆူးစူးလို့လား၊ မြွေကိုက်လို့လား"

"မဟုတ်ဘူး၊ ကျွဲခလောက်သံကြားလို့ သားတွေကို သတိရပြီး ငိုတာပါ"

"ဟဲ့...ဘယ်ကသားတွေလဲ"

"ယိုင်းမဘဝက ကျွဲသားကလေးတွေပါ၊ သားတွေနဲ့ လယ်ကွင်းထဲမှာ အတူတူမြက်စားခဲ့ရတာကို သတိရမိတော့ သိပ်လွမ်းတာပဲ"

ဘဝသံသရာကား အရိယာသစ္စာကို မတွေ့လေသေးသမျှ 'စုန်တစ်ခါ ဆန်တစ်ချက်ကယ်နဲ့ မျောလျက်ကွဲ့ယောင်ချာချာ' ရှည်ကြာနေရဦးမည်သာတည်း။

## ညီအစ်ကိုချင်းလည်း ခွင့်မလွှတ်နိုင်

သံသရာခရီးရှည်ကြီးတွင် သတ္တဝါအားလုံးသည် ခရီးသွားဖော်များသာဖြစ်ကြ၏။ သူစိမ်းတစ်ရံဆံဖြစ်လိုက်၊ သားသမီးတော်လိုက်၊ ညီအစ်ကိုတော်လိုက်၊ ညီထံမှာ အစ်ကိုကျွဲဖြစ်လိုက်နဲ့ လံကဆော့, လောကခံမှာ တပြောင်းဆန်ဆန်ဖြစ်နေကြရတာမို့ ခရီးသွားဖော်အားလုံးကို ကျောသားရင်သား, လူသားတိရစ္ဆာန်သားဟူ၍ မခွဲခြားဘဲ အညီအမျှမေတ္တာထားသင့်ကြပေ၏။

ခရီးသွားဖော်အချင်းချင်း တန်းတူညီမျှဆက်ဆံခြင်းသည် သစ္စာလမ်း ဖြစ်၏။ သစ္စာလမ်းသည် ဖြောင့်ဖြောင့်သာ သွားတတ်၏။ အကွေ့အကောက်မခံ။ ညီအစ်ကိုအရင်းဖြစ်ပေသော်လည်း မှားယွင်းမိလျှင် သစ္စာဖောက်ရာရောက်၏။ ထိုအခါ ...

မြတ်မင်္ဂလာ၊ အတွဲ ၄၊ အမှတ် ၃၊ ၁၉၈၈ ခု စက်တင်ဘာလ စာစောင်တွင်ပါသော ကသာဆွေဝင်းတင်ပြသည့် 'ကြွေး' ဇာတ်လမ်းကို အကျဉ်းချုံး၍တင်ပြပါရစေ။

တစ်ချိန်က ရွှေလီမြစ်ကမ်းဘေးရှိ သက္ကယ်ကျင်းကျေးရွာတွင် ကိုရေးနှင့်ကိုအေးအမည်တွင်သော ညီအစ်ကိုနှစ်ယောက်ရှိကြ၏။

ကိုရေးက အစ်ကို၊ ဆင်းရဲ၏။ ကိုအေးက ညီ၊ စီးပွားရေးပြေလည်၏။

တစ်ခါတွင် ကိုရေးက ကိုအေးထံ ကောက်ကြီးစပါး ၁၅ တင်း ချေးငှား၍စား၏။ စပါးသစ်ပေါ်သည့်အခါ ပေးဆပ်မည်ဟု ကတိပြုခဲ့၏။ သို့သော် ထိုနှစ်တွင် ကိုရေးမှာစီးပွားရေးပိုမိုကျပ်တည်းလာပြီး သူစိမ်းများထံမှချေးငှားထားသည့်ကြွေးများကို ဦးစားပေးကာ ဆပ်ပေးလိုက်ရသဖြင့် ညီအားပေးဆပ်ရန် စပါးမကျန်တော့ချေ။

ကိုအေးက ဘာမှမပြော။ ညီအစ်ကိုချင်းမို့ မပေးနိုင်လည်း အရေးမကြီး။ သို့သော် ကိုအေး၏မယားက ကြွေးတောင်းရန် ဆူပူတိုက်တွန်း၏။ သို့အတွက် ကိုအေးကမနေသာ၊ ကြွေးတောင်းရတော့၏။

အစ်ကိုတစ်ယောက် ဒါလောက်စီးပွားရေးကျပ်တည်းနေပါလျက်နှင့် မပေးဆပ်နိုင်သူကို ကြွေးတောင်းရက်ချေသည်။ ကရုဏာဒေါသောနှင့် စကားများကြရတော့၏။ စကားနောက်တရားပါဆိုသကဲ့သို့ ဒေါသကိုမထိန်းနိုင်ကြသဖြင့် ကိုရေးကဆိုလိုက်၏၊

"ငါဟာ မင်းအစ်ကိုအရင်းခေါက်ခေါက်ကွ။ မင်းငယ်ငယ်ကတည်းက ငါက ပြုစုစောင့်ရှောက်လာခဲ့တာ၊ မင်းက ခုမှ မယားစကားနဲ့ ငါ့ကိုပြောရက်ဆိုရက်လိုက်တာ။ မင်းစပါး ၁၅ တင်းကို ငါမပေးတော့ဘူးကွာ၊ မင်းလုပ်ချင်တာလုပ်၊ ဆိုင်ရာမှာ တိုင်ချင်ရင်လဲတိုင်၊ ငါလိုက်ရှင်းမယ်"

ကိုအေးကလည်း ဒေါသသူပုန်ထလာ၍ အစ်ကိုဟူ၍သဘောမထားနိုင်တော့ဘဲ ပြန်ချေပ၏၊

"ကျုပ်ကလဲ အစ်ကိုမို့ညှာနေတာပါ၊ ခင်ဗျားမပေးချင်လဲ နေပေါ့၊ သံသရာအရှည်ကြီးပါ၊ သံသရာက စာရင်းရှင်းသွားမှာပါ၊ ဘယ်မှပြေးမလွတ်ပါဘူးဗျာ"

ထိုသို့အချင်းဖြစ်ပွားပြီး နောက်တစ်နှစ်ခန့်အကြာတွင် ကိုရေးကွယ်လွယ်သည်။ ညီအစ်ကို သေခန်းရှင်ခန်းဖြတ်ခဲ့ကြသော်လည်း ကိုရေးကွယ်လွန်ခါနီး တစ်နာရီခန့်အလိုတွင် ဤသို့ပြောသွား၏၊

"ငါ့ညီရာ...မင်းက စိတ်ကြီးလိုက်တာ၊ ငယ်ငယ်တုန်းကလဲ ငါ့ကို စိတ်ကောက်ရင် တစ်လနှစ်လမခေါ်ဘူး၊ ငါပြောခဲ့ဆိုခဲ့တာတွေ

ကို တောင်းပန်ပါတယ်ကွာ၊ မင်းစိတ်ချမ်းသာအောင် စပါးဆယ့်ငါးတင်းကို သံသရာမှာ မပြေပြေတဲ့နည်းနဲ့ ငါဆပ်ပါ့မယ်”

သစ္စာလမ်းကြောင်းမှသွေဖည်၍ သူတစ်ပါးအား မတရားပြုခဲ့မိသောသူသည် ဤသို့လျှင် သေခါနီးအရေးကြီးသည့်အချိန်၌ ထိုမတရားမှုပေါ်လာတတ်၏။ မရဏာသန္နအာရုံအဖြစ်ထင်လာလျှင် ထိုမတရားမှုက နောက်ဘဝပဋိသန္ဓေကို အဆုံးအဖြတ်ပြုတော့မည်ဖြစ်၏။

မကောင်းမှုပြုရန် ဆိတ်ကွယ်ရာမရှိသည်ကို သတိမူသင့်ကြ၏။

ကိုအေးသည် အစ်ကိုတစ်ယောက်ကွယ်လွန်သွားသည်ကိုပင် လာရောက်သတင်းမေးဖော်မရချေ။ အလွန်စိတ်ကြီးသူ မှန်ပေ၏။ သို့သော် ကိုရေးဆုံးပြီးမကြာမီကာလအတွင်း၌ ကိုအေးအိပ်မက်မက်၏။ တစ်ကြိမ်သာမက်သည်မဟုတ်။ ခုနစ်ကြိမ်တိုင်တိုင်မက်၏။

ကိုအေးမြင်မက်သည်မှာ ကိုရေးသည် ကျွဲထမ်းပိုးတုံးကြီးကိုထမ်းပြီး ကိုယ်တုံးလုံးဖြင့် ကိုအေးအိမ်ဝင်းပေါက်မှ ဝင်လာသည်ချည်းပင်ဖြစ်၏။ ကိုအေးစိတ်မကောင်းပါ။ အစ်ကို၏ သင်္ချိုင်းသို့သွား၍ ဝန်ချတောင်းပန်လို၏။ သို့သော် မသွားဖြစ်။

ကိုရေးကွယ်လွန်ပြီး ၁၀ လခန့်ကြာသော် ကိုအေး၏ ကျွဲမကြီးမှ ကျွဲပေါက်ကလေးတစ်ကောင် မွေး၏။ ကျွဲပေါက်ကလေးသည် ကိုအေးဖြတ်သွားလျှင် ခေါင်းမော့၍မော့၍ကြည့်၏။ ကိုအေးက အမှတ်မဲ့သာနေလိုက်၏။

ကျွဲကလေးမှ ကျွဲပေါက်စဖြစ်လာ၏။ မချည်ဘဲထား၍ သွားချင်ရာသို့သွားပြီး စားချင်ရာကိုစား၏။ လယ်ထဲရှိကောက်ပင်များကို

စားမိ၍ ကိုအေး၏သားငယ်များက ရိုက်၏။ ထိုညဥ့်၌ ကိုအေး အိပ်မက်မက်ပြန်၏။ ကိုရေးသည်ကိုယ်တုံးလုံးဖြင့်ကိုအေး၏ခေါင်းရင်း၌ရပ်ပြီး ပြော၏။

"မောင်အေးရာ...မင့်သားတွေက ကောက်ပင်စားတယ်ဆိုပြီး ငါ့ကိုရိုက်လိုက်တာကွာ၊ ငါ့ကျောမှာကြိမ်လုံးရာသုံးချက်အရှိုးအရှိုးထင်နေတယ်၊ နာလိုက်တာကွာ"

ကိုအေးသည် မယုံကြည်၍ ကျွဲကလေးကိုသွားကြည့်ရာ ကျောတွင် ကြိမ်ရာသုံးချက်ကိုတွေ့ရ၏။ သူ့သားများကို မေးသောအခါ 'ရိုက်တယ်'ဟုဝန်ခံကြ၏။

ကျွဲကလေးကိုချည်၍ ကျွဲမကြီးကို နို့ညှစ်သောအခါတွင်လည်း ကိုအေးအိပ်မက်မက်ပြန်၏။

"မောင်အေးရာ...မင်းတို့က ကြိုးကြီးနဲ့ ငါ့လည်ပင်းကိုချည်ရုံတင်မကဘူး၊ ငါ့အမေဆီကပါ နို့ညှစ်ကြတော့ ငါနို့ဝအောင် မစို့ရဘူးကွာ။ တစ်ညဥ့်လုံး နို့ဆာလို့ ဝမ်းဗိုက်ကိုပူနေတာပဲ"

ကိုအေးသည် မည်သူ့ကိုမျှမပြောပြဝံ့။ ရင်ထဲတွင်သာ ကြိတ်မှိတ်၍ခံစားနေရ၏။ မကြာမြင့်မီတွင် အိပ်မက်တစ်ခု ထပ်မက်ပြန်၏။ ကိုရေးသည် ကိုယ်တုံးလုံးဖြင့် ကိုအေး၏ခေါင်းရင်း၌ရပ်လျက် မျက်နှာရှုံ့မဲ့၍ ဗိုက်ကိုလက်နှင့်အုပ်ထား၏။

"မောင်အေးရာ...မင်းတို့နေနိုင်လိုက်တာကွာ၊ ငါ့ချက်မှာအနာဖြစ်နေတယ်ကွဲ့၊ ညညကျရင် အနာကိုက်လို့မအိပ်နိုင်ဘူး၊ လျှောက်ပြေးနေရတယ်။ မင့်သားတွေက ငါ့ကိုဆော့တယ်ဆိုပြီး ရိုက်တယ်။ အနာကိုက်တာကတစ်မျိုး၊ အရိုက်ခံရတာက တစ်မျိုး၊ ငါသေရတော့မယ်။ ဆေးလေးဘာလေး ကြည့်ထည့်ပေးပါဦးကွာ"

ကိုအေးအိပ်ရာမှလန့်နိုးလာ၏။ အိပ်မက်တိုင်းမှန်နေသဖြင့် ယူကျုံးမရဖြစ်ကာ ငိုလိုက်မိ၏။ ထို့နောက် ဖန်မီးအိမ်ကိုထွန်းညှိပြီး ကျွဲကလေးရှိရာသို့ဆင်းသွား၏။

ကျွဲကလေးသည် ကျွဲမကြီးဘေးတွင်စောင်းလျက် လဲနေ၏။ ကိုအေးကို မျက်လုံးကလေးဖွင့်၍ကြည့်၏။ ကိုအေး၏ ရင်ထဲတွင် ဆို့နင့်၍သွား၏။ ကျွဲကလေး၏ ချက်ကို ကိုအေးကြည့်လိုက်သည့်အခါ ကိုင်းငုတ်ထိုးမိခဲ့သည့်အနာတစ်ခုကို တွေ့ရ၏။ အနာသည် အဝကျဉ်း သော် လည်း အ တွင်း သို့ လှိုက် စား ထား ၏။ အ နာ ဝ တွင် လောက်ကောင်သုံးကောင်ကို မြင်ရသဖြင့် ကိုအေးဖယ်ပစ်လိုက်၏။ ထို့နောက် အနာဝကို ရေနံဆီလိမ်းပေး၏။ ကျွဲကလေးသည် မျက်လုံးမှိတ်၍ ငြိမ်ခံနေ၏။

ကိုအေးသည် ကျွဲကလေးကို များစွာကရုဏာသက်မိ၏။ စကားပြောရှိသာ နားလည်မည်ဆိုလျှင် 'ခွင့်လွှတ်ပါအစ်ကိုရာ' ဟု တောင်းပန်လိုက်ချင်၏။ အမျှဝေ၍ရသော ဘဝမျိုးဖြစ်လျှင်လည်း ကိုရေးအတွက် ရည်စူး၍ ကုသိုလ်ဒါနပြုပြီး အမျှပေးဝေလိုက်မည်ဖြစ်၏။ ခုတော့ တိရစ္ဆာန်ဘဝဖြစ်နေ၍ အမျှပေးဝေ၍လည်း မရနိုင်။

ထိုညဉ့်တွင် ကိုအေးတော်ရုံနှင့် အိပ်မပျော်တော့ပေ။ တွေးရင်းဖြင့်ပင် မျက်ရည်များထိန်းမနိုင်သိမ်းမရစီးကျလာ၏။ အရုဏ်တက်ချိန်တိုင်မှ မေးခနဲ အိပ်ပျော်သွားသည်။ အိပ်ပျော်ခိုက် အိပ်မက်မက်လိုက်ပြန်သည်။ သည်တစ်ခါအိပ်မက်က ခပ်ဆန်းဆန်း...။ ကိုရေးသည် အင်္ကျီဝတ်လျက်နှင့် ကိုအေးကို ပြုံးပြုံးရွှင်ရွှင်နှုတ်ဆက်၏။

"မောင်အေးရေ...အစ်ကိုသွားတော့မယ်ဟော့၊ အစ်ကို့မှာ အပြစ်ရှိရင်လဲ ခွင့်လွှတ်ပါကွာ၊ အစ်ကိုကလဲ ငါ့ညီကို ခွင့်လွှတ်ပါတယ်၊

တစ်ခုတော့ တောင်းပန်ပါရစေ၊ ဘုန်းကြီးကျောင်းကို ဆွမ်းတစ်အုပ်ပို့ပြီး အစ်ကို့ကို ထမင်းကျွေးပါဦး၊ အစ်ကိုဘာမှမစားရသေးဘူး၊ ဆာလိုက်တာ"

ကိုအေးလန့်နိုးလာ၏။ အိပ်မက်ထဲတွင် ကိုရေးအား စကားတစ်ခွန်းမျှ မပြောလိုက်မိသည်ကို မကျေမနပ်ဖြစ်မိ၏။ အိပ်ခန်းထဲသို့ ကိုအေး၏ ဇနီးဝင်လာပြီး ...

"ကိုအေး ...ထတော့လေ၊ ဘုန်းကြီးကျောင်းက ဆွမ်းတော်ခေါင်းလောင်းတောင်ထိုးပြီ၊ နေတောင်ထွက်နေပြီလေ၊ ညက ကျွဲပေါက်ကလေး ဘာဖြစ်တယ်မသိဘူး၊ ကျွဲခြံထဲမှာ သေနေပြီ၊ သွားမြှုပ်လိုက်ပါဦး"

ကိုအေးသည် အိပ်ရာမှ ကပျာကယာလူးလဲထလိုက်၏။ ဇနီးသည်အား လှမ်းမေးလိုက်၏။

"ထမင်းဟင်းကျက်ပြီလားဟေ့"

"ကျွန်မစောစောထပြီး ချက်ထားတာ အကုန်ကျက်နေပြီ၊ စောစောကြီး စားတော့မလား၊ ဘုန်းကြီးကျောင်းအတွက် ခူးပြီးရင် စားချင်စားပေါ့"

"ဟင့်အင်း ...ငါမစားဘူး၊ ငါမဆာသေးဘူး၊ ဆွမ်းတစ်အုပ်မြန်မြန်ခူးစမ်းကွာ၊ ဒီကနေ့ ငါကိုယ်တိုင်ဘုန်းကြီးကျောင်းကို ဆွမ်းအုပ်သွားပို့မယ်၊ မြန်မြန်ပြင်လိုက်၊ ငါမျက်နှာသစ်လိုက်မယ်"

ကိုအေး၏ ဇနီးသည် ခင်ပွန်းလင်ကို နားမလည်နိုင်သောအကြည့်ဖြင့် တစ်ချက်ကြည့်ပြီး မီးဖိုခန်းဘက်သို့ လှည့်ထွက်သွား၏။ ကိုအေး၏ ရင်ထဲတွင် ပေါ့သွား၏။ နောက်ကျိနေသည့် စိတ်သည်လည်း ကြည်လင်သွား၏။

**"ဟဲ့ သူများပစ္စည်းချေးငှားစားပြီးရင် ပြန်ပေးရတယ်၊ ပြန်မပေးရင် ကြွေးပါတတ်တယ်"** ဟူသော ငယ်ငယ်တုန်းက အမေပြောခဲ့ဖူးသောစကားကို ကိုအေးပြန်ကြားယောင်မိ၏။

သူတစ်ပါးထံမှပစ္စည်း, ငွေ စသည်ကို ချေးငှားယူပြီးနောက် ပြန်မပေး, မဆပ်လျှင်ဖြစ်စေ၊ သူတစ်ပါးပစ္စည်းကို ခိုးဝှက်ယူ, ခါးပိုက်နှိုက်ယူ, အနိုင်ကျင့်ပြီးလုယူ, လိမ်ညာယူလျှင်ဖြစ်စေ၊ ပြည်သူပိုင်ပစ္စည်းများကို အလွဲသုံးစားပြုလျှင်ဖြစ်စေ သစ္စာလမ်းကိုချိုးဖောက်ခြင်းဖြစ်၍ ကံစီမံရာကို မလွှဲမရှောင်သာ ခံယူရမည်ဖြစ်သတည်း။

## ထိတ်လန့်ဖွယ်ရာလာဘ်စားမှု

**ကိုဆန္ဒဇာတ်** မှ ဖြစ်ရပ်မှန်ပုရောဟိတ်ပုဏ္ဏား၏ဇာတ်လမ်းသည် ယခုခေတ် လာဘ်စားသူတို့ အထူးဆင်ခြင်သင့်သောဇာတ်လမ်းတစ်ပုဒ် ဖြစ်၏။

ရှေးသရောအခါ ဗာရာဏသီပြည်၌ ဘုရားလောင်းဗြဟ္မဒတ်မင်းသည် တရားနှင့်အညီ စိုးမိုးအုပ်ချုပ်၏။ ပြည့်ရှင်မင်းသည် မိမိကိုယ်တိုင် ဥပုသ်သီလကို အမြဲစောင့်ထိန်းသည့်အပြင် မှူးမတ်များနှင့်ပြည်သူအပေါင်းတို့အားလည်း သီလစောင့်ထိန်းကြရန် နှိုးဆော်တိုက်တွန်း၏။

**'ရှေ့ဆောင်နွားလား ဖြောင့်ဖြောင့်သွားက နောက်ကနွားများ ဖြောင့်ဖြောင့်လိုက်၏'** ဆိုဘိသို့ ဘုရင်မင်းမြတ်ကိုယ်တိုင် ဥပုသ်စောင့်၍ အလှူအတန်းနှင့်ပျော်လိုက်သည့်အတွက် မှူးမတ်များနှင့်ပြည်သူများကလည်း ဥပုသ်စောင့်ကြ၏၊ လှူဒါန်းပေးကမ်းကြ၏။

သီလစောင့်ခြင်းနှင့် အလှူပေးခြင်းတို့သည် ခေတ်ဖက်ရှင်ဖြစ်ကာ တိုင်းပြည်ငြိမ်းချမ်းသာယာ စည်ပင်ဝပြောလေ၏။

သို့ရာတွင် စည်းဖောက်သူတစ်ဦးရှိနေ၏။ မင်း၏ပုရောဟိတ် ပုဏ္ဏားတည်း။ ပုရောဟိတ်ကြီးသည် တရားစီရင်သည့်တာဝန်ကို ရရှိထားသဖြင့် တံစိုးလက်ဆောင်ယူရန်၊ တစ်နည်း လာဘ်စားရန် အခွင့်ကောင်းရနေ၏။ ဤအခွင့်ကောင်းကို လက်မလွှတ်နိုင်။ တရားစီရင်ရာတွင် တံစိုးလက်ဆောင်ပေးနိုင်သူတို့ကို အနိုင်ပေး၍ လာဘ်မပေးနိုင်သည့်ဆင်းရဲသားများကို အရှုံးပေး၏။

ဟုတ်လျှင်ကျော်မည်၊ ပုပ်လျှင်ပေါ်မည်။ အမှန်တရားကို ဖုံးကွယ်ထား၍မရ။ တစ်ယောက်ကစ တစ်ရာ ဆိုသလို ပုရောဟိတ်လာဘ်စားသည့်သတင်းသည် လူသိရှင်ကြားဖြစ်လာ၏။ ဤသို့ လူသိများလာလေလေ ပုရောဟိတ်အတွက် လာဘ်များများဝင်လေလေ ပင်ဖြစ်၏။ အခြားပုဏ္ဏားများက "ပုရောဟိတ်ကြီး ဥပုသ်စောင့်ရဲ့လား" ဟုမေးလျှင် ပုရောဟိတ်က "ငါ နေ့အခါမှာစားတယ်၊ ညဥ့်အခါမှာ ခံတွင်းဆေးပြီး ဥပုသ်စောင့်တယ်" ဟုဖြေ၏။

ဘုရင်မင်းမြတ်က အခစားဝင်ကြသည့်မှူးမတ်များနှင့် ပုရောဟိတ်ပုဏ္ဏားတို့ကို "ဥပုသ်စောင့်ကြရဲ့လား" ဟု မေးမြန်းလျှင်လည်း ပုရောဟိတ်က "ဆောက်တည်ပါ၏" ဟုမုသားဆို၍ နန်းတော်ထက်မှ ဆင်းသက်လေ့ရှိ၏။

တစ်နေ့တွင် ဥပုသ်စောင့်နေသည့်အမျိုးသမီးတစ်ယောက်သည် တရားခွင်သို့ ရောက်လာ၏။ နေမွန်းတည့်လုပြီဖြစ်သော်လည်း တရားစစ်ဆေးခြင်းမှာ မပြီးပြတ်သေးချေ။ ထို့ကြောင့် အမျိုးသမီး

သည် မိမိ၏ဥပုသ်ကို စင်ကြယ်စေခြင်းငှာ ခံတွင်းဆေး၏။ ဤ အခြင်းအရာမြင်လျှင် ပုရောဟိတ်သည် သရက်သီးမှည့်တစ်လုံးကို အမျိုးသမီးအား စားရန်ပေး၏။ ပုရောဟိတ်၏တစ်သက်တာတွင် အလှူဒါနဆို၍ ဤတစ်ခုကိုသာပြုဖူး၏။

မကြာမီ ပုရောဟိတ်ပုဏ္ဏားကွယ်လွန်၏။ **'အိပ်သောယောက်ျား နိုးသောလားသို့'** ဟူသည့်အတိုင်း ဟိမဝန္တာတောထဲ၌ သုံးယူဇနာ ကျယ်ဝန်းသော သရက်ဥယျာဉ်ကြီးတွင် ဝေမာနိကပြိတ္တာဖြစ်ရ၏။ ထို ပြိတ္တာသည် ညဥ့်ဘက်တွင် ယခင်ဘဝက ဥပုသ်စောင့်ခဲ့ခြင်းနှင့် သရက်သီးလှူဒါန်းခဲ့သည့်အကျိုးတို့ကြောင့် ချိုမြိန်လှသောသရက် သီးများကို သုံးဆောင်ခွင့်ရသည့်အပြင် နတ်သမီး ၁၆၀၀၀ တို့၏ အလယ်၌ပျော်ရွှင်စွာစံစားရ၏။

သို့သော် အရုဏ်တက်လာလျှင် နတ်ဘုံနတ်သမီးများ ကွယ် ပျောက်ကာ ပုရောဟိတ်ပြိတ္တာ၏ လက်နှစ်ဖက်၌ ပေါက်တူးများသ ဖွယ် လက်သည်းများရှည်ထွက်လာကြပြီးလျှင် မိမိ၏ကျောက်ကုန်း သားများကို ကုတ်ဖဲ့၍စားသောက်ရ၏။ တစ်ကိုယ်လုံးမှာ သွေးများ လိမ်းကျံနေသည့်အတွက် နီတျာတျာပင်လုံးကျွတ်ပွင့်နေသော ပေါက် ပန်းပင်နှင့်တူလှတော့၏။

ထို့ကြောင့် လာဘ်စားသူကို **ကျောက်ကုန်းသားစားသူ** ဟုခေါ် ကြ၏။ လာဘ်စားခဲ့သော ပုဏ္ဏားကြီးသည် ကုသိုလ်အကုသိုလ်တို့ ၏အကျိုးပေးခြင်းကို ရောပြွမ်း၍ခံစားနေရသည့် ညဥ့်စံနေ့ခံ ဝေမာ နိကပြိတ္တာမျိုး၌ ဖြစ်၍နေရခြင်းပေတည်း။

ဗြဟ္မဒတ်မင်းကြီးသည် အရွယ်ကြီးရင့်လာသည့်အခါ ထီးနန်း ကိုစွန့်၍ ရသေ့ရဟန်းပြု၏။ တောထဲ၌ လှည့်လည်သွားလာစဉ် ထို

သရက်ဥယျာဉ်သို့ရောက်လာပြီး မိမိ၏ကျောက်ကုန်းသားကို တူးဖွဲ့စားသောက်နေသည့် ပြိတ္တာကိုမြင်ရ၏။

"အလို...သင်မည်သူနည်း၊ အဘယ့်ကြောင့် ကိုယ့်ကျောက်ကုန်းသားကို ဆင်းရဲပင်ပန်းကြီးစွာ တူးဖွဲ့၍စားနေရသနည်း"

"အို...အရှင်မင်းမြတ်၊ သင်သည် အကျွန်ုပ်ကို မမှတ်မိလေသလော၊ ကျွန်ုပ်သည် သင်၏ပုရောဟိတ်ပုဏ္ဏားဖြစ်ခဲ့သူပင်တည်း။ တံစိုးလက်ဆောင်ယူခဲ့သည့် အကုသိုလ်ကံကြောင့် ယခုလိုဆင်းရဲဒုက္ခခံနေရခြင်းဖြစ်ပါသည်"

ကုသိုလ်ကံ အကုသိုလ်ကံတို့၏ကောင်းကျိုး မကောင်းအကျိုးပေးမှုကား ဖြောင့်မတ်မှန်ကန်ခြင်းဟူသော သစ္စာသဘောသာတည်း။ သစ္စာတရားကိုမည်သူမျှဖျက်ဆီး၍မရ။ လမ်းကြောင်းပြောင်းအောင်လည်း ပြုလုပ်၍မရ။

လာဘ်စားသည့်ဘဝ၌ ပါးနပ်လှ၍ အပြစ်ဒဏ်လွတ်မြောက်နိုင်ပါသော်လည်း သစ္စာလမ်းမှသွေဖည်သွား၍မရ။

သစ္စာသဘောကိုသိနားလည်လျှင် မတရားမှုများကိုဝေးဝေးရှောင်ကြဉ်ရာ၏။ လာဘ်စားခွင့်ရနေသည့်အခိုက်၌ 'အရတော်လှ၏'ဟု ထင်မိကြမည်ဖြစ်သော်လည်း သစ္စာလမ်းကြောင်းမှသွေဖည်မှုဖြစ်၍ သစ္စာ၏အစီအရင်ကို အနေးနှင့်အမြန်ခံယူရမည်ကိုသဘောပေါက်ပြီးလျှင် လာဘ်စားခြင်းကို သံတွေခဲတွေ ရဲရဲပူပူစားမျိုရသကဲ့သို့ ထိတ်လန့်ကာ ရှောင်ရှားသင့်ပေ၏။

လာဘ်စားရသော တစ်ဘဝတာသည် ခဏကလေးမျှသာကြာ၏။ ဆင်းရဲပင်ပန်းစွာခံစားရမည့် ပြိတ္တာဘဝ, အပါယ်ဘဝကား ကမ္ဘာနှင့်ချီ၍ ရှည်ကြာနိုင်၏။

ဗိမ္ဗိသာရမင်းကြီး၏ ဆွေတော်မျိုးတော်ပြိတ္တာများသည် လွန်ခဲ့သော ၉၂ ကမ္ဘာထက်က ဖုဿမြတ်စွာဘုရားနှင့် ရဟန်းတော် ကိုးသောင်းတို့အား ဆက်ကပ်လှူဒါန်းရန် မွမ်းမံချက်ပြုတ်ထားသည့် ဆွမ်းခဲဖွယ်လျှုဖွယ်ဝတ္ထုများကို ခိုးယူစားသောက်ခဲ့ကြသောကြောင့် ၉၂ ကမ္ဘာတိုင်တိုင် ရေတစ်ပေါက်မျှမသောက်ကြရ၊ ထမင်းတစ်လုံးမျှ မစားခဲ့ကြရချေ။ အကုသိုလ်ကံ၏အကျိုးကား အလွန်ကြောက်လန့်စရာ ကောင်းပေတော့၏။

လောဘ်စားရုံမျှဖြင့် အလွန်ဆိုးဝါးသည့်အကျိုးကို ခံယူရသည်ဆိုလျှင် သူတစ်ပါးတို့အား ညှဉ်းပန်းနှိပ်စက်ခြင်း၊ သတ်ဖြတ်ခြင်း၊ သူတစ်ပါးတို့၏ပစ္စည်းဥစ္စာကို ခိုးဝှက်လုယူခြင်း၊ သူတစ်ပါးတို့၏ သားမယားကို ဖျက်ဆီးခြင်း၊ သူတစ်ပါးတို့အား လိမ်လည်လှည့်စားခြင်း၊ မူးရူးတွေဝေ၍ ကျေးဇူးရှင်များကို ကျေးစွပ်ခြင်း၊ ဘုရား, တရား, သံဃာတို့ကို ပြစ်မှားမိခြင်းတို့သည် ပို၍ဆိုးဝါးသောအကျိုးတရားများကို ဖြစ်ပေါ်စေလိမ့်မည်မှာ ဧကန်မလွဲသာတည်း။

သစ္စာလမ်းကြောင်းကား ဖြောင့်မတ်မှန်ကန်၏။ သစ္စာလမ်းကြောင်းကို ကွေ့ကောက်အောင်အားထုတ်သူတို့သည် ကျောက်ခါးပန်းကိုဦးခေါင်းနှင့်ပြေးဆောင့်သူထက် ပို၍မိုက်တွင်းနက်ကြသူများသာ ဖြစ်ကြပေသတည်း။

## အရေးကြုံလို့ သစ္စာဆိုမည်ကြံလျှင်

သစ္စာတွင် အနန္တ စွမ်းအားရှိ၏။ သစ္စာကမစွမ်းဆောင်ပေးနိုင်သောအရာ မရှိသည်ကို စွဲမြဲစွာယုံကြည်ထားပါ။

ယုံကြည်သောစိတ်တွင် အနန္တ စွမ်းအားရှိ၏။ သစ္စာနှင့်ပေါင်းစပ်လိုက်သည့်အခါ စိတ်၏စွမ်းရည်သည် ပို၍ထက်မြက်လာ၏။

တစ်ဖန် ရတနာသုံးပါးသည် အနန္တ ကျေးဇူးရှင်, အနန္တ ဂုဏ်ရှင်များ ဖြစ်ကြ၏။ ထို့ကြောင့် ရတနာသုံးပါး၏ ဂုဏ်ကျေးဇူးကို ခံယူထားလျှင် သစ္စာ၏စွမ်းရည် ပိုထက်မြက်လာ၏။

ငါးပါးသီလသည်လည်း နတ်ဗြဟ္မာ, ဘီလူး, ဂဠုန်, နဂါးတို့ ရိုသေလေးစားရသော လက်နက်ထူးဖြစ်၏။ သီလမြေပေါ်တွင် ရပ်တည်ပြီးသစ္စာပြုလျှင် ပို၍အစွမ်းထက်၏။

ဘုရားလောင်းငုံးမင်း၏ ဘုရားအလိုတော်ကျ လုပ်ထုံးလုပ်နည်းကိုလည်း အတုယူသင့်၏။ ဝဋ္ဋပရိတ်တော်၌–

၁။ အတ္ထိလောကေသီလဂုဏော= လောက၌ သီလ၏ ဂုဏ်ကျေးဇူးသည် ရှိ၏။ သီလ၏ စွမ်းအားကို သိပါ။

၂။ သောစေယျ = စင်ကြယ်မြင့်မြတ်သောစိတ်၊ တည်ကြည်သောစိတ်၏စွမ်းအားကို သိပါ။

၃။ အနုဒ္ဒယာ = မေတ္တာ,ကရုဏာနှင့် ကိုယ်ချင်းစာသောစိတ်ရှိပါ။

၄။ သစ္စံ = သစ္စာ၏စွမ်းအားကို အသုံးပြုလိုသောစိတ်၊ အားကိုးလိုသောစိတ် ထက်သန်လာအောင် သစ္စာ၏စွမ်းအားကို ကြိုတင်သိထားရ၏။ သစ္စာဆိုနိုင်ရန်

အတွက်လည်း ကျင့်ဝတ်တစ်ခုခုကို
စွဲစွဲမြဲမြဲပြုလုပ်ထားသင့်၏။

၅။ အာဝဇ္ဇေတ္ဝာဓမ္မဗလံ = နိဗ္ဗာန်သို့ဆိုက်ရောက်သည်အထိ
ပို့ဆောင်ပေးနေသောတရားတော်၏
အတုမရှိကြီးမားသည့်စွမ်းအား
ကိုလည်း သိရှိထားရ၏။

၆။ သရိတ္ဝာပုဗ္ဗကေဇိနေ = ထိုတရားလမ်းစဉ်ဖြင့် ဘုရား
ဖြစ်ပြီး ပရိနိဗ္ဗာန်စံဝင်သွားကြကုန်
သော ဘုရားအဆူဆူတို့၏
ဂုဏ်ကျေးဇူးများကိုလည်း
ဆင်ခြင်ကာ သိထားရ၏။

၇။ သစ္စဗလမဝဿာယ၊
သစ္စကိရိယမကာသဟံ = သစ္စာ၏စွမ်းအားကို
ထောက်တည်မှီခိုပြီး
သစ္စာပြုပါလော့။

သို့ဖြစ်၍ သစ္စာမဆိုခင်ကတည်းက သီလ၏စွမ်းအား၊ ဖြူစင်တည်ကြည်သောစိတ်၏စွမ်းအား၊ မေတ္တာကရုဏာနှင့်ယှဉ်သောစိတ်၏စွမ်းအား၊ သစ္စာ၏စွမ်းအား၊ တရားတော်၏စွမ်းအားနှင့် ဘုရားရှင်အဆူဆူတို့၏ဂုဏ်ကျေးဇူးများကို ကြိုတင်သိထားအောင်၊ ယုံကြည်လာအောင်၊ အားကိုးချင်လာအောင် ဆင်ခြင်နှလုံးသွင်းပါ။ သစ္စာဆိုရန် အသုံးပြုနိုင်မည့်ကျင့်ဝတ်တစ်ခုခုကိုလည်း ဝတ်ထား၍ အမြဲမပြတ်ပြုလုပ်ပါ။ ဥပမာ–သီလတစ်ပါး, နှစ်ပါး၊ တတ်နိုင်လျှင် ငါးပါးကို ဆောက်တည်ခြင်း၊ နေ့စဉ်မှန်မှန် ဂုဏ်တော်ပုတီးကိုးပတ်

စသည်စိပ်ခြင်း၊ မေတ္တာပို့ခြင်း၊ ဆွမ်း,ပန်း,ရေချမ်း ကပ်လှူခြင်း၊ သတ်မှတ်ရက်များ၌ သက်သတ်လွတ်စားခြင်း၊ ပဋ္ဌာန်းရွတ်ခြင်း စသည့်ကောင်းမှုတစ်ခုခုကို မပျက်မကွက်လုပ်ဆောင်ပါ။

ထို့နောက် သေရေးရှင်ရေးအကျပ်အတည်းတစ်ခုခု ကြုံတွေ့၍ သစ္စာဆိုတော့မည်ကြံလျှင်...

(၁) သရဏဂုံနှင့် ငါးပါးသီလကိုခံယူပါ။
"အကျွန်ုပ်သည် ယခုအချိန်မှစ၍ သရဏဂုံသုံးပါးနှင့်တကွ ငါးပါးသီလကို ခံယူဆောက်တည်ပါ၏ "ဟု နှလုံးသွင်းလိုက်လျှင် (သို့မဟုတ်) နှုတ်မှရွတ်ဆိုလိုက်လျှင် ကိစ္စပြီးမြောက်၏။

(၂) ဘုရားဂုဏ်၊ တရားဂုဏ်၊ သံဃာဂုဏ်တို့ကို ဆင်ခြင်လိုက်ပါ။

(၃) ကိုယ်စောင့်နတ်မှစ၍ နတ်ကောင်းနတ်မြတ်များနှင့် သတ္တဝါများ ဘေးရန်ကင်း၍ ကျန်းမာချမ်းသာကြပါစေဟု အတိုကောက်မေတ္တာပို့သပါ။

(၄) မိမိအမြဲမပြတ် မှန်မှန်ပြုခဲ့သောကောင်းမှုကို အကြောင်းခံပြုပြီး မိမိအလိုရှိသည်ကို သစ္စာဆိုပါ။ အောင်မြင်ရမည်ဟု ယုံယုံကြည်ကြည်ဖြင့် သစ္စာဆိုပါ။ အောင်ပြီ၊ အောင်ပြီဟုလည်း စိတ်ဖြင့် အကြိမ်ကြိမ်ညွတ်ပေးပါ။

## တောမီးကိုငြိမ်းစေသည့် ငုံးကလေး၏သစ္စာ

မြတ်စွာဘုရားသည် မာဂဓတိုင်း၌ ရဟန်းအပေါင်း ခြံရံလျက် ဒေသစာရီကြွချီတော်မူစဉ် တောမီးကြီးနှင့်ဆုံတွေ့ရ၏။ ကြောက်

မက်ဖွယ်ရာ တဟုန်းဟုန်းတောက်လောင်နေသော တောမီးကြီးသည် ဘုရားရှင်နှင့် ၁၆ မင်းပယ်မျှကွာလှမ်းသည့်အရပ်သို့ ရောက်လျှင် ငြိမ်းသွား၏။

ရဟန်းအပေါင်းက အံ့ဩကုန်၏။ ထိုအခါ ဘုရားရှင်သည် အတိတ်ကို ဆောင်ပြ၏။

ရှေးလွန်လေပြီးသောအခါ မာဂဓတိုင်းတွင် ယခုမီးငြိမ်းရာအရပ်၌ ဘုရားလောင်းသည် ငုံးကလေးဖြစ်ခဲ့ရ၏။ ထိုအရပ်သည် နှစ်စဉ် တောမီးလောင်နေကျနေရာဒေသဖြစ်ရာ ထိုနှစ်တွင်လည်း တောမီး တဟုန်းဟုန်းတောက်လောင်လေ၏။ သားကောင်များနှင့် ငှက် အပေါင်းတို့သည် မီးဘေးလွတ်ရာသို့ထွက်ပြေးကြကုန်၏။ ငုံးကလေး၏ မိဘနှစ်ပါးတို့လည်း ထွက်ပြေးကြ၏။

ငုံးကလေးသည် အရွယ်မရောက်သေး။ ပျံနိုင်ပြေးနိုင်စွမ်းလည်း မရှိသေး။ သို့အတွက် အသိုက်ထဲတွင် တစ်ကောင်တည်းကျန်ရစ်၏။ "ငါ့အား တစ်ပါးသောအားထားမှီခိုကိုးကွယ်ရာသည် မရှိပြီ။ လောက၌ သီလ၏ ဂုဏ်ကျေးဇူးသည်ရှိ၏။ သစ္စာလေးပါးနှင့် ရတနာသုံးပါးတို့၏ ဂုဏ်ကျေးဇူးတော်များလည်းရှိ၏" ဟု ဆင်ခြင်ကာ ၎င်းတို့ကို အာရုံပြုလျက် သစ္စာဆိုလေ၏။

"ငါ့အား အတောင်များရှိသော်လည်း ထိုအတောင်များဖြင့် မပျံနိုင်သေး၊ ခြေထောက်များရှိသော်လည်း ထိုခြေထောက်များဖြင့် မသွားနိုင်သေး။ မိဘတို့သည် ငါ့အား အသိုက်ဟဲ၌ စွန့်ထားပြီး မီးလွတ်ရာသို့ ပြေးကြလေပြီ။ ဤစကားသည် မှန်၏။ အို...တောမီး၊ ဤသစ္စာစကားကြောင့် သင်သည် ဤအရပ်မှကွင်းရှောင်ပါလေလော့"

ဤသစ္စာဆိုစဉ်အခိုက်၌ပင် ၁၆ မင်းပယ်မျှကျယ်သောအရပ်၌

တောမီးသည် ငြိမ်းလေ၏။ ငုံးကလေး၏ သစ္စာအရှိန်ကြောင့် ထို အရပ်ကို တောမီးသည် နှစ်စဉ်ကွင်းရှောင်သွားလေ၏။

ယခုအခါ မီးဘေးအရံအတားအဖြစ် 'ဝဋ္ဋပရိတ်' ကို ရွတ်ဆိုကြ ကုန်၏။

## မိုးရွာစေသည့် ငါးမင်း၏သစ္စာ

ကောသလတိုင်းတွင် မိုးခေါင်သဖြင့် ကောက်စပါးများ ညှိုးရော် ကုန်၏။ ရေကန်ကြီးငယ်တို့သည်လည်း ခန်းခြောက်ကုန်၏။ ဇေ တဝန်ကန်တွင် ရေကျန်မရှိတော့သဖြင့် ဒွန်ပျောင်းများထဲ၌ တိုးဝင် ခိုအောင်းနေကြသည့် ငါး,ပုစွန်စသည်တို့ကို ကျီး,စွန်,ဗျိုင်း စသည် တို့က နှုတ်သီးဖြင့် ထိုးယူစားသောက်ကြကုန်၏။

ဤအကြောင်းခြင်းရာများကို မြတ်စွာဘုရားမြင်တော်မူလျှင်...

"ယနေ့...ငါသည် မိုးရွာသွန်းစေခြင်းငှာ ပြုသင့်၏" ဟု နှလုံး သွင်းတော်မူရာ မိုးသည်းထန်စွာရွာသွန်းလေ၏။ ကောသလတိုင်း အလုံး ရေဖုံးလွှမ်းသွား၏။ ဇေတဝန်ကန်သည်လည်း တစ်ခဏချင်း ပင် မိုးရေနှင့်ပြည့်လျှံလာလေ၏။ ရဟန်းအပေါင်းတို့ အံ့သြချီးမွမ်း ကြသဖြင့် မြတ်စွာဘုရားသည် အတိတ်ဇာတ်ကြောင်းကို ဆောင် တော်မူ၏။

ရှေးအခါက ကောသလတိုင်းအတွင်း ဇေတဝန်ရေကန်နေရာ၌ ရေအိုင်တစ်ခုရှိခဲ့ဖူး၏။ ၎င်းအိုင်ကို ချုံနွယ်တို့ဝန်းရံကာ ပေါက် ရောက်နေကြ၏။ ထိုရေအိုင်တွင် ဘုရားလောင်းသည် ငါးမင်းဖြစ် ၍ ငါးအပေါင်းခြံရံလျက် ပျော်ရွှင်ချမ်းမြေ့စွာနေထိုင်၏။

တစ်ချိန်တွင် ကောသလတိုင်း၌မိုးခေါင်ရာ ကောက်စပါးများ ညှိုး

ကုန်၏။ ရေအိုင်များလည်း ခန်းခြောက်ကုန်၏။ ညွှန်ပျောင်းထဲသို့ တိုးဝင်ပုန်းအောင်းနေကြသော ငါး,ပုစွန် စသည်တို့ကို ကျီး, ဗျိုင်း စသည့် သားစားငှက်များသည် နှုတ်သီးဖြင့် ထိုးယူစားသောက်ကြ ကုန်၏။

ထိုအခါ ငါးမင်းသည် ဆွေမျိုးအပေါင်းအားကယ်တင်ရန် သစ္စာ ဆို၏။

ငါးမင်းသည် ကောင်းကင်သို့မော့ကြည့်လျက် "အို...ပဇ္ဇုန်နတ် မင်း၊ ငါသည် ဆွေမျိုးအပေါင်းကိုမှီလျက် ဆင်းရဲ၏။ သင်သည် သီလရှိသောငါ့အား ပင်ပန်းစေလျက် အဘယ့်ကြောင့်မိုးကိုမရွာစေ သနည်း။ ငါသည် ဇာတ်တူဖြစ်သောသတ္တဝါတို့ကို စားတတ်သည့် ငါးမျိုးဇာတ်၌ဖြစ်သော်လည်း ဆန်လုံးပမာဏခန့်ရှိသောငါးကလေး ကိုပင်စားဖူးသည်မရှိချေ။ ငါသည်တစ်ပါးသောသတ္တဝါတို့ကိုလည်း မသတ်စားဖူးပါ။ ဤမှန်ကန်သောသစ္စာစကားကြောင့် မိုးကိုရွာစေ၍ ငါနှင့်တကွ ငါ့ဆွေမျိုးအပေါင်းအား ဆင်းရဲမှလွတ်ပါစေလော့"

ထိုခဏ၌ပင် ကောသလတိုင်းအလုံး၌ မိုးကြီးသည်းထန်စွာ ရွာ သွန်း၏။ သတ္တဝါအပေါင်းတို့လည်း သေခြင်းဆင်းရဲမှလွတ်မြောက် ကြလေ၏။

ယခုနှစ်ဆယ်ရာစုခေတ်၌လည်း သီလ, သမာဓိ, ပညာနှင့်ပြည့်စုံ ကြသော လယ်တီဆရာတော်, တောင်တန်းဆရာတော်, ညောင်လွန့် ဆရာတော်စသည့်ပုဂ္ဂိုလ်မြတ်တို့သည် မေတ္တာ, သစ္စာတို့ကိုအခြေ ခံ၍ မိုးခေါင်သည့်ဒေသများတွင် မိုးရွာသွန်းအောင် လက်တွေ့စွမ်း ဆောင်ပေးခဲ့ကြ၏။

သက်တော်ထင်ရှားရှိနေသော တောင်တန်းသာသနာပြုဆရာတော်

ဦးဥတ္တမသာရသည် ဤငါးရံ့မင်းပရိတ် (ဝါ) မိုးပရိတ်ကို သူ ခုနစ်ခေါက်ရွတ်ဆိုလျှင် မိုးရွာသွန်းသည်ဟု ကိုယ်တွေ့မျက်မြင်အရ မိန့်ဆိုတော်မူ၏။

သိပ္ပံစွမ်းအားကဲ့သို့ပင် မေတ္တာနှင့်သစ္စာတို့၏ စွမ်းအားသည် အံ့ချီးစဖွယ်ကောင်းလှပါပေ၏။

## ဂင်္ဂါမြစ်ကြီး အထက်ပြန်စီး

ဘုန်းတန်ခိုးအလွန်ကြီးတော်မူသော **အသောကမင်းတရားကြီး** သည် တိုင်းခန်းလှည့်လည်စဉ် ဂင်္ဂါမြစ်သို့ရောက်လာ၏။ ရေများကမ်းလုံးညွတ်မျှပြည့်လျှံ၍ အင်အားကြီးမားစွာဖြင့် တသွင်သွင်စီးဆင်းနေ၏။

"ဂင်္ဂါမြစ်ရေကို အထက်အညာဆန်၍စီးသွားအောင် ပြုလုပ်နိုင်သူ ရှိသလော" ဟု မေးတော်မူ၏။

"မရှိကြောင်းပါဘုရား" ဟု အမတ်များက သံတော်ဦးတင်ကြ၏။

ဤသတင်းကို **ဗန္ဓုမတီ** အမည်ရှိသော ပြည့်တန်ဆာမက ကြားသိလျှင် ဂင်္ဂါမြစ်သို့သွား၍ သစ္စာဆို၏။ မြစ်ရေသည် တဟုန်းဟုန်းမြည်ဟည်းလျက် အထက်အညာသို့ပြန်စီးတက်သွား၏။

မင်းကြီးကြားသိသည့်အခါ ဗန္ဓုမတီကိုခေါ်၍ မေး၏။ ဗန္ဓုမတီကလည်း ဟုတ်မှန်ကြောင်းဝန်ခံ၏။

"ဟယ်... ပြည့်တန်ဆာမ၊ သင်ကဲ့သို့သော အမျိုးသမီးက သစ္စာဆိုလို့ မြစ်ရေအညာဆန်တက်တာ ဖြစ်နိုင်ရိုးလား၊ သင်ရူးပဲနေသလား" ဟု မင်းကြီးက ရွတ်ချ၏။

ဗန္ဓုမတီက အညံ့မခံ။ မိမိသစ္စာဆိုသဖြင့် မြစ်ရေအညာဆန်တက်

သည်ကို ကိုယ်တိုင်မြင်တွေ့ခဲ့ရပြီးဖြစ်၍ ရဲရဲတင်းတင်းပြန်လျှောက်၏ –

"အရှင်မင်းမြတ်…ဘုရားဂုဏ်တော်, သီလဂုဏ်တော်တို့တွင် ကြီးမားသည့်စွမ်းအားများရှိသလို သစ္စာမှာလည်း ကြီးမားသည့်စွမ်းအား ရှိပါသည်။ ဘုရားလောင်းငုံးကလေး သစ္စာဆိုလို့ တောမီးငြိမ်းအေးခဲ့ဖူးပါပြီ။ ငါးမင်းသစ္စာဆိုလို့ မိုးရွာသွန်းခဲ့ဖူးပါပြီ။ သီလမြေပေါ်မှာရပ်တည်ပြီး အကျွန်ုပ်မှန်တာကို သစ္စာဆိုသဖြင့် ဂင်္ဂါမြစ်ရေ အညာဆန်သည်မှာ မထူးဆန်းပါ။ သစ္စာဖြင့် လောကကြီးကို ပြောင်းပြန်လှန်နိုင်ကြောင်းပါဘုရား"

ဘုရင်မင်းမြတ်သည် သီလနှင့်သစ္စာတို့၏ စွမ်းအားဖြင့် ရဲရဲဆိုဝံ့သည့် ပြည့်တန်ဆာမကို အနည်းငယ်လေးစားလာ၏။

"ဟယ် … ပြည့်တန်ဆာမ၊ သင်ဆိုခဲ့သည့်သစ္စာစကားကို ဆိုပါဦးလော့"

"မှန်လှပါအရှင်မင်းကြီး၊ အကျွန်ုပ်သည် မင်း, သူဌေး, ပုဏ္ဏား, ဆင်းရဲသားဟူ၍ မခွဲခြားပါ၊ အကြင်သူသည် အခကြေးငွေကို ပေး၏၊ ထိုသူအား အညီအမျှပင် လုပ်ကျွေးပြုစုခံပါ၏။ မင်းဖြစ်၍ အထူးမပြုစုပါ၊ ဆင်းရဲသားဖြစ်၍လည်း မထီမဲ့မြင်မပြုပါ။ ချစ်ခြင်း, မုန်းခြင်း လွတ်ကင်း၍သာ ဥစ္စာရှင်ကိုပြုစုပါသည်။ ဤပြုမြဲဖြစ်သော ကျင့်ဝတ်ကတိကို သစ္စာဆိုသဖြင့် ဂင်္ဂါမြစ်ရေသည် အထက်အညာ ဆန်၍ တဟုန်းဟုန်းမြည်ဟည်းကာ စီးခဲ့ကြောင်းပါဘုရား"

## သံခြေကျင်းလည်းကျွတ်စေ၊ ထောင်တံခါးလည်းပွင့်စေ

မဟာဇနကဇာတ်တော်တွင် ဝိဒေဟတိုင်း မိထိလာပြည်၌ မဟာဇနကမင်းကြီး စိုးစံတော်မူစဉ် သားကြီးအရိဋ္ဌဇနကမင်းသားသည် အိမ်ရှေ့မင်းအရာကိုရ၍ သားငယ်ပေါလဇနကမင်းသားသည် စစ်သူကြီးအရာကိုရ၏။

မင်းကြီးနတ်ရွာစံသောအခါ နောင်တော်အရိဋ္ဌဇနကမင်းသားသည် ထီးနန်းအရိုက်အရာကိုဆက်ခံ၍ ညီတော်အား အိမ်ရှေ့မင်းအရာကိုပေး၏။ အိမ်ရှေ့မင်းသားထံခစားသောအမတ်တစ်ယောက်သည် ဘုရင်မင်းမြတ်ထံသို့ မကြာခဏသွား၍ "ညီတော်အိမ်ရှေ့မင်းသည် အရှင်မင်းကြီးအား လုပ်ကြံ၍ ထီးနန်းကိုလုယူရန် ကြံစည်နေပါသည်" ဟု ကုန်းတိုက်၏။

ကုန်းတိုက်ဖန်များသော် ဘုရင်မင်းမြတ်က ယုံကြည်လာပြီး ညီတော်အား ဖမ်းစေ၏။ သံခြေကျင်းခတ်ပြီး ထောင်ချထားစေ၏။

ပေါလဇနကမင်းသားသည် သစ္စာသည်သာ အားကိုးစရာရှိတော့သည်ဟု ကြံတွေးမိပြီး သစ္စာဆိုလေ၏။

"ငါသည် နောင်တော်အားလုပ်ကြံ၍ ထီးနန်းကိုလုယူရန် ကြံစည်ခဲ့ခြင်းမရှိပါ၊ ဤစကားမှန်ပါက ဤသံခြေကျင်းများကျွတ်ပါစေသား၊ ထောင်တံခါးလည်း ပွင့်ပါစေသား"

ထိုခဏ၌ သံခြေကျင်းများကျွတ်သွားကြ၏။ ထောင်တံခါးလည်း ပွင့်သွား၏။ ပေါလဇနကမင်းသားသည်လည်း ထောင်မှလွတ်မြောက်သွားလေ၏။

ဤဖြစ်ရပ်မျိုးသည် ယခုခေတ်၌လည်း ဖြစ်ပေါ်နိုင်သည်သာတည်း။ မြတ်မင်္ဂလာအတွဲ (၄)၊ အမှတ် (၈)၊ ၁၉၈၉ ခု ဖေဖော်ဝါရီလ

ထုတ် စာစောင်တွင် ဦးခင်မောင်ညို (ဘောဂဗေဒ) တင်ပြထားသည့် 'အင်ဂျင်နီယာချုပ်ဦးကာ၏ ကိုယ်တွေ့' ဆောင်းပါးကို အကျဉ်းဖော်ပြပါမည်။

**အင်ဂျင်နီယာချုပ်ဦးကာ** သည် အသက် ၉၂ နှစ်ရှိပြီး သူ၏ ဖခင်မှာ အင်္ဂလိပ်အစိုးရလက်ထက်က တရားသူကြီး ဦးသိန်းမောင်ဖြစ်ခဲ့၏။

တစ်နေ့သ၌ တရားသူကြီးဦးသိန်းမောင်၏ တရားရုံးတော်သို့ တရားခံတစ်ဦးရောက်လာ၏။ သူ့ကို လက်ထိတ်များခတ်လျက်နှင့် ဝက်ခြံထဲသို့ထည့်လိုက်ကြ၏။ အမှန်မှာ ဝက်ခြံထဲထည့်လျှင် လက်ထိတ်များ ဖြုတ်ထားပေးရ၏။ ယခုမူ အမှုခင်းကပဲ အရေးကြီးလို့လား၊ ပုလိပ်များကပဲ မေ့သွားလို့လား၊ လက်ထိတ်ဖြုတ်ရန် သတိမရကြ။ တရားခံကလည်း မကန့်ကွက်ချေ။

သို့သော် တရားခံ၏ နှုတ်ခမ်းများက တရွရွလှုပ်နေကြ၏။ မကြာမီ ချွင်ခနဲလက်ထိတ်ပြုတ်ကျသွား၏။ ပုလိပ်များပြေးလာကြ၏။ တရားခံက တည်တည်ငြိမ်ငြိမ်နှင့်။ တရားသူကြီးက ပုလိပ်တို့ကို ဟန့်တားလိုက်၏။ လက်ထိတ်မဖြုတ်ဘဲ ဝက်ခြံထဲထည့်ခြင်းကိုလည်း အပြစ်တင်လိုက်၏။

တရားခံကို စစ်မေး၏။ အပြစ်မရှိကြောင်းတွေ့ရသဖြင့် တရားခံသည် တရားသေလွတ်သွား၏။ တရားသူကြီးဦးသိန်းမောင်က ဓာတ်စာပေးရန် ဝါသနာပါသူဖြစ်၍ တရားခံအား ပါးစပ်တရွရွလှုပ်နေခြင်းမှာ ရောဂါရှိလို့လားဟုမေး၏။

"ရောဂါမရှိပါဘူး၊ ဓာရဏပရိတ်ရွတ်နေတာပါ"

"ဪ... ဒီလိုလား၊ ကျုပ်လဲ ဓာရဏပရိတ်အမြဲရွတ်ပါတယ်၊

ကြို့ပင်ကောက်မြို့မှာ တရားသူကြီးလုပ်နေရတုန်းက မီးအကြီးအကျယ်လောင်တယ်၊ ကျုပ်တို့နေတဲ့အိမ်အနားထိ မီးရောက်လာတယ်၊ ဒါပေတဲ့ ဓာရဏပရိတ်ရဲ့တန်ခိုးကြောင့်ပါပဲ၊ မီးငြိမ်းသွားပါတယ်"

ဦးသိန်းမောင်သည် ရတနာသုံးပါးကို အထူးကြည်ညိုလေးစားသူဖြစ်၏။ သို့အတွက် 'တြိရတန'အမည်ဖြင့် အလှဆီတစ်မျိုးကို ဦးစီးကာ ထုတ်လုပ်၏။ အလွန်လူကြိုက်များသဖြင့် အလှဆီ၏အမည်မှာ 'ဦးသိန်းမောင်တြိရတနအလှဆီ'ဖြစ်သလို သူ့အမည်မှာလည်း 'တြိရတနဦးသိန်းမောင်'ဟု ဖြစ်လာ၏။

ဦးသိန်းမောင်တွင် သားသမီးခုနစ်ဦးရှိသည့်အနက် ဦးစံညွန့်နှင့်ဦးကာတို့မှာ ဂျပန်ပြည်ဝါဆေဒါတက္ကသိုလ်မှ အင်ဂျင်နီယာဘွဲ့ရရှိကြ၏။ ဒုတိယကမ္ဘာစစ်အတွင်းက မြန်မာနိုင်ငံမှ အင်္ဂလိပ်တပ်များ မဆုတ်ခွာမီ ဦးစံညွန့်နှင့်ဇနီးဖြစ်သူ ဂျပန်အမျိုးသမီးတို့ အဖမ်းခံကြရ၏။

ထိုအခါ ဦးကာသည် ဘောင်းဘီကိုအမြန်ချွတ်၊ လုံချည်လဲဝတ်ကာ မျက်နှာသုတ်ပဝါကို ခေါင်းမှာပေါင်းလျက် မော်လမြိုင်မြို့သို့ ထွက်ပြေး၏။ ထိုမြို့၌လည်း စိတ်မချရသေးသဖြင့် တောဘက်သို့ ဆက်ပြေး၏။

တောလမ်းခရီး၌ ဂျပန်စစ်တပ်များချီတက်လာကြသည်ကိုမြင်ရသည့်အခါ ဦးကာသည် အလွန်ဝမ်းမြောက်ပြီး ဆီးကြိုနှုတ်ဆက်မိ၏။ ဦးကာသည် ဂျပန်စကားကို ရေရေလည်လည်ပြောနိုင်၏။ ဂျပန်တို့က ဦးကာအား အင်္ဂလိပ်သူလျှိုဟုထင်မိကြ၏။ ဦးကာက ဝါဆေဒါတက္ကသိုလ်မှ ဆရာများ၏အမည်များကိုပါ ထုတ်ဖော်ပြောပြသည့်အခါမှ ဂျပန်များကျေနပ်သွားကြ၏။

"ခင်ဗျား ဂျပန်ပြည်က အင်ဂျင်နီယာဘွဲ့ ယူလာတဲ့ မြန်မာအင်ဂျင်နီယာဖြစ်ရင် စစ်တောင်းတံတားကိုပြန်တည်ဆောက်ပေးရမယ်၊ စစ်တောင်းတံတားကို အင်္ဂလိပ်စစ်တပ်က မိုင်းခွဲပြီးဖျက်ဆီးသွားတယ်"

ဂျပန်အရာရှိများက အကျပ်ကိုင်၍တာဝန်ပေးအပ်သဖြင့် ဦးကာသည် ကျိုးပျက်သွားသော စစ်တောင်းတံတားကြီးကို အင်ဂျင်နီယာအဖြစ် ဦးဆောင်၍ ပြန်လည်တည်ဆောက်ပေးခဲ့၏။ များမကြာမီကာလ၌ 'ဂျပန်အင်ဂျင်နီယာဘွဲ့ရသည့် မြန်မာအင်ဂျင်နီယာကြောင့် ဂျပန်စစ်တပ်များက စစ်တောင်းမြစ်ကိုဖြတ်ကျော်နိုင်ပြီ' ဟု ရေဒီယို ကြေညာချက် ထွက်ပေါ်လာ၏။

ရန်ကုန်မြို့ကို ဂျပန်များ သိမ်းပိုက်သည့်အခါ ဦးကာသည် မီးရထားဌာန၌ တာဝန်ထမ်းရွက်ရ၏။ သို့သော် အင်္ဂလိပ်များ ပြန်ဝင်လာသည့်အခါ ချက်ချင်းအဖမ်းခံရ၏။ ရန်ကုန်ထောင်၌ တစ်လ၊ အင်းစိန်ထောင်၌ နှစ်လ အကျဉ်းချထားခြင်းကို ခံရ၏။

ထိုစဉ်က ဖမ်းဆီးခံနေရသူများကို ထောင်မှထုတ်ပြီး သေနတ်ဖြင့် ပစ်သတ်လေ့ရှိ၏။ သို့အတွက် ဦးကာ၏ဇနီးသည် အင်္ဂလိပ်ဘုရင်ခံဆာဟူးဘတ်ရန့်စ်ထံ သွားရောက်တွေ့ဆုံ၏။ ဘုရင်ခံက ခေတ္တသာလက်ခံစကားပြော၏။ သို့အတွက် ဦးကာ၏ အားကိုးစရာမှာ ဖခင်ထံမှအမွေရခဲ့သော ဓာရဏပရိတ်ပင် ဖြစ်ပေတော့၏။

"ငါ့သား ...ဓာရဏပရိတ်ကို မှန်မှန်ရွတ်ကွ၊ မီးမလောင်နိုင်ဘူး၊ သူတစ်ပါး မကောင်းမကြံနိုင်ဘူး၊ ဘေးမသင့်နိုင်ဘူး၊ မသေနိုင်ဘူး၊ သံလက်ထိတ်တောင် ငါ့ရှေ့မှာပြုတ်ကျသေးတယ်ကွဲ့"

ဖခင်မှာကြားခဲ့သည့်စကားများကို ဦးကာကြားယောင်နေ၏။

သို့အတွက် ဦးကာသည် အချိန်ရှိသရွေ့ ဓာရဏပရိတ်ကိုသာ တွင်တွင် ရွတ်ပွားနေတော့၏။

မကြာမီ ဦးကာအား ထောင်မှထုတ်ပြီး ဘုရင်ခံနှင့်တွေ့ဆုံခွင့်ပြု၏။ ဦးကာက "လွတ်လပ်ရေးလိုချင်လို့ စစ်တောင်းတံတားကိုကြိုးကြပ်ပြီး ပြန်တည်ဆောက်ပေးခဲ့တာပါ"ဟု မှန်သောသစ္စာစကားကိုသာ ပြောကြား၏။ ဘုရင်ခံ၏အမိန့်ဖြင့် ဦးကာထောင်မှလွတ်မြောက်သွား၏။

ဦးကာသည် အင်းစိန်ထောင်မှထွက်လာသည့်အခါ မိမိ၏ဓာရဏပရိတ်စာအုပ်ကို ထောင်ထဲ၌ကျန်ရစ်သူမိတ်ဆွေများအား ပေးအပ်ခဲ့၏။ ထိုသူတို့ကလည်း ဓာရဏပရိတ်တော်ကို ယုံယုံကြည်ကြည် ရွတ်ဆိုကြသဖြင့် အားလုံးထောင်မှလွတ်မြောက်သွားကြ၏။ အခြားဘာသာဝင်အကျဉ်းသားများပါ ဓာရဏပရိတ်တော်ကို သင်ယူပြီး ရွတ်ပွားကြသောကြောင့် သူတို့လည်း ထောင်မှလွတ်မြောက်ကြကုန်၏။

ဦးကာသည် အလွန်အကျိုးကျေးဇူးများသော ဓာရဏပရိတ်တော်စာအုပ်ကို မိတ်သင်္ဂဟတို့အား အကြိမ်များစွာ ဓမ္မဒါနအဖြစ် ပေးဝေခဲ့၏။ မိမိအား လာကန်တော့ကြသော လူငယ်လူရွယ်များကိုလည်း ဓာရဏပရိတ်စာအုပ်တစ်အုပ်စီ ဆုအဖြစ်ပေးလေ့ရှိ၏။

သစ္စာစွမ်းအားနှင့် ရတနာသုံးပါးဂုဏ်ကျေးဇူးတို့၏စွမ်းအားတို့ကြောင့်ပင် ဓာရဏပရိတ်တော်သည် အစွမ်းထက်၏။ ဓာရဏပရိတ်ကို အာဂုံဆောင်၍ မှန်မှန်ရွတ်ပွားသင့်ကြပေသတည်း။

## သစ္စာစွမ်းက မြွေဆိပ်ကျ၏

တစ်ရံရောအခါက **ကဏှာဒီပါယန** အမည်ရှိသော ရသေ့ကြီးထံသို့ ဒကာရင်းများဖြစ်ကြသည့် မဏ္ဍဗျသူကြွယ်ဇနီးမောင်နှံတို့ လာရောက်ဖူးမြော်ကြ၏။ သူတို့နှင့်အတူ သားငယ် ယညဒတ်လည်း ပါလာ၏။ ရသေ့အား ဖူးမြော်ကန်တော့ကြပြီးနောက် လူကြီးများစကားပြောဆိုနေကြစဉ် သားငယ်သည် ဂျင်ပေါက်ကစားနေ၏။ ထိုစဉ် ဂျင်သည် တွင်းတစ်ခုထဲသို့ ကျသွား၏။ သားငယ်က တွင်းထဲသို့ လက်ဖြင့်နှိုက်လိုက်ရာ မြွေပေါက်ခံလိုက်ရ၏။ မြွေဆိပ်ပြင်းထန်စွာတက်လာသဖြင့် သားငယ်သည် မေ့မျောပြီးလဲကျသွား၏။

ဤအခြင်းအရာကို မြင်တွေ့လိုက်ရသော မိဘနှစ်ပါးနှင့် ဆရာရသေ့တို့သည် ကလေးထံပြေးလာကြပြီး ခြေမကိုင်မိ လက်မကိုင်မိဖြစ်ကြရ၏။ ကလေးတစ်ကိုယ်လုံး ပြာနှမ်းနှမ်းဖြစ်လာ၏။ ကလေးသည် မျှဉ်းမျှဉ်းကလေးသာ အသက်ရှူတော့၏။ ဆေးဆရာလည်းမရှိ။ ဆေးဝါးများလည်းမရှိ။ မည်သို့လုပ်ရအံ့နည်း။

"ငါတို့ သစ္စာဆိုကြစို့"ဟု ရသေ့ကြီးသတိရလာ၏။ ရသေ့က ပင် သစ္စာစ,ဆို၏။

"ငါသည် ရသေ့ရဟန်းပြုခဲ့သည်မှာ နှစ် ၅၀ ကျော်လေပြီ။ သို့သော် ခုနစ်ရက်မျှသာ တရားကျင့်ခဲ့၏။ ရသေ့ဘဝ၌ မပျော်ပိုက်ရိုးအမှန်ပါ။ ဤမှန်သောစကားကိုဆိုရသောကြောင့် ယညဒတ်သူငယ်၏ ကိုယ်ထဲမှ မြွေဆိပ်များ လျှောကျကင်းပသွားပါစေသတည်း"

ထိုအခါ သူငယ်၏ ဦးခေါင်းမှရင်ညွန့်အထိ မြွေဆိပ်လျှောကျသွား၏။

မဏ္ဍဗျသူကြွယ်က အားတက်လာပြီး သစ္စာဆက်ဆို၏။

"အကျွန်ုပ်သည် မျိုးရိုးထုံးစံရှိ၍သာ လှူဒါန်းပေးကမ်းခြင်းကို ပြုနေရပါ၏။ လူတကာကဲ့ရဲ့ကြမည်ကိုစိုး၍လည်း လှူဒါန်းနေခြင်း ဖြစ်ပါ၏။ လှူဒါန်းလိုသောစိတ် အလျဉ်းမရှိပါ။ ဤမှန်သောသစ္စာ စကားကြောင့် သားငယ်၏ ကိုယ်ခန္ဓာမှမြွေဆိပ်များ လျှော့ကျပျောက် ကင်းပါစေသတည်း"

မြွေဆိပ်သည် သူငယ်ရင်ညွန့်မှခါးအထိ လျှော့ကျသွား၏။

မိခင်က အားတက်လာပြီး သစ္စာဆိုပြန်၏။

"အကျွန်ုပ်သည် ကလေးတို့၏ဖခင်မဏ္ဍဗျလုလင်ကို မိဘတို့ပေး စားသောကြောင့်သာ လက်ထပ်ခဲ့ရ၏။ ယခုအချိန်ထိ ခင်ပွန်းလင် အား ချစ်ခင်သောစိတ်မရှိပါ၊ သားငယ်ကိုကိုက်သော မြွေကဲ့သို့ပင် သူ့အား ရွံမုန်းလှပါ၏။ ဤမှန်သောသစ္စာစကားကြောင့် သားငယ် ၏ ကိုယ်မှမြွေဆိပ် လုံးဝပျောက်ကင်းပါစေသတည်း"

မြွေဆိပ်သည် သူငယ်၏ ခါးမှခြေဖျားအထိ လျှော့ကျသွားပြီး လုံးဝကင်းစင်သွား၏။ ယညဒတ်သူငယ်သည်လည်း လူးလွန့်ထ လာ၏။ လူကြီးများသည် တစ်ဦးကိုတစ်ဦးကြည့်ကာ မိမိတို့၏ရင် ထဲ၌ နှစ်ရှည်လများ ဖုံးဖိထားခဲ့ရသော သစ္စာတရားများကို ဖွင့်ဆိုခဲ့ ကြရသဖြင့် ပြုံးမိကြလေ၏။

ဤဖြစ်ရပ်ကို အကြောင်းခံ၍ **'သစ္စာနှုတ်သီး၊ မန္တာန်ကြီးကား၊ သေပြီးသော်မှ၊ ရှင်ပြန်ရ၏'** ဟု မာန်လည်ဆရာတော်ဘုရား စပ်ဆို တော်မူ၏။

## သစ္စာစကားကြောင့် ရောဂါပျောက်

သီရိလင်္ကာကျွန်း၌ နေရောင်လရောင်ပမာ ဗုဒ္ဓသာသနာ ထွန်းတောက်နေစဉ်အခါ သားနှစ်ယောက်တို့၏မိခင်တစ်ဦးသည် သည်းထန်စွာဖျားနာနေ၏။ ဆေးဆရာက 'ယုန်သားအစိုကို စားလျှင် ရောဂါပျောက်မည်'ဟု ခတ်စာညွှန်းသွား၏။ ထို့ကြောင့် အစ်ကိုဖြစ်သူက ညီဖြစ်သူ **စက္ကန** အား ယုန်ဖမ်းရန်တာဝန်ကို ပေးအပ်လိုက်၏။

စက္ကနသည် လယ်တောသို့ စောစောစီးစီးသွား၏။ နုပျိုသောမြက်များကိုစားရန် ယုန်ငယ်တစ်ကောင်ချဉ်းကပ်လာ၏။ စက္ကနက လျင်မြန်စွာပြေး၍ဖမ်း၏။ ယုန်ငယ်က ပြေး၏။ သို့သော်ချုံနွယ်တစ်ခုတွင် ငြိခိုက်သွားသဖြင့် အဖမ်းခံလိုက်ရ၏။ ယုန်ငယ်သည် ရန်သူကို ကြောက်ရွံ့ကာ တဆတ်ဆတ်တုန်နေ၏။

သတ္တဝါတိုင်းပင် သေဘေးကိုကြောက်ရွံ့သည်မဟုတ်ပါလား။

စက္ကနသည် ယုန်ကလေးကို အလွန်သနားသွား၏။

'ငါ့မိခင်ရဲ့ရောဂါ ပျောက်ကင်းရေးအတွက် အပြစ်ကင်းမဲ့တဲ့ယုန်ငယ်တစ်ကောင်က အသက်သေပေးရမယ်ဆိုရင် အင်မတန်မတရားတာပဲ၊ ယုန်သားမစားရလို့ ငါ့မိခင်ရောဂါမပျောက်လျှင်လဲ ရှိပါစေတော့၊ တခြားဆေးရှာပြီး ကုတော့မည်'ဟု စက္ကနဆုံးဖြတ်လိုက်၏။

ယုန်ကလေးအား ချမ်းသာရာသို့သွားပါလော့ဟုဆိုပြီး လွှတ်ပေးလိုက်၏။ စက္ကနအိမ်သို့ပြန်ရောက်သောအခါ အစ်ကိုက ဆီး၍မေး၏။ ညီငယ်က ယုန်ငယ်တစ်ကောင်ကို ဖမ်းမိပြီးနောက် သနား၍ လွှတ်လိုက်ကြောင်း ပြောပြ၏။ အစ်ကိုကစိတ်ဆိုး၍ ဆူပူမောင်းမဲ၏။

စက္ကနသည် ခွန်းတုံ့မပြန်ဘဲ မိခင်အနီးသို့ချဉ်းကပ်သွား၏။ စက္ကနသည် ငါးပါးသီလမြဲသူတစ်ဦးဖြစ်၍ သီလတန်ခိုး၊ ရတနာသုံးပါးတန်ခိုးနှင့် သစ္စာတရားတို့ကို နားလည်၏။ နှစ်နှစ်ကာကာယုံကြည်သူလည်းဖြစ်၏။

"မေမေ...မေမေ့ရောဂါပျောက်ကင်းအောင် ကျွန်တော်သစ္စာဆိုမယ်၊ မေမေနားထောင်ပါ။ ကျွန်တော်သည် သိတတ်တဲ့အရွယ်မှစပြီး ကနေ့အထိ သက်ရှိသတ္တဝါတစ်ဦးကို သေစေလိုသည့်စိတ်ဖြင့် သတ်မိခဲ့ခြင်းမရှိပါ။ ဤမှန်သောသစ္စာစကားကြောင့် မေမေ၏ရောဂါပျောက်ကင်းပါစေသတည်း"

ထိုခဏ၌ပင် မိခင်၏ရောဂါ ပျောက်ကင်းသွားလေတော့၏။

နို့အိုင်းနာပေါက်သောမိခင်တစ်ဦး၏ ဖြစ်ရပ်သည်လည်း မှတ်သားစဖွယ်ပင်ဖြစ်၏။ သမီးနှင့်သားတို့က မြတ်စွာဘုရား၏ သာသနာတော်၌ ရဟန်းပြုနေကြ၏။ မိခင်သည် သမီးဘိက္ခုနီမကိုခေါ်၍-

"ရှင်မ...သင့်မောင်တော်ထံ သွားပါလော့၊ ငါ၏မကျန်းမာခြင်းကို ပြောကြား၍ ဆေးကိုတောင်းယူခဲ့ပါလော့"ဟုဆို၏။

ဘိက္ခုနီမသည် မောင်တော်စပ်သူ **မဟာမိတ္တမထေရ်**ထံ သွား၍လျှောက်ကြား၏။ မထေရ်မြတ်က...

"ငါသည် ဆေးမြစ်များကိုစု၍ ဆေးဖော်စပ်ရန် နားမလည်ချေ။ သို့သော်လဲ ဆေးကိုပြောကြားလိုက်ပေအံ့၊ ငါသည် ရဟန်းပြုပြီးသည်မှစ၍ တပ်မက်သောရာဂစိတ်ဖြင့် စက္ခုစသောဣန္ဒြေတို့ကို ဖျက်၍ မာတုဂါမ(အမျိုးသမီး)၏ အဆင်းကိုမကြည့်စဖူးပေ။ ဤမှန်သောသစ္စာစကားကြောင့် ငါ၏မယ်တော်အား ချမ်းသာခြင်းဖြစ်ပါစေ

သတည်း။ သင်သွားလော့၊ ဤသစ္စာစကားကိုဆို၍ ဥပါသိကာမကြီး၏ ကိုယ်ကို သုံးသပ်ပါလော့”ဟုဆို၏။

ဘိက္ခုနီမသည် မိခင်ထံသို့သွား၍ ဤအကြောင်းကို ပြောကြားပြီးလျှင် မထေရ်မှာကြားလိုက်သည့်အတိုင်း သစ္စာဆိုလေ၏။ မယ်တော်၏ အိုင်းအနာသည် ထိုခဏ၌ပင်လျှင် ရေမြှုပ်စိုင်ကဲ့သို့ ကြေပျက်၍ ပျောက်ကင်းသွားလေ၏။

မယ်တော်သည်အိပ်ရာမှထ၍“မြတ်စွာဘုရားသခင်သာ အကယ်၍ သက်တော်ထင်ရှား ရှိပေငြားအံ့၊ ငါ့သားနှင့်တူသော ရဟန်းကောင်း၏ဦးခေါင်းကို ရွှေလက်တော်ဖြင့် အဘယ့်ကြောင့် မသုံးသပ်ဘဲ ရှိပါအံ့နည်း”ဟုရွှင်လန်းဝမ်းမြောက်သောစကားကို မြွက်ဆိုလေ၏။

## တော်လေးဝနွယ်ဝင် သစ္စာရှင်များ

ဇာတ်နိပါတ်တော်များ၌ လင်ယောကျ်ားအပေါ် ဝယ်သစ္စာစောင့်သိရိုသေမှုနှင့် ချစ်မြတ်နိုးမှုတို့တွင် စံတင်ရသည့် တော်ဝင်အမျိုးသမီး လေးဦးရှိ၏။

‘အမရာ၊ ကိန္နရီ၊ မဒ္ဒီ၊ သမ္ဗုလ တော်လေးဝ’ တို့ပင်တည်း။

ထိုလေးဦးအနက် အမရာ, စန္ဒကိန္နရီနှင့် မဒ္ဒီဒေဝီတို့သည် ယသော်ဓရာဒေဝီ၏ လောင်းလျာများ ဖြစ်ကြ၏။ သမ္ဗုလမှာ ကောသလမင်းကြီး၏ မိဖုရားခေါင် မလ္လိကာ၏ လောင်းလျာဖြစ်၏။

**စန္ဒကိန္နရီ၏ ဇာတ်လမ်း**ကား ဤသို့တည်း။ ရှေးလွန်လေပြီးသော အခါ ဗာရာဏသီပြည်၌ ဒေဝဒတ်လောင်းဖြစ်သော ဗြဟ္မဒတ်မင်းသည် မင်းပြု၏။ ထိုမင်းသည် အမဲလိုက်ဝါသနာပါရကား တစ်နေ့

တွင် ဖန်ရည်စွန်းသောအဝတ်ကို ဝတ်လျက် မုဆိုးအသွင်ဖြင့် ဟိမဝန္တာတောသို့ တစ်ကိုယ်တည်းထွက်သွား၏။

ထိုအချိန်အခါ၌ စန္ဒကိန္နရီနှင့် ဘုရားလောင်းဖြစ်သော စန္ဒကိန္နရာတို့သည် စန္ဒမည်သော ငွေတောင်ပေါ်တွင်နေထိုင်ကြ၏။ နေခြည်ဖြာဆမ်းထားသဖြင့် တင့်လန်းသာယာသော နံနက်ခင်းတွင် ကိန္နရီမောင်နှံစုံတို့သည် ငွေတောင်ထက်မှဆင်းသက်ကာ ပျော်ရွှင်စွာသီဆို ကခုန်ကြ၏။

ထိုအခါ နတ်သမီးတမျှလှပတင့်တယ်သော စန္ဒကိန္နရီကို ဗြဟ္မဒတ်မင်း မြင်ရသဖြင့် အလွန်စုံမက်တပ်စွန်းသောစိတ် ဖြစ်ပေါ်လာ၏။ သို့အတွက် သူ့မယားကို သိမ်းပိုက်နိုင်ရေးအတွက် စန္ဒကိန္နရာကို မြားဖြင့်ပစ်ခွင်းလိုက်လေ၏။ ကိန္နရာသည် မြားဒဏ်သင့်၍လဲကျကာ သတိမေ့သွား၏။

စန္ဒကိန္နရီသည် ချစ်လင်ကိုပွေ့ဖက်၍ သည်းထန်စွာငိုကြွေးလေ၏။ ဗြဟ္မဒတ်မင်းကြီးက တပ်မက်မှုရာဂနှင့်တကွ နှုတ်ခမ်းကိုလျှာဖြင့်လျက်ကာ တရွေ့ရွေ့ချဉ်းကပ်လာ၏။ ရန်သူ၏အရိပ်အယောင်ကိုမြင်ရလေလျှင် ကိန္နရီမယ်သည် တောင်ထိပ်ပေါ်သို့ထွက်ပြေးပြီး ဗြဟ္မဒတ်မင်းအား ငါးဂါထာတို့ဖြင့် အပြစ်တင်ရှုတ်ချ၏။

ဗြဟ္မဒတ်မင်းသည် စန္ဒကိန္နရီအား ချစ်ကျွမ်းဝင်မိ၍ ကိန္နရာဖိုအား မြားဖြင့်ပစ်ခွင်းမိသည်ကို ခွင့်လွှတ်ရန် တောင်းပန်၏။ စန္ဒကိန္နရီအား မင်းနေပြည်တော်သို့ခေါ်ဆောင်၍ ကြီးကျယ်သောအဆောင်အယောင်ဖြင့် မိဖုရားမြှောက်လိုကြောင်းကိုလည်း ဖွင့်ဆိုပန်ကြား၏။

ကိန္နရီမယ်က ခါးခါးသီးသီးငြင်းဆန်၏။ ဗြဟ္မဒတ်မင်းချဉ်းကပ်

လာလျှင် မိမိ၏အသက်ကိုအဆုံးစီရင်၍ မိမိခင်ပွန်းနှင့်အတူ သေပွဲဝင်မည်ဟုပြောဆို၏။ မည်သို့မျှဖြားယောင်း၍မရသည့်အခါ ဗြဟ္မဒတ်မင်းလက်လျှော့ပြီး ထွက်ခွာသွား၏။

စန္ဒကိန္နရီသည် ခင်ပွန်းထံသို့ပြန်လာပြီးလျှင် ကိန္နရာ၏ဦးခေါင်းကို မိမိပေါင်ပေါ်တင်လျက် ၁၂ ဂါထာတို့ဖြင့် ကိန္နရာ၏ဂုဏ်ကျေးဇူးကို ထုတ်ဖော်သီကျူးလျက် သည်းထန်စွာငိုကြွေးလေ၏။ ထို့နောက် ကိန္နရာ၏ရင်ဘတ်ပေါ်၌ လက်တင်၍စမ်းကြည့်ရာအသက်မသေသေးကြောင်းကိုသိရသဖြင့် လောကပါလနတ်များအား သစ္စာပြု၍တိုင်တည်လေ၏။

သိကြားမင်းသည် ပုဏ္ဏားအသွင်ဖြင့်ဆင်းလာပြီး ကိန္နရာ၏ကိုယ်ပေါ်သို့ မိမိနှင့်ပါလာသောကရားမှရေကို သွန်းလောင်းလိုက်၏။ ထိုခဏတွင်ပင် မြားဆိပ်များပြေလျှော့သွားပြီး ကိန္နရာသည် လဲလျောင်းနေရာမှ ရုတ်ခြည်းထလေတော့၏။

**သမ္ဗုလဇာတ်** ၌ ဗာရာဏသီပြည်တွင် ဗြဟ္မဒတ်မင်းသည် သားတော်သောတ္ထိသေနမင်းသားအား အိမ်ရှေ့အရာကို ပေး၏။ ထိုအိမ်ရှေ့မင်းသား၏မိဖုရားကား အလွန်တရာချောမောလှပသည့်သမ္ဗုလဖြစ်၏။ သမ္ဗုလသည် ကိုယ်ရောင်ကိုယ်ဝါအမြဲထွန်းလင်းတောက်ပနေသူဖြစ်၏။ လင်ယောကျ်ားအပေါ်၌လည်း အလွန်ဝတ္တရားကျေပွန်သူဖြစ်၏။

သောတ္ထိသေနမင်းသားသည် စည်းစိမ်ရှင်အိမ်ရှေ့မင်းသားဖြစ်သည့်အပြင် လူမက နတ်တမျှလှပချောမောသည့်မိဖုရားကို ရရှိထားသည့်အတွက် အလွန်ပြည့်စုံသူ၊ ကံကောင်းသူဟုဆိုရမည်ဖြစ်၏။

သို့သော် လူဘဝသည် ပန်းခင်းမွေ့ရာမဟုတ်၊ လောကခံဆူးငြောင့် ခလုတ်ကံသင်းတို့ဖြင့် ပြည့်နှက်နေတတ်၏။

သောတ္ထိသေနမင်းသားတွင် ဘယ်လိုမှမမျှော်လင့်မိသော ကြမ္မာဆိုးသည် ရုတ်တရက်ဝင်လာ၏။ ထိုကြမ္မာဆိုးကား နူနာရောဂါစွဲကပ်ခြင်းပေတည်း။

ဘုရင့်သမားတော်အကျော်အမော်များဖြင့် ကြိုးစားကုသကြ၏။ နူနာရောဂါကား မပျောက်သည့်အပြင် ပို၍ပို၍ဆိုးဝါးလာ၏။ နောက်ဆုံးတွင် မင်းသားသည် လူတောထဲ၌နေရန် မသင့်လျော်တော့သော အခြေအနေသို့ ဆိုက်ရောက်လာ၏။ သို့အတွက် မိမိတစ်ဦးတည်း တောထဲသို့ဝင်၍ အသေခံတော့မည်ဟု မင်းသားဆုံးဖြတ်လိုက်၏။

ထိုအခါ ဇနီးလိမ္မာသမ္ဘူလက ဆိုးအတူ ကောင်းအတူ၊ အေးအတူပူအမျှ မိမိပါလိုက်ပါ၍ ဝတ်ကြီးဝတ်ငယ်ပြုပါရစေဟု တဖွဖွ ခယတောင်းပန်သဖြင့် အတူလိုက်ပါခွင့်ရ၏။

သောတ္ထိသေနနှင့် သမ္ဘူလတို့သည် သစ်သီးဝလံများနှင့် ရေရလွယ်သောနေရာအရပ်၌ ကျောင်းသင်္ခမ်းကလေး ဆောက်လုပ်ကာ အတူနေထိုင်ကြ၏။ သမ္ဘူလသည် သစ်သီးကြီးငယ်ရှာဖွေ၍ ချစ်လင်အား လုပ်ကျွေး၏။ မျက်နှာသစ်ရေ၊ ချိုးရေတို့ကို ဆောင်ယူပြီး မင်းသားအား မျက်နှာသစ်ပေး၏၊ ရေချိုးပေး၏၊ နံ့သာလိမ်းကျံပေး၏၊ ခြေဆုပ်လက်နယ်ပြုပေး၏။

တစ်နေ့တွင် သမ္ဘူလသည် သစ်သီးခြင်းတောင်းကလေးကိုချ၍ စမ်းချောင်းငယ်တစ်ခုတွင် ရေချိုး၏။ သမ္ဘူလ၏ကိုယ်ရောင်ကိုယ်ဝါတို့သည် တောတန်းအနှံ့ ထွန်းလင်းတောက်ပနေ၏။

ထိုတောတန်းသို့ အခန့်သင့်ရောက်လာသော တာနောဘီလူးကြီး သည် သမ္ဗူလကိုမြင်လေလျှင် စုံမက်တပ်ငြိမိလေ၏။

"ချစ်နှမ... သင်မည်သူနည်း၊ မိန်းမမြတ်တို့၏ ကောင်းခြင်း ငါးဖြာနှင့်ပြည့်စုံသောသင်သည် မည်သည့်မျိုးရိုးမှဆင်းသက်လာ သနည်း"

"ကျွန်မဟာ ဗာရာဏသီပြည်ကြီး၏ အိမ်ရှေ့စံ သောတ္ထိသေန မင်းသားရဲ့ မိဖုရားဖြစ်ပါတယ်၊ ကျွန်မဟာ နူနာရောဂါစွဲကပ်နေတဲ့ ခင်ပွန်းလင်ကို ပြုစုလုပ်ကျွေးနေပါတယ်"

"အို...နှမ၊ သို့ဆိုလျှင် နူနာစွဲနေတဲ့ သင့်ချစ်လင်ကို စွန့်ပစ်လိုက် ပါတော့။ ပင်ပန်းစွာရှာဖွေကျွေးမွေးနေရတဲ့ ဆင်းရဲဒုက္ခကိုလည်း အဆုံးသတ်လိုက်ပါတော့၊ ငါ ယက္ခမင်းသည် သင့်အား မိဖုရားခေါင် အဖြစ် တင်မြှောက်ပါအံ့။ ငါ့ရဲ့ဇနီးမယားလေးရာတို့သည် သင့်ရဲ့ အခြွေအရံများဖြစ်ပါစေအံ့။ ငါနဲ့အတူ မွေ့လျော်ပျော်ရွှင်ဖွယ်ကောင်း သော ယက္ခဗိမာန်၌ စံမြန်းပါလေလော့"

"အို... အစွယ်ခေါခေါ, ဆံကျစ်ခုနစ်ထုံး, ကိလေသာမျက်လုံး ကြီးများနဲ့ ရူးရူးဝါးဝါးကြည့်နေတဲ့ ယက္ခမင်း၊ အကျွန်ုပ်သည် သင် ၏ မိဖုရားခေါင်အဖြစ်ကို တစိုးတစိကလေးမျှ အလိုမရှိ၊ အကျွန်ုပ် ၏ ချစ်လင်သောတ္ထိသေနမင်းသားကို အသက်ထက်ဆုံး ပြုစုလုပ် ကျွေးရန်ကိုသာ အလိုရှိ၏။ လင်ရှိမယားကို သင်မပြစ်မှားကောင်း ပါ"

"ချောနှမ ...ငါ့ရဲ့ကမ်းလှမ်းချက်ကိုသင်လက်မခံလျှင် သင့်အား နံနက်စာအဖြစ် ကြွပ်ကြွပ်ဝါးစားရပေအံ့။ ငါ့ရဲ့ကမ်းလှမ်းချက်ကို

လက်ခံပါလော့။ ငါ့ရဲ့ယက္ခဗိမာန်ကို သင်အုပ်စိုးပါလော့။ လာ... လိုက်ခဲ့တော့"

တာနောဘီလူးသည် သမ္ဗုလ၏ လက်ကို ကိုင်ဆွဲ၏။ သမ္ဗုလသည် ရှန်းကန်၍ငိုကြွေး၏။ အင်အားချင်းက အလွန်မမျှတပါလေ။

"အိုး...လွှတ်ပါ အသားစားကြူးတဲ့ ယက္ခဘီလူး၊ အကျွန်ုပ်သည် သင်၏ သတ်ဖြတ်ခဲစားခြင်းကို တစ်ဆံခြည်ကလေးမျှ စိုးရွံ့ကြောက်လန့်ခြင်းမရှိပါ။ အကျွန်ုပ်၏ ခင်ပွန်းလင်က အကျွန်ုပ်အပေါ်၌အထင်လွဲမှားမည်ကိုသာ အလွန်တရာစိုးရိမ်ကြောက်ရွံ့ပါ၏။ လောကကို စောင့်ရှောက်တတ်ကြသော လောကပါလနတ်မြတ်အပေါင်းတို့... ကျွန်ုပ်အား ကယ်တင်ကြပါလော့၊ ဘီလူးကြမ်းလက်တွင်းမှ လွှတ်မြောက်အောင် အဆောတလျင်ကယ်မကြပါလော့"

သီလဖြူစင်သူ သစ္စာစင်ကြယ်သူက အပူတပြင်းတိုင်တည်တမ်းတသည်ကို လောကကိုစောင့်ရှောက်နေကြသည့် နတ်များက လျစ်လျူရှု၍မရ။ သိကြားမင်း၏ ပဏ္ဍုကမ္ဗလာမြကျောက်ဖျာသည် တင်းမာပူနွေးလာတော့၏။ သိကြားမင်းသည် သန်လျက်ကိုစွဲကိုင်လျက် တစ်မုဟုတ်ချင်း ဆင်းသက်လာ၏။

"ဟဲ့...တာနောဘီလူးယုတ်၊ အမျိုးသမီးလက်ကို လွှတ်လော့။ ဤအမျိုးသမီးသည် သီလစင်ကြယ်၏၊ လင်သားအပေါ်သစ္စာရှိ၏၊ အမျိုးသမီးတကာတို့ထက် ပိုမြတ်၏။ အဘယ်ကြောင့် သူတော်ကောင်းကို သင်ပြစ်မှားလေသနည်း။ သင့်အား အပြစ်ဒဏ်ပေးရအံ့၊ သင့်ကို သံခြေကျင်းဖြင့်နှောင်ဖွဲ့၍ တောင်သုံးလုံးအကြားတွင် ပစ်ချပေအံ့။ ကဲ...သွားလေရော့"

သမ္ဗုလသည် ဘီလူးလက်တွင်းမှ လွှတ်မြောက်လေလျှင် သိကြား

မင်းအား ကျေးဇူးတင်စကားပြောကြားပြီး သစ်သီးခြင်းတောင်းကို ဆွဲကိုင်၍ကျောင်းသင်္ခမ်းကလေးဆီသို့ အပြေးလာခဲ့၏။ ထိုအချိန်တွင် နေဝင်ပြီး ညဦ့အမှောင်ပင် လွှမ်းလာနေပေပြီ။

သမ္ဘူလသည် လင်တော်မောင်၏ခြေတော်အစုံ၌ မိမိကိုယ်ကိုပုံလှဲ၍ ငိုပွဲဆင်ရန်ကြံစည်စိတ်ကူးခဲ့ပေသော်လည်း မောင်တော်မင်းသားမှာ ပျောက်ခြင်းမလှပျောက်နေပေ၏။ မင်းသားရှိတတ်သည့်နေရာများ၌ အနှံ့လိုက်ရှာသည်။ မတွေ့။ မောင်တော်...မောင်တော်ဘုရား ဘယ်များရောက်သွားပါလိမ့်။ နှမတော်ကို အထင်လွဲနေပြီလား...။ ကြေကွဲဝမ်းနည်းကာ ငိုပွဲဆင်ပြန်လေ၏။

တောစောင့်နတ် တောင်စောင့်နတ်များကို တိုင်တည်၏။ ရုက္ခစိုးနတ်များကိုလည်း တိုင်တည်၏။ ခင်ပွန်းလင်အား ပြန်လည်တွေ့ရှိရပါမည့်အကြောင်း ငိုယိုမြည်တမ်းကာ ဆုတောင်း၏။ ဗျာပါလိုက်ဆု သည်းအူပြတ်မျှ လူးလိမ့်ကာခံစားနေရသော ဇနီးချောကို အရိပ်အခြည်ချောင်းမြောင်းကြည့်ရှုနေသည့်မင်းသားက သနားကြင်နာလာ၍ ပုန်းကွယ်နေရာမှ ထွက်လာ၏။ သို့သော် မျက်နှာထားတင်းတင်းနှင့် မေးမြန်းစုံစမ်းလိုက်၏။

"နှမတော်...ကနေ့နောက်ကျလှချည်ကလား၊ တောထဲမှာ ငါ့ထက်သာတဲ့ယောကျ်ားတစ်ယောက်ကို မြင်တွေ့ခဲ့လေသလား"

"ဟင်း...မဟုတ်ပါဘူး မောင်တော်ရယ်၊ တာနောဘီလူးကြီးက နှမတော်ရဲ့လက်ကိုဆွဲထားလို့ နှမတော်ရုန်းမထွက်နိုင်တာပါ။ တာနောဘီလူးက သူ့မိဖုရားခေါင်လုပ်ပါတဲ့၊ မလုပ်ရင် ဝါးစားမယ်တဲ့။ နှမတော်က စားချင်လဲစား၊ ကျွန်ုပ်ခင်ပွန်းလင်ကလွဲပြီး ဘယ်သူ့ကိုမှ မယူနိုင်ဘူး၊ ကျွန်မသေရမှာကိုလဲ နည်းနည်းမှမကြောက်ဘူး၊ ကျွန်မ

ရဲ့ ခင်ပွန်း အထင်အမြင်လွဲမှာကိုပဲ ကျွန်မစိုးရိမ်ကြောက်ရွံ့နေတယ်လို့ နှမတော်ပြောလိုက်တယ်။ ဘီလူးက မလွှတ်ဘူး၊ အဲဒီတော့ လောကပါလနတ်မင်းများကို နှမတော်တိုင်တည်လိုက်ပါတယ်။ သိကြားမင်းက သန်လျက်စွဲကိုင်ပြီးဆင်းလာတယ်၊ တာနော့ဘီလူးကို သံခြေကျင်းခတ်ပြီး တောင်သုံးလုံးအလယ်မှာ ပစ်ချလိုက်သတဲ့။ ဘီလူးလက်ကလွှတ်တာနဲ့ နှမတော်ပြေးပြန်လာတာပါ မောင်တော်ရဲ့"

"မယုံနိုင်ပါဘူးနှမတော်၊ မိန်းမတို့ရဲ့မာယာဟာ ထွေပြားလှပါတယ်။ မိန်းမမာယာသဲကိုးဖြာတဲ့၊ မာယာတစ်သိန်း အပလိန်းအနန္တတဲ့။ မိန်းမအလိုသဘောကိုလျှင်၊ ထဲသိပိုက်ထား၊ ရေဒ္ဒငါးသို့၊ ထင်ရှားဘယ်ခါ၊ မသိရာဘူးတဲ့။ နှမတော်ရဲ့အလိုမပါဘဲ ခုလိုကြန့်ကြာတယ်ဆိုတာ မဖြစ်တန်ရာပါဘူး"

"နှမတော်ဟာ ရိုးဖြောင့်သူတစ်ဦးပါ၊ အပလီအပလာ မလုပ်တတ်ပါဘူး၊ နှမတော်ရဲ့ဘဝတစ်ခုလုံးကို မောင်တော်အား ပုံအပ်ထားတာပါ၊ နှမတော်အသည်းခိုက်အောင် မောင်တော်မပြောပါနဲ့၊ မောင်တော်မကျေနပ်သေးဘူးဆိုရင် နှမတော်သစ္စာဆိုပါ့မယ်...

"နှမတော်သည် အရှင့်သားတစ်ယောက်တည်းကိုသာ သစ္စာခိုင်ခိုင် သက်ဆုံးတိုင်အောင် ချစ်မြတ်နိုးပါ၏၊ အရှင့်သားမှလွဲ၍ မည်သည့်ယောကျ်ားတစ်စုံတစ်ယောက်ကိုမျှ တပ်မက်တွယ်တာသည့်စိတ်ဖြင့် မကြည့်ခဲ့ဖူးပါ။ ဤစကားသည်မှန်၏။ ဤမှန်သောသစ္စာစကား၏ အာနုဘော်ကြောင့် ဤရေအိုးကို အရှင့်သားကိုယ်ပေါ်သို့ သွန်လောင်းချသည့်တစ်ခဏ၌ အရှင့်သား၏ နူနာရောဂါသည် လုံးဝပျောက်ကင်းပါစေသတည်း"

သစ္စာကိုမြတ်နိုးပြီး သစ္စာကိုစောင့်ထိန်းသူများအဖို့ သစ္စာသည် အရာရာကို စွမ်းဆောင်ပေးနိုင်သည်သာဖြစ်၏။

သစ္စာ၏တန်ခိုးတော်ဖြင့် သောတ္တိသေနမင်းသား၏ နူနာရောဂါသည် လက်ဖဝါးပေါ်မှယူပစ်လိုက်သည့်ပမာ ချက်ချင်းပျောက်ကင်းသွားလေ၏။ အိမ်ရှေ့မင်းသားနှင့်မင်းသမီးတို့ ပြည်တော်ပြန်ကြသည့်အခါ ခမည်းတော်မင်းတရားကြီးက ဝမ်းမြောက်ဝမ်းသာ ဆီးကြိုပြီး ထီးနန်းစည်းစိမ်ကို အပ်နှင်းပေးလေ၏။

## အမျိုးသမီးများ၏သက်စောင့်ဆေးကြီး

'ယောက်ျားဖောင်စီး၊ မိန်းမမီးနေ' ဟူသော ဆိုရိုးစကားရှိသည့်အတိုင်း ခေတ်မီဆေးဝါးများနှင့် နည်းပညာများမပေါ်ထွန်းမီအခါက အမျိုးသမီးများကလေးမွေးဖွားရခြင်းသည်အသက်ဘေးအန္တရာယ်နှင့် အလွန်နီးကပ်သောအခါပေတည်း။

ယခုခေတ်၌ပင်သော်လည်း မွေးဖွားရန်ခက်သောကလေးမိခင်များမှာ အလွန်ပြင်းထန်သည့်ဆင်းရဲဒုက္ခကို နာရီပေါင်းများစွာခံစားကြရ၏။ ဤအခါမျိုးတွင် သစ္စာ၏စွမ်းအားကို အသုံးပြုထားသည့် **အင်္ဂုလိမာလပရိတ်တော်** သည် အလွန်အားကိုးလောက်သော သက်စောင့်ဆေးတော်ကြီးဖြစ်၏။

ကိုယ်ဝန်ဆောင်စဉ်ကတည်းကဖြစ်စေ၊ မွေးဖွားခါနီး၌ဖြစ်စေ အင်္ဂုလိမာလပရိတ်တော်ကို ရိုရိုသေသေ ယုံယုံကြည်ကြည်ရွတ်ဆိုကြသော မိခင်လောင်းများသည် ဆရာဝန်များကပင် အံ့သြရလောက်အောင် လွယ်ကူသက်သာစွာ မွေးဖွားကြလေ၏။ သို့အတွက် အင်္ဂုလိမာလပရိတ်တန်ခိုးကို ယုံကြည်ကြသောဆရာဝန်များသည် အင်္ဂုလိ

မာလပရိတ်ကို နှုတ်ငုံဆောင်၍ ကလေးမွေးဖွားမည့်မိခင်၏ ခေါင်းရင်းဘက်၌နေ၍ ရွတ်ဆိုပေးခြင်းဖြင့်ဖြစ်စေ၊ သောက်ရေတစ်ခွက်ကို အင်္ဂုလိမာလပရိတ်ဖြင့် ထုံမွမ်းပြီး မိခင်လောင်းအား သောက်စေခြင်းဖြင့်ဖြစ်စေ လွယ်ကူချမ်းသာစွာကလေးမွေးဖွားရန် ကူညီပေးနိုင်ကြ၏။

*"မချိပြင်းပြ၊ ဣတ္ထိယလည်း၊ သားလှမဖွား၊ ခက်ခဲကြားသော်၊ စကားသစ္စာ၊ မှန်စွာပြုဘိ၊ အင်္ဂုလိဟု၊ မည်ရှိခေါ်ဆို၊ ရန်စစ်ပြိုလျက်၊ ရေကိုသုံးခါ၊ စစ်ပြီးခါမှ၊ သစ္စာ မန်းတိုက်၊ ကိုယ်၌အန္တ ရာယ်၊ စင်ကြယ်လွတ်ကြား၊ သားလျှင်ဖွား၏"*

သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ မြတ်စွာဘုရားသီတင်းသုံးနေတော်မူစဉ်အခါ အင်္ဂုလိမာလမထေရ်သည် သာဝတ္ထိမြို့တွင်းသို့ ဆွမ်းခံဝင်တော်မူ၏။ သားမဖွားနိုင်သောမိန်းမငယ်တစ်ဦး၏ အော်ငိုနေသံကိုကြား၍ အလွန်သနားတော်မူသဖြင့် ကျောင်းတော်သို့ အလျင်အမြန်ပြန်လာပြီးလျှင် မြတ်စွာဘုရားအား လျှောက်ထား၏။

မြတ်စွာဘုရားသည် အင်္ဂုလိမာလမထေရ်အား...'ယတောဟံ ဘဂိနိ' အစရှိသော ပရိတ်တော်ကို သင်ကြားပေးပြီးလျှင် တင်းတိမ်ပြင်ပကနေ၍ ရွတ်လေဟု မိန့်တော်မူ၏။ မထေရ်သည် လျင်မြန်စွာသွားရောက်၍ မိန်းမငယ်ကို တင်းတိမ်ရံစေပြီးလျှင် ပြင်ပ ညောင်စောင်းထက်၌ ထက်ဝယ်ဖွဲ့ ခွေနေတော်မူလျက် ပရိတ်တော်ကို ရွတ်ဆိုလေ၏။ မိန်းမငယ်သည်လည်း ရှိခိုး၍ ရိုသေစွာနာ၏။ ထိုခဏ၌ပင် မျက်နှာမြင်၍ မိခင်ရောကလေးပါ ချမ်းသာကြလေ၏။

နောင်အခါ သားမဖွားနိုင်သောမိန်းမတို့ကို ယူဆောင်၍ အင်္ဂုလိမာလမထေရ် ပရိတ်ရွတ်သည့်နေရာ၌ထားသောအခါ ချမ်းသာစွာမီး ဖွား နိုင် ကြ ၏။ ပ ရိတ် ရွတ် ရာ အ ရပ် သို့ မ ဆောင် ယူ နိုင် ခဲ့ သော် မထေရ်မြတ်ပရိတ်ရွတ်စဉ်က ထိုင်သောနေရာကို ရေဆေး၍ ထိုရေဖြင့် သားမဖွားနိုင်သောအမျိုးသမီး၏ဦးခေါင်းကို သွန်းလောင်းလျှင်လျင်မြန်စွာသားဖွားနိုင်၏။

ထိုအချိန်မှစ၍ အင်္ဂုလိမာလမထေရ်သည် မေတ္တာရှင်, ကရုဏာရှင်တစ်ဦးအဖြစ် ထင်ပေါ်ကျော်ကြားလာ၏။ လူအပေါင်းတို့၏ ကြည်ညိုလေးမြတ်ခြင်းကိုလည်း ခံယူရ၏။ ထိုအခါမတိုင်မီ ရှေးကာလ၌ လူဆိုးကြီးအင်္ဂုလိမာလအဖြစ် ဆရာသမားအား လက်ညှိုးတစ်ထောင်ပူဇော်နိုင်ရေးအတွက် သာဝတ္ထိပြည်သူများစွာကို သတ်ဖြတ်ခဲ့သည့်အကြောင်းကြောင့် အင်္ဂုလိမာလမထေရ်ဆွမ်းခံကြွလျှင် အသတ်ခံခဲ့ရသူတို့၏ ဆွေမျိုးများက ခဲနှင့်ပစ်, တုတ်နှင့်ရိုက်ကြ၏။ သို့အတွက် အင်္ဂုလိမာလမထေရ်သည် ဦးခေါင်း၌သွေးယိုစီးလျက်နေ့စဉ်ပြန်ကြွလာရ၏။ ကလေးနှင့်မိခင်များ ချမ်းသာအောင် ပရိတ်ရွတ်ပေးပြီးသည့်နောက်၌ကား အင်္ဂုလိမာလမထေရ်အား ဘေးအန္တရာယ်မပြုကြတော့ချေ။

သို့အတွက် အင်္ဂုလိမာလပရိတ်သည် သားဖွားလွယ်ရုံမျှသာမဟုတ်၊ ကိုယ်တွင်းကိုယ်ပ ဘေးအန္တရာယ်များကိုလည်း ပျောက်ကင်းစေနိုင်၏။

အမျိုးသမီးတို့၏ 'သက်စောင့်ဆေးတော်ကြီး'ဖြစ်သည့် အင်္ဂုလိမာလပရိတ်သည် လေးပိုဒ်တစ်ဂါထာမျှသာရှည်သဖြင့် အမျိုးသမီး

တိုင်း နှုတ်ငုံဆောင်ထားသင့်ပေ၏။ အင်္ဂုလိမာလပရိတ်ပါဠိတော်နှင့် အဓိပ္ပာယ်တို့ကို ဖော်ပြပေးပါအံ့။

ယတောဟံ ဘဂိနိ အရိယာယ ဇာတိယာ
ဇာတော၊ နာဘိဇာနာမိ သဉ္စိစ္စပါဏံ ဇီဝိတာ
ဝေါရောပေတာ၊ တေန သစ္စေန သောတ္ထိတေ
ဟောတု သောတ္ထိဂဗ္ဘဿ။

"အို...နှမငယ်၊ ငါသည် အရိယာဇာတ်နွယ် ရဟန်းမြတ်ဖြစ်သည့်အချိန်အခါမှစ၍ သူတစ်ပါး၏အသက်ကို သေစေလိုသောစေတနာဖြင့် သတ်ဖြတ်ဖူး၏ဟူ၍ငါမသိ။ ဤသို့မှန်စွာဆိုသော သစ္စာစကားကြောင့် သင်နှမငယ်အား ဆင်းရဲလွတ်ကင်းချမ်းသာအေးမြခြင်းသည် ဖြစ်ပါစေသတည်း။ ဝမ်း၌မှီတွယ်သားငယ်အားလည်း ဆင်းရဲလွတ်ကင်းချမ်းသာအေးမြခြင်းသည် ဖြစ်ပါစေသတည်း"

## ဆရာဝန်ကိုယ်တွေ့မမွေးစွမ်းကောင်း

မြတ်မင်္ဂလာအတွဲ ၄၊ အမှတ် ၇၊ ၁၉၈၉ ခုနှစ် ဇန်နဝါရီလထုတ်စာစောင်တွင် **ဒေါက်တာဝေဝေမြင့်**၏ ကိုယ်တွေ့ဆောင်းပါးမှာ ဆေးဖိုးဝါးခဈေးကြီးသည့်ခေတ်ကာလ၌ ရောဂါများနှင့် မကင်းနိုင်ကြသောလူအားလုံးအတွက် အလွန်မှတ်သားဖွယ်ဖြစ်၏။ တန်ဖိုးလည်း ရှိလှပေ၏။

ဒေါက်တာဝေဝေမြင့်သည် ၁၀ နှစ်ကျော်ဆေးကုသခဲ့သည့်ကာလတွင် လူနာများကို ကြည့်ရှုစမ်းသပ်နေသည့်အခါများ၌ မေတ္တာသုတ်ကို အမြဲလိုလိုစိတ်ထဲမှရွတ်ဆိုလေ့ရှိသဖြင့် တန်ဖိုးမဖြတ်နိုင်သော အကျိုးကျေးဇူးများကို ရရှိခဲ့သည်ဟုဆို၏။

ထို့အပြင် စိတ်ဝင်စားဖွယ်ရာ သူ့ကိုယ်တွေ့ဖြစ်ရပ်တစ်ခုမှာ သူ့ညီမအရင်းကဲ့သို့ချစ်ခင်ရသော လူနာတစ်ဦးကို ဆေးကုသပုံဖြစ်၏။ ထိုညီမတွင် ဗိုက်အောင့်ရောဂါ (အစာအိမ်ရောဂါ) စွဲကပ်နေခဲ့သည်မှာ ၁၀ နှစ်ကျော်ကြာပါပြီ။ မခံမရပ်နိုင်အောင် ခဏခဏဗိုက်အောင့်တတ်သော ထိုညီမအား မကြာခဏဆေးရုံတင်ပေးရ၏။ ဒေါက်တာဝေဝေမြင့်ကလည်း ကြိုးစား၍ကုသပေးခဲ့၏။ အကောင်းဆုံးဆေးများကိုလည်း ထိုးပေးခဲ့၏။ ရောဂါကား မထူးခြားလှ။ ခဏတဖြုတ်လောက် သက်သာရုံသာရှိ၏။

ထိုညီမဝေဒနာပြင်းထန်နေသည့်အချိန်တွင် အိပ်ပျော်သွားစေရန်အတွက် နောက်ဆုံးပေါ်အင်္ဂလိပ်ဆေးမျိုးစုံ၊ အိပ်ဆေး၊ စိတ်ငြိမ်ဆေးမျိုးစုံကို လှည့်သုံးခဲ့၏။ သို့သော် ထိုခေတ်မီဆေးဝါးတို့ကပင် ထိုညီမအား မေ့စက်သွားအောင် မပြုပေးနိုင်ကြတော့ချေ။

တစ်နေ့တွင် ထိုညီမက သူဖတ်လိုက်ရသည့် ဆောင်းပါးတစ်ပုဒ်ကို ဒေါက်တာဝေဝေမြင့်အား ပြောပြ၏။ ထိုဆောင်းပါးပါအကြောင်းအရာမှာ ဤသို့တည်း။

ဇနီးမောင်နှံတစ်စုံ၌ ခင်ပွန်းဖြစ်သူက အမဲသားအလွန်ကြိုက်၏။ ဇနီးဖြစ်သူက ဘုရားတရား အလွန်ကြည်ညို၏။ ဇနီးက သားကြီးငါးကြီး မစားသဖြင့် ခင်ပွန်းအား အမဲသားမစားရန် တားမြစ်၏။ ပြော၍မရသည့်အတွက် အမဲသားဟင်း ချက်ကျွေးရ၏။ ခင်ပွန်းကအားရပါးရစား၏။ ညဥ့်ဘက်တွင် မရှုနိုင်မကယ်နိုင် ဗိုက်အောင့်လာ၏။

ထိုအခါ ဇနီးသည်က ငါးပါးသီလခံယူပြီးနောက် ခင်ပွန်းထံမှနောင်တွင် အမဲသားမစားတော့ပါဟူသောကတိကို တောင်းခံ၏။

ကတိပြုချက်ရသည့်အခါ ခင်ပွန်းသည်၏ဝမ်းဗိုက်ပေါ်တွင် လက်တင်လျက် **'ဗောဇ္ဈင်္ဂသုတ်'** ကို ရွတ်ဆိုပေး၏။ ခင်ပွန်းသည် ညည်းညူနေရာမှ တဖြည်းဖြည်း အသံတိုးသွားပြီး နှစ်နှစ်ခြိုက်ခြိုက်အိပ်ပျော်သွားလေ၏။

ဒေါက်တာဝေဝေမြင့်သည် ဤဖြစ်ရပ်ကို စိတ်ဝင်စားသဖြင့် ဗောဇ္ဈင်္ဂသုတ်ကို ကျက်မှတ်ထား၏။ ထို့နောက် အစာအိမ်ရောဂါရှင် ညီမက ဗိုက်အောင့်သည့်အခါ သူ့ဗိုက်ပေါ်တွင် လက်တင်၍ ဗောဇ္ဈင်္ဂသုတ်တော်ကို ရွတ်ပေး၏။ ဤတွင် အိပ်ဆေးများဖြင့် အိပ်မပျော်သောလူနာသည် ဗောဇ္ဈင်္ဂသုတ်ကို သုံးလေးခေါက်ရွတ်လိုက်သည်ဆိုလျှင်ပင် အိပ်ပျော်သွားပါတော့၏။

ဒေါက်တာဝေဝေမြင့်သည် အလွန်သဘောကျနှစ်သက်ပြီး ခင်မင်ရင်းနှီးသည့်လူနာများကို ဆေးကုသသည့်အခါ အခက်အခဲတွေ့ပါက နားကြပ်နှင့်ဆေးထိုးအပ်တို့ကို ဘေး၌ချထားလိုက်ပြီး ဗောဇ္ဈင်္ဂသုတ်ကို ရွတ်ဆိုပေး၏။ ရွတ်ဆိုပေးတိုင်းလည်း အစွမ်းထက်သည်ကို တွေ့ရ၏။ ထို့ကြောင့် ဆေးဝါးလည်းမလို၊ ဆေးထိုးအပ်လည်း မလိုသည့် အစွမ်းထက်မြက်သော ဤဆေးကုနည်းကို အများပြည်သူတို့ ယုံကြည်စွာအသုံးပြုကြရန် ဒေါက်တာဝေဝေမြင့်က သူ့ကိုယ်တွေ့ဆောင်းပါးဖြင့် နှိုးဆော်လိုက်ခြင်းဖြစ်ပေ၏။

အဖိုးအခကြီးမားသော နိုင်ငံခြားဆေးများကို မှီခိုအားထားနေကြသည့် တိုင်းရင်းသားများသည် ပြည်တွင်းရှိဗုဒ္ဓဘာသာဖြစ် ဆေးစွမ်းကောင်းများကို တစ်လှည့်တစ်ပြန်မှီဝဲသင့်ကြပေ၏။

ဗောဇ္ဈင်္ဂသုတ်တော်သည် ရောဂါဝေဒနာအမျိုးမျိုးကို သက်သာ

စေနိုင်, ပျောက်ကင်းစေနိုင်ကြောင်းကို ဗုဒ္ဓမြတ်စွာလက်ထက်တော်ကတည်းကပင် လူသိများခဲ့၏။ ရာဇဂြိုဟ်မြို့အနီး ဝိပ္ပလိလိုဏ်ဂူတောကျောင်း၌ သီတင်းသုံးတော်မူသော အရှင်မဟာကဿပ ဖျားနာသည့်အခါ မြတ်စွာဘုရားကြွသွားတော်မူပြီးလျှင် ဗောဇ္ဈင်္ဂသုတ်ကို ဟောတော်မူ၏။ အရှင်မဟာကဿပမထေရ်သည် တရားတော်ကို ရိုသေစွာနာယူရင်း နှစ်သက်ဝမ်းမြောက်တော်မူသဖြင့် သူ၏ရောဂါဝေဒနာသည် ပိန်းကြာဖက်မှရေလျှောကျသကဲ့သို့ တစ်ခဏချင်း လျှောကျပျောက်ကင်းသွားလေ၏။

ထို့အတူပင် ရာဇဂြိုဟ်ပြည်ဂိဇ္ဈကုဋ်တောင်၌ သီတင်းသုံးတော်မူသော အရှင်မဟာမောဂ္ဂလာန်မကျန်းမာသည့်အခါ ညဥ့်ချမ်းအချိန်၌ မြတ်စွာဘုရားကြွသွားတော်မူပြီး ဗောဇ္ဈင်္ဂသုတ်ကို ဟောတော်မူ၏။ လက်ဝဲရံမထေရ်ကျော်သည် တရားတော်ကိုနာယူရင်း ပီတိ, ပဿဒ္ဓိဖြစ်ပေါ်ပြီး ရောဂါဝေဒနာသည် ကရားမှရေသွန်ချသလို တစ်ခဏချင်း လျှောကျပျောက်ကင်းသွားလေ၏။

တစ်ဖန် ရာဇဂြိုဟ်ပြည်ဝေဠုဝန်ကျောင်းတော်၌ ဘုရားရှင်ကိုယ်တော်တိုင် နာမကျန်းဖြစ်တော်မူရာ ညဥ့်ချမ်းအချိန်၌ ကြွရောက်လာသော အရှင်စုန္ဒမထေရ်အား ဗောဇ္ဈင်္ဂသုတ်ကို ရွတ်စေတော်မူ၏။ ဘုရားရှင်သည် သုတ်တော်ကို နှစ်သက်ဝမ်းမြောက်စွာ နာယူရင်း ရောဂါအလျဉ်းပျောက်ကင်းသွားလေ၏။

ဘုရားရှင်လက်ထက်တော်မှစ၍ ဗောဇ္ဈင်္ဂသုတ်တော်သည် ရောဂါဝေဒနာသက်သာပျောက်ကင်းရေးအတွက် ဆေးစွမ်းကောင်း တစ်လက် ဖြစ်ခဲ့၏။

*"ဗောဇ္ဈင်္ဂသုတ်မြတ်၊ သုံးကြိမ်ဖတ်မူ၊ စွဲလတ်ရောဂါ၊ ဝေဒနာမှာ၊ ပိန်းကြာဖက်တွင်၊ ရေမတင်သို့၊ ကြည်လင်အေး မြ၊ ချမ်းသာရ၏"*

*"နာဖျားတာရှည်၊ မတည်စိတ်လက်၊ မသက်မသာ၊ တွေ့ ရောက်လာသော်၊ ပရိတ်တော်ဗောဇ္ဈင်၊ ကြည်ရွှင်သစ္စာ၊ ရွတ် ပါ သုံးကြိမ်၊ ရောဂါငြိမ်၏"*

ဗောဇ္ဈင်္ဂသုတ်တွင် သတိ၊ ပညာ၊ ဝီရိယ၊ ပီတိ၊ ပဿဒ္ဓိ၊ သမာဓိ၊ ဥပေက္ခာဟူသော ဗောဇ္ဈင်္ဂတရားခုနစ်ပါးတို့ရှိရာ ထိုတရားတို့ကို ပွား များအပ်သည်ရှိသော် သိသင့်သိထိုက်သောတရားတို့ကို မျက်ဝါးထင် ထင် သိမြင်ခြင်းအကျိုးငှာလည်းကောင်း၊ အရဟတ္တမဂ်ဉာဏ်တိုင် အောင် သစ္စာလေးပါးတို့ကို ထိုးထွင်းသိမြင်ခြင်းအကျိုးငှာလည်း ကောင်း၊ ဆင်းရဲခပ်သိမ်းငြိမ်းရာအမှန် နိဗ္ဗာန်ကိုမျက်မှောက်ပြုရခြင်း အကျိုးငှာလည်းကောင်း ကောင်းစွာဖြစ်ကုန်၏။ ဤသို့ မှန်စွာဆို သော သစ္စာစကားကြောင့် သင့်အား အခါခပ်သိမ်းဆင်းရဲလွတ်ငြိမ်း ချမ်းသာခြင်းသည် ဖြစ်ပါစေသတည်း...စသည်ဖြင့် ဗောဇ္ဈင်္ဂသုတ် တွင် ဗောဇ္ဈင်တရားတို့၏ ဂုဏ်ကျေးဇူးများနှင့် သစ္စာဆိုချက်များ ပါရှိကြ၏။

ပရိတ်စာအုပ်များတွင် ဗောဇ္ဈင်္ဂသုတ်၏ ပါဠိတော်နှင့်အနက် အဓိပ္ပာယ်ကို ရှာဖွေဖတ်ရှုနိုင်ပါသည်။

## မှန်တာတစ်ခု သစ္စာပြု၍ ဆေးကုသူ

သီပေါမင်းပါတော်မူပြီးသည့်နောက် ၁၀ နှစ် ၁၀ မိုးလောက် ကြာလွန်သောအချိန်တွင် မန္တလေးမြို့ သကျသီဟဘုရားအနီး၌ နာမည်ကျော်ကြားသည့် သမားတော်တစ်ဦး ပေါ်ထွန်းခဲ့၏။ ထိုသမားတော်သည် ဆေးလွယ်အိတ်မရှိ။ ဆေးဝါးတစ်မှုန့်မျှမသုံး။ သောက်ရေတစ်ခွက်ကို ဆေးအဖြစ်သုံး၍ ဆေးကုရာ လူနာတော်တော်များများ ပျောက်ကင်းကြ၏။ ထို့ကြောင့် ထိုသမားတော်အား အပင့်အဖိတ်များ၏။

သမားတော်၏ အိမ်အနီးဝန်းကျင်၌ နေထိုင်ကြသော ခေတ်ပညာသင်ကြားနေကြသည့် ကျောင်းသားတစ်စုသည် ဆရာကြီးက မည်သည့်နည်းဖြင့် ဆေးကုသသည်ကို အလွန်သိလိုနေကြ၏။ တစ်နေ့တွင် ကျောင်းသားတစ်ယောက်သည် ဆရာကြီးနှင့်ရင်းနှီးအောင် ကြိုးစားပြီးနောက် ဆရာကြီးအား ဆေးကုသသည့်နည်းကို မေးမြန်း၏။

"ငါ...သစ္စာနဲ့ဆေးကုတယ်"ဟု ဆရာကြီးက တိုတိုပင်ဖြေ၏။

"ဆရာကြီးခင်ဗျား၊ အဲဒီပညာကို ကျွန်တော့်အား သင်ပေးပါလား"

"ငါ့ပညာကိုသင်ပေးဖို့ ငါမတွန့်တိုပါဘူး၊ သင်ပေးဖို့ကလဲ မခဲယဉ်းပါဘူး၊ အခုသင်ပေးရင် အခုတတ်သွားမှာပဲ။ ဒါပေမဲ့ ယုံဖို့က ခက်တယ်ကွဲ့၊ မယုံရင်လဲ ဆေးကမစွမ်းဘူးကွဲ့"

"ဆရာကြီးရဲ့ပညာကို ကျွန်တော် ယုံကြည်လေးစားပါတယ်၊ ကျွန်တော့်ကို သင်ပေးပါနော်၊ ကျွန်တော်ပညာယူထားချင်လို့ပါ"

"အေး...ပညာလိုချင်တာကြားရလို့ ဝမ်းသာပါတယ်၊ မောင်တို့

လူငယ်တွေက ခေတ်ပညာကိုသာ အထင်ကြီးနေကြတယ်၊ မြန်မာ့ ရိုးရာပညာတွေကိုတော့ အထင်သေးတတ်ကြတယ်။ အမှန်က မြန်မာ့ဆေးပညာတွေလဲ အစွမ်းထက်တာပဲ။ ပညာဆိုတာ နည်းများမဟူ အသုံးချတတ်ရင် အကျိုးရှိတာပဲ။ ကြွက်သေတစ်ခုကို အရင်းပြုပြီး ကြွယ်မှုတတ်ဆုံး သူဌေးထုံးကို နှလုံးမူရမယ်လို့ ဆိုထားတယ်မဟုတ်လား"

"မှန်ပါတယ်ဆရာကြီး၊ ဆရာကြီးပညာကို ကျေးဇူးပြုပြီး ..."

"အေး ... အေး ... မောင်ရင်လိုချင်ရင် ငါသင်ပေးပါ့မယ်၊ ဒီပညာမှာ ကိုယ်တိုင်ယုံကြည်ဖို့က သိပ်အရေးကြီးတယ်ကွဲ့၊ လူနာကလဲ ယုံကြည်ဖို့လိုတယ်၊ ယုံကြည်မှုမရှိရင် မအောင်မြင်ဘူးကွဲ့၊ ငါတောင် လူဆယ်ယောက်ကုရင် သုံးယောက်လောက်က မပျောက်တတ်ဘူးကွဲ့"

"ဘာဖြစ်လို့လဲဆရာကြီး"

"အေး ... အေး ... ပြောပြရတာပေါ့၊ အဲဒီမပျောက်တဲ့သုံးယောက်အနက်က တစ်ယောက်ကတော့ သူ့အတွက် ငါက စိတ်မထက်သန်လို့ မပျောက်ဘူးကွဲ့၊ နောက်တစ်ယောက်က ငါသစ္စာဆိုပြီး ဆေးကုတာ ရောဂါပျောက်တယ်လို့ သူမယုံကြည်တဲ့အတွက် မပျောက်ဘူးကွဲ့၊ နောက်တစ်ယောက်ကတော့ ငါကလဲ စိတ်ထက်သန်ပါရဲ့၊ သူကလဲ ယုံကြည်ပါရဲ့၊ ဒါပေမယ်လို့ ရောဂါမပျောက်ဘူးကွဲ့၊ ဒါကတော့ အတိတ်ကံကြောင့်လို့ ဆိုရမှာပေါ့ကွယ်"

"မှန်ပါတယ်ဆရာကြီး၊ ဆရာကြီးသစ္စာဆိုပြီးဆေးကုပုံကို ပြောပြပါဦး"

"ငါ့ပညာက မခက်ပါဘူးကွယ်၊ လူမမာက အမျိုးသမီးဖြစ်တယ်

ဆိုပါတော့၊ လူမမာအိမ်ရောက်ရင် သောက်ရေတစ်ခွက်တောင်းယူပြီး သစ္စာဆိုရတယ်၊ ဘယ်လိုဆိုမလဲဆိုတော့

"ငါသည် ငါ့အမေရဲ့သား မှန်၏၊ သူသည် သူ့အမေ၏သမီး မှန်၏။ ဤမှန်ကန်တဲ့သစ္စာစကားကြောင့် ဤသစ္စာရေသူ့ဝမ်းထဲရောက်သည်နှင့်တစ်ပြိုင်နက် သူ့ကိုယ်ထဲမှာရှိတဲ့ရောဂါအားလုံး ပျောက်ကင်းပါစေသတည်း။

"ဒါပဲကွဲ့၊ သစ္စာဆိုတာ မှန်ရတယ်၊ အဖေ့သား, အဖေ့သမီးလို့ပြောရင် မှားချင်မှားနေဦးမယ်၊ အမေ့သား အမေ့သမီးဆိုတော့ဘယ်တော့မှ မမှားနိုင်ဘူးပေါ့။ အဲ ...မှန်ကန်ရင် သစ္စာအစွမ်းက ရောဂါကို ပျောက်ကင်းစေတာပါပဲ"

"သစ္စာဆိုပြီးတဲ့ရေကို ဘယ်လိုလုပ်ရမလဲဆရာကြီး"

"သစ္စာရေကို လူနာအား တိုက်ရတယ်၊ လိမ်းလဲ လိမ်းပေးနိုင်တယ်၊ မျက်စဉ်းလဲ ခတ်ပေးနိုင်တယ်"

ခေတ်လူငယ်က ဆေးကုနည်းကိုကြားရသည့်အခါ ယုံရခက်၊ မယုံရခက်ဖြစ်နေ၏။ ရယ်လည်းခက်၊ မရယ်လည်းခက်ဖြစ်နေ၏။ ရိုးသားသောဆရာကြီးက တည်တည်ငြိမ်ငြိမ်စိတ်ပါလက်ပါပြောပြနေသည့်အတွက် ရယ်ရန်လည်းခက်နေ၏။ သိပ်ရယ်ချင်နေသည့်အတွက် မရယ်ရန်လည်း ခက်နေ၏။

ဆေးကုနည်းကိုသိရှိပြီးသည့်နောက် ခေတ်လူငယ်က အသုံးမချဖြစ်ပါ။ အထင်မကြီး၍ပင်ဖြစ်ပါ၏။ သို့ရာတွင် ဆရာကြီး ကွယ်လွန်ပြီးသည့်အချိန်၌ အိမ်နီးချင်းမိန်းကလေးတစ်ဦးသည် သားဦးမွေးဖွားရန် ခက်ခဲနေသဖြင့် ကျွမ်းကျင်သည့်ဝမ်းဆွဲဆရာမကြီးတစ်ဦးကို ခေါ်၏။ မမွေးဖွားနိုင်ဘဲ အလွန်နာကျင်နေသည့်အတွက် မိန်း

ကလေးသည် ဆယ်အိမ်ကြားအောင် အော်ဟစ်ကာငိုကြွေးနေလေ၏။

ထိုအော်ငိုသံကို ခေတ်လူငယ်က အတိုင်းသားကြားနေရသဖြင့် သနားကြင်နာလာ၏။ မည်သည့်အကူအညီများ ပေးနိုင်မည်နည်းဟုစဉ်းစားရာ မိမိတတ်သိခဲ့သည့်ပညာကို အသုံးချကြည့်ရန် စိတ်ကူးပေါ်လာ၏။ ထို့ကြောင့် ထိုအမျိုးသမီးအိမ်သို့သွားပြီး သောက်ရေတစ်ခွက်တောင်းယူ၏။ ဘုရားစင်ရှေ့၌ 'သရဏာဂုံနှင့်တကွ ငါးပါးသီလကိုခံယူဆောက်တည်ပါ၏' ဟု သီလခံယူပြီး အိမ်စောင့်နတ်နှင့်သတ္တဝါများအား မေတ္တာပို့၏။ ထို့နောက် ရေခွက်ကိုကိုင်ပြီး ဆရာကြီးသင်ပြပေးခဲ့သည့်အတိုင်း ခုနစ်ကြိမ်သစ္စာဆို၏။

ထိုသစ္စာရေကို အမျိုးသမီးအား ပေး၏။ "ဒီသစ္စာရေကို ယုံယုံကြည်ကြည် လေးလေးစားစားနဲ့ မီးဖွားဆေးအဖြစ် သောက်ပါ၊ လွယ်လွယ်ကူကူနဲ့ မီးဖွားပါလိမ့်မယ်"

မိန်းကလေး၏ မိဘဆွေမျိုး မိတ်သင်္ဂဟများက စိတ်ဝင်စားစွာကြည့်နေကြ, နားစွင့်နေကြ၏။ အားကိုးရာမဲ့ဖြစ်နေသော အမျိုးသမီးက သစ္စာရေကို ယုံယုံကြည်ကြည်သောက်ချလိုက်၏။ မကြာမီကလေးငိုသံကြားရ၏။

"အား...ဒီဆရာကလေးက တယ်တော်ပါလား" "သူ့ဆေးက သိပ်စွမ်းပါလား" "ကျေးဇူးကြီးလှပါတယ်ကွယ်" ဟု ချီးမွမ်းသံများ လျှံထွက်လာကြ၏။

ခေတ်လူငယ်သည် တစ်မုဟုတ်ချင်းပင် ဆေးဆရာဖြစ်သွားပေတော့၏။

ယုံကြည်သောစိတ်တွင် အနန္တ တန်ခိုးရှိ၏။ သစ္စာတွင်လည်း

အနန္တ တန်ခိုးရှိ၏။ ဤတန်ခိုးများကို ယုံကြည်သော် ရေတစ်ခွက်သည်လည်း အဖိုးမဖြတ်နိုင်သည့် ဆေးစွမ်းကောင်းတစ်လက် ဖြစ်လာသည်သာတည်း။

(ပြွန်တန်ဆာ ဆရာကြီး ဦးသိန်းထွန်း၏ 'ကိုယ်ပိုင်အစွမ်း' စာအုပ်မှ သစ္စာဖြင့်ဆေးကုသော မန္တလေးသမားတော်ကြီးဇာတ်လမ်းကို မှီငြမ်းပါသည်။)

## လိုတရသော သစ္စာဂါထာ

"သစ္စာဆိုတာ မှန်ကန်မှုပဲ၊ မှန်တာကို သစ္စာပြုရင် ကိစ္စအရပ်ရပ်အောင်မြင်တယ်၊ အောင်မြင်တယ်ဆိုရာမှာလဲ ဖြစ်နိုင်တာကိုသာ တောင့်တရမယ်၊ မဖြစ်နိုင်တာကို တောင့်တပြီး သစ္စာပြုခြင်းကိုလဲ မလုပ်အပ်ဘူးတဲ့"

**အငြိမ်းစားဒုဗိုလ်မှူးကြီးဦးစိန်မော်** က သူ၏ကိုယ်တွေ့ဖြစ်ရပ်ကို ပြောပြနေခြင်းဖြစ်ပါ၏။ ဦးစိန်မော်သည် ရတနာသုံးပါးကိုကြည်ညိုလေးစားသူဖြစ်၏။ မသိကျွမ်းဖူးသော ဘုန်းတော်ကြီးတစ်ပါးက သူ့ထံသို့ သုံးကြိမ်တိုင်တိုင်ကြွလာပြီး ဓမ္မပဒဂါထာတစ်ပုဒ်ကို သင်ပြပေး၏။ ယုံယုံကြည်ကြည်ရွတ်ဆိုရန်လည်း ညွှန်ကြားသွား၏။

'ခလုတ်ထိမှ အမိတ' ဆိုသလို အရေးအကြောင်းကြုံလာသောအခါမှ ထိုဂါထာကို ဦးစိန်မော်ရွတ်ဆိုဖြစ်သည်။ ပထမအရေးကအင်္ဂလန်တွင် သူ့ဇနီးဆေးသွားကုရန်ကိစ္စဖြစ်၏။ ဦးစိန်မော်၏ ဇနီးတွင် ကုရခက်သောရောဂါတစ်ခုစွဲကပ်နေ၏။ အင်္ဂလန်၌ရှိနေကြသော သမီးနှင့်သမက်ဆရာဝန်တို့က အင်္ဂလန်၌ဆေးလာကုရန် ဖိတ်ခေါ်၏။ နိုင်ငံကူးလက်မှတ်လျှောက်ပြီး အင်္ဂလိပ်သံရုံးထံ ဗီဇာ

တောင်းရာ အပယ်ချခံရ၏။ အကြောင်းပြချက်က အလုပ်လုပ်နေသူ ဆရာဝန်၏ မိခင်အရင်းမဟုတ်ဘဲ ယောက္ခမဖြစ်နေသောကြောင့် ဟု ဆို၏။

အကျိုးအကြောင်းသိရသည့်အခါ ဦးစိန်မော်သည် စိတ်ပျက်လက်ပျက်နှင့် သမက်ထံကြေးနန်းရိုက်လိုက်၏။

"မင်းတို့အမေ ဗီဇာမရလို့ အင်္ဂလန်မလာဖြစ်ဘူး"

ထို့နောက် ဘုန်းကြီးပေးထားသောဂါထာကို သတိရ၍ အချိန်ရှိသမျှ ရွတ်ဆိုနေမိ၏။ နောက်နေ့ရုံးသွားသည့်အခါတွင်လည်း ထိုဂါထာကိုပင် ရွတ်ဆိုသွား၏။ ရုံးရောက်သည့်အခါ အင်္ဂလိပ်သံရုံးမှ လူတစ်ယောက် ရောက်လာပြီး ဗီဇာပေးရန် အမိန့်ကျလာပြီဖြစ်ကြောင်း သတင်းပို့၏။

မကြာမီ ဦးစိန်မော်တွင် ကိစ္စတစ်ခုပေါ်လာပြန်၏။ သားဖြစ်သူသဘောသားက မော်တော်ကားဝယ်ပို့ပေးလိုက်သည်ကို ရွေးဖို့ခက်နေခြင်းဖြစ်၏။ ဦးစိန်မော်က ဘယ်လိုလုပ်ရမှန်းမသိ၍ ထိုကိစ္စကို အာရုံပြုပြီး ဘုန်းကြီးပေးထားသည့်ဂါထာကို အကြိမ်တစ်ထောင် ရွတ်၏။ ရွတ်ရင်းအသံတစ်ခုကြားရ၏။ လူတစ်ယောက်၏နာမည်ဖြစ်၏။ စုံစမ်းကြည့်သည့်အခါ ထိုကိစ္စမျိုးကိုလုပ်ကိုင်တတ်သူဖြစ်ကြောင်း သိရ၏။ သို့နှင့် မော်တော်ကားရွေးသည့်ကိစ္စ ပြေလည်သွား၏။

တတိယအရေးကိစ္စက ဦးစိန်မော်ကိုယ်တိုင် အင်္ဂလန်သွားချင်သည့်ကိစ္စဖြစ်၏။ ဇနီးက အင်္ဂလန်ရောက်သွားပြီ။ သမီးနဲ့ကွဲကွာနေခဲ့တာကြာလို့ သမီးကိုလည်း တွေ့ချင်၏။ သို့သော် လေယာဉ်လက်မှတ်ပို့ပေးရန်အတွက်မူ သမီးသမက်တို့အား အပူမကပ်ချင်။

သို့အတွက် ဘုန်းကြီးပေးသည့်ဂါထာကို အကြိမ် ၈၄၀၀၀ ရွတ်ဆိုရန် အမိန့်ခံရ၏။ နေ့ရောညဥ့်ရော ထိုဂါထာကိုရွတ်၏။ အမိန့်ခံရ မပြည့်မီမှာပင် ရုံးအမိန့်တစ်ခုထွက်လာ၏။ ဦးစိန်မော်တို့၏ရုံးလုပ်ငန်းနှင့်ပတ်သက်သည့် ဆွေးနွေးပွဲ (ဆီမီနာ) တစ်ခုကိုတက်ရန် အတွက် ဦးစိန်မော်အား အင်္ဂလန်သို့စေလွှတ်ရန် ရွေးချယ်လိုက်သည့် အမိန့်ဖြစ်၏။

ဦးစိန်မော်အား ဘုန်းကြီးပေးသွားသောဂါထာကား...

"ဒိဝါတပတိအာဒိစ္စော၊ ရတ္တိံမာဘာတိစန္ဒိမာ၊
သန္နဒ္ဓေါခတ္တိယောတပတိ၊ ဈာယီတပတိဗြာဟ္မဏော၊
အထသဗ္ဗမဟောရတ္တိံ၊ ဗုဒ္ဓေါတပတိတေဇသာ"

အဓိပ္ပာယ်မှာ...

"နေမင်းသည် နေ့အခါ၌သာတင့်တယ်၏၊
လမင်းသည် ညဥ့်အခါ၌သာတင့်တယ်၏၊
မင်းသည် မင်းမြောက်တန်ဆာဆင်မှသာလျှင်တင့်တယ်၏၊
ဗြာဟ္မဏသည် ဈာန်ဝင်စားမှသာလျှင် တင့်တယ်၏၊
ဗုဒ္ဓသည် တန်ခိုးဖြင့် နေ့ညဥ့်ပတ်လုံးတင့်တယ်၏"

နေမင်း၊ လမင်း၊ လူမင်းနှင့် ဗြာဟ္မဏတို့ထက် ဗုဒ္ဓမြတ်စွာသည် ပို၍ဘုန်းတန်ခိုးကြီးပြီး ပို၍တင့်တယ်သည်ဟူသော သစ္စာစကားကို အသုံးပြုထားခြင်းဖြစ်၍ ထိုဂါထာသည် အစွမ်းထက်မြက်ခြင်း ဖြစ်ပေသတည်း။

(မြတ်မင်္ဂလာအတွဲ ၂၊ အမှတ် ၁၊ ၁၉၈၆ ခု၊ ဇူလိုင်လထုတ်စာစောင်တွင် ပါရှိသည့် 'မောင်မြတ်သင်း၏ ဘုန်းကြီးပေးသောဂါထာ' ကို မှီငြမ်းပြုပါသည်။)

## ခေတ်သစ်တွင် သစ္စာဖြင့်မိုးရွာစေခြင်း

မြန်မာ့သာသနာသမိုင်းတွင် ပရိယတ္တိနှင့်ပဋိပတ္တိနှစ်ရပ်လုံး၌ နေလိုလလိုထင်ပေါ်ကျော်စောခဲ့သော ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်ကျော်တစ်ဦးမှာ **လယ်တီဆရာတော်ဦးဉာဏဓဇ** ဖြစ်၏။ ပိဋကတ်သုံးပုံကို ချောက်ချားအောင်တတ်မြောက်သဖြင့် အဂ္ဂမဟာပဏ္ဍိတဘွဲ့နှင့် ဒီ–လစ် ပိဋကတ္တယပါရဂူဘွဲ့တို့ကို ဆက်ကပ်ခြင်းခံခဲ့ရ၏။ 'ဒီ–လစ်' ဆိုသည်မှာ 'စာပေပါရဂူဘွဲ့'ဖြစ်၏။ အင်္ဂလိပ်ဘုရင်မက ချီးမြှင့်သောဘွဲ့ဖြစ်၏။ ဆရာတော်သည် ဒီပနီစသည့်ကျမ်းစာအုပ် ၁၀၀ ကျော်ကို ရေးသားပြုစုခဲ့၏။

ဆရာတော်သည် စာသင်သားသံဃာတစ်ရာခန့်ရှိသည့် လယ်တီကျောင်းတိုက်၏ ပင်တိုင်စာချဆရာတော်ဖြစ်၏။ ညဥ့်လုံးပေါက် မတ်တတ်ရပ်ကာ စာရေးလေ့ရှိသဖြင့် ရေနံဆီပုံးတွင် မီးစာတပ်၍ မီးခွက်အဖြစ် ထွန်းပေးထား၏။ နွားမေတ္တာစာများ ရေး၍ တစ်ပြည်လုံးသို့ နှိုးဆော်၏။ နယ်တကာထွက်၍ တရားဟော၏။

ထို့အပြင် မုံရွာမြို့လယ်တီကျောင်းတိုက်သံဃာတော်များအတွက် တစ်မြို့လုံးလှည့်လည်ကာ ဆွမ်းခံပေး၏။ ဆွမ်းခံကြွစဉ် တံမြက်စည်း, ရေအိုးနှင့် သပိတ်တို့ကို နေ့စဉ်သယ်ဆောင်သွား၏။ စေတီပရိဝုဏ်များကို လှည်းကျင်း၍ သောက်ရေအိုးများကို ရေဖြည့်၏။ မထေရ်ကြီးများ သီတင်းသုံးသည့်ကျောင်းတိုက်များ၌ ကုဋီရေဖြည့်၏၊ ကနုတ်ဆေး၏၊ ရေခပ်၏၊ တံမြက်လှည်း၏။

"လယ်တီဘုန်းကြီး…ဒီလိုမလုပ်ပါနဲ့၊ တော်လောက်ပါပြီ" ဟု အချို့ဘုန်းကြီးများက အားနာလှ၍တားကြရာ…

"တပည့်တော်ကိုသနားရင် ခွင့်ပြုပါ၊ တစ်သံသရာလုံးက တပည့်

တော်ရဲ့ လက်တွေခြေတွေဟာ သားကျွန်မယားကျွန်ဖြစ်ခဲ့ရတယ်၊ သည်ဘဝမှာဖြင့် သံဃာ့ကျွန် သာသနာကျွန်အမှုပြုခွင့်ပေးကြပါ” ဟု ပြန်လည်လျှောက်ထားပြီး ဝတ်ဖြည့်မြဲဖြည့်တော်မူ၏။

ပို၍ထူးခြားသည်မှာ သံဃာတစ်ရာခန့်ရှိသည့် လယ်တီကျောင်းတိုက်ကြီးတွင် နေ့စဉ်ပင်လျှင် နံနက်လေးနာရီမထိုးမီ ကုဋီအိမ်သာများနှင့်တကွ ရေအိုးမှန်သမျှရေပြည့်နေခြင်းဖြစ်၏။ သံဃာအချင်းချင်း မေးမြန်းကြရာ မည်သူမျှရေဖြည့်သည်ဟုမဆိုချေ။ သို့အတွက် သန်းခေါင်ကျော်လောက်စောင့်ကြည့်ကြရာ သင်္ကန်းကိုတန်းပေါ်တင်ထားလျက် အားကြိုးမာန်တက် ရေခပ်ဖြည့်နေသည့် လယ်တီဆရာတော်ဘုရားကို တွေ့ကြရလေ၏။

“ဆရာတော်ဘုရား...တပည့်တော်တို့ ရေခပ်ဖြည့်ပါ့မယ်၊ ဆရာတော်ခပ်တဲ့ရေကို မသုံးဝံ့ပါဘုရား” ဟု သံဃာများက လျှောက်ထားကြ၏။

“တပည့်တို့...အားမနာနဲ့၊ သုံးသာသုံးကြ၊ ငါ့ကို သံဃာအလုပ်အကျွေးလုပ်ခွင့်ပေးကြပါ၊ ဒီခန္ဓာကိုယ် အငှားနွားကြီးကို ငါတန်အောင် ခိုင်းပါရစေ၊ ငါ့ရဲ့နိဗဒ္ဓသံဃာဝတ်ကိုဆက်ဖြည့်ခွင့်ပေးကြပါ”

ဤသို့ အနှစ် ၂၀ ကျော် ရေဝတ်, တံမြက်ဝတ်, ဆွမ်းခံဝတ် စသည်တို့ကို မှန်မှန်ပြုလုပ်ခဲ့ရာ အရေးကြုံလာသည့်အခါများ၌ သစ္စာပြု၍ မိုးရွာသွန်းစေနိုင်ခဲ့၏။ ကပ်ရောဂါများကို နှိမ်နင်းနိုင်ခဲ့၏။ မီးဘေး, ဘီလူးဘေး စသည်တို့ကိုလည်း ကာကွယ်နိုင်ခဲ့၏။

၁၂၆၈ ခုနှစ်တွင် ပြည်မြို့ ဝိပဿနာကုန်းတောရ၌ ဆရာတော်ဝါဆို၏။ ထိုနှစ်၌ ဟင်္သာတမြို့နယ်တွင် နောက်မိုးမသိမ်းသဖြင့်

လယ်ကေများစွာပျက်စီးရမည့် ကပ်ဘေးကြီးနှင့်ကြုံရ၏။ ထိုအခါ အင်္ဂလိပ်လူမျိုး ရောဝတီမင်းကြီး 'မက်ကဆွဲ'က ဆရာတော်ကို ပင့်ဆောင်စေ၏။ ဆရာတော်သည် ရေအလျှုနိဗဒ္ဓဝတ်ကြီးကိုဆင်ခြင်၍ သစ္စာပြုတော်မူ၏။ မိုးနတ်သား၊ လေနတ်သားစသည်တို့ကိုလည်း မေတ္တာပို့တော်မူ၏။ သင်္ဘောဖြင့် ကြွတော်မူရာ ဟင်္သာတမြို့သူမြို့သားများက ကမ်းလုံးညွတ်မျှ ကြိုဆိုကြ၏။ သင်္ဘောကျောက်ချပြီး ဆိုက်ကပ်မည်ရှိစဉ် ရုတ်တရက် မိုးဆင်၍ရွာသွန်းချရာ တစ်နာရီခန့်ကြာ၏။ သင်္ဘောသည် ကျောက်ချပြီးဆိုင်းငံ့နေရ၏။ လူတိုင်း အံ့သြ၍မဆုံး ဝမ်းမြောက်၍မဆုံးဖြစ်ကြရ၏။

ထိုအချိန်မှစ၍ မိုးခေါင်သောအရပ်ဒေသများအတွက် 'မိုးပရိတ်၊ မိုးကမ္ဘဝါ၊ မိုးအမိန့်တော်ပြန်တမ်းများ' ရေးသားကာ မိမိ၏သီလ၊ သမာဓိ၊ ပညာ၊ မေတ္တာ၊ သစ္စာတို့၏စွမ်းအားဖြင့် အကြိမ်ကြိမ်မိုးရွာသွန်းစေခဲ့၏။

**သီလ၊ သမာဓိ၊ ပညာ အခြေခံထားသည့် မေတ္တာနှင့်သစ္စာတို့၏ စွမ်းအားကား သဘာဝစွမ်းအားများကိုပင် ပြုပြင်ပြောင်းလဲနိုင်စွမ်းရှိပေစွတကား။**

ရမည်းသင်းခရိုင် ညောင်လွန့်တောရတွင် သီတင်းသုံးတော်မူသည့် **မေဓာဝီဆရာတော်** (၁၂၂၉–၁၂၉၅) သည်လည်း သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်တို့နှင့်ပြည့်စုံပြီး မေတ္တာသစ္စာတို့ဖြင့် မိုးရွာသွန်းစေနိုင်ခဲ့သူတစ်ဦး ဖြစ်ပေ၏။

၁၂၉၀ ခုနှစ်လောက်တွင် ညောင်လွန့်တောရ၌ သံဃာတော် ၁၃၀ ကျော်ရှိရာ ဂေါစရဂါမ်ရွာများ၏အင်အားနှင့် မမျှမတအောင် ရှိနေ၏။ ထိုအချိန်၌ ညောင်လွန့်ဂေါစရဂါမ်ရွာများ၌ မိုးအသင့်အတင့်

ရပြီး သီးနှံများဖြစ်ထွန်းသော်လည်း အခြားပတ်ဝန်းကျင်ရွာများမှာ မိုးခေါင်၍ သီးနှံမစိုက်ပျိုးနိုင်ကြချေ။

သို့အတွက် မိုးခေါင်သည့်ကျေးရွာသားများက ညောင်လွန့် ဂေါ စရဂါမ်ရွာသားများကို "ရှင်တို့ရွာ မိုးကောင်းမှာပေါ့အေ၊ ညောင်လွန့် ကျောင်းတိုက်ကြီး ရှိနေတာကိုး" ဟု စကားနာထိုးကြ၏။ ဆရာတော်အား **'မိုးကောင်းတောရကိုယ်တော်ကြီး'** ဟုပင်ခေါ်ကြ၏။

တစ်နှစ်၌မူ ညောင်လွန့်ဂေါစရဂါမ်ရွာများ၌ပင် အချိန်မီရေမရ၍ ဒုက္ခရောက်နေကြ၏။ ထိုအခါ ညောင်လွန့်တောရဆရာတော်သည် ညဦးဘုရားဝတ်ပြုအပြီးတွင် သံဃာတော်များအား...

"ဦးပဥ္စင်းတို့၊ သတ္တဝါတွေ မိုးခေါင်လို့ အလွန်သနားစရာကောင်းနေပြီ၊ မပေါ့ကြနဲ့၊ သီလကိုအထူးသုတ်သင်ကြပါ၊ မိုးနတ်သားကအစ သတ္တဝါအားလုံးကို မေတ္တာဘာဝနာအထူးပို့သကြပါ" ဟု နှိုးဆော်တိုက်တွန်းတော်မူ၏။

တစ်နေ့သောညနေတွင် ဂျိုးအင်းရွာသို့ ဆရာတော်ကြွသွားပြီး ရွာသူရွာသားအားလုံးကို တရားနာခေါ်၍ ငါးပါးသီလကို တင်းတင်းရင်းရင်း စောင့်ထိန်းစေ၏။

ထို့နောက် သံပြိုင်မေတ္တာပို့ပြီး ဆုတောင်းစေ၏။

*"သဗ္ဗေသတ္တာ ဒုက္ခာမုစ္စန္တု။ သမ္မာဒေဝေါပဝဿတု- သတ္တဝါအားလုံး ဆင်းရဲကင်းကြပါစေ၊ မိုးကြီးသည်းစွာ ရွာပါစေ"*

ထိုနေ့ညဉ့်၌ မိုးသည်းထန်စွာ ရွာသွန်းလေသတည်း။

အမရပူရ **မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသ** သည်

၁၃၃၆ ခုနှစ်၌ မန္တလေးမြို့ကြီးတွင် အံ့ဖွယ်သရဲ သဲသဲမဲမဲ မိုးရွာသွန်းစေခဲ့၏။ ထိုနှစ်၌ ကဆုန်လကတည်းကစ၍ အမရပူရမြို့နယ်နှင့်တကွ မန္တလေး၊ စစ်ကိုင်း၊ မြစ်ငယ်၊ တံတားဦး စသည်တို့၌ မိုးခေါင်နေ၏။ ရာသီဥတုပူပြင်းလွန်း၍ လူအပေါင်းတို့အနေခက်လာကြ၏။ ရောဂါဘယများလည်း ထူပြောလာကြ၏။ အထူးသဖြင့် ဝမ်းရောဂါစတင်ဖြစ်ပွားလာသဖြင့် လူအသေအပျောက်များပင် ရှိလာကြ၏။

ထိုအခါ အမရပူရမှ လူကြီးလူကောင်းများက မဟာဂန္ဓာရုံဆရာတော်ထံရောက်လာပြီး လျှောက်ထားကြ၏–

"ဆရာတော်ဘုရား…ဤမြို့နယ်အတွင်းမှာ မိုးခေါင်တာကိုအကြောင်းပြုပြီး ရောဂါဘယတွေ ထူပြောလာပါတယ်၊ လူအပေါင်းတို့လဲ ဆင်းရဲဒုက္ခရောက်နေကြပါတယ်၊ သံဃာတော်များ၏ မေတ္တာဖြင့် ပရိတ်တရားချီးမြှင့်ပေးတော်မူပါဘုရား"

ဆရာတော်က သဘောကျ၍ မိန့်တော်မူသည်မှာ…

"သံဃာတော်ငါးရာ မြို့တွင်းအနှံ့လှည့်လည်ပြီး ပရိတ်တရားကို ချီးမြှင့်မယ်၊ ခြေလျင်ကြွရင် မြို့အနှံ့လဲ မကြွနိုင်၊ သံဃာများလဲ ပင်ပန်းလိမ့်မယ်၊ ဒါကြောင့် တစ်စီးလျှင် သံဃာငါးဆယ်ဆံ့တဲ့ကားကြီး ၁၀ စီးစီစဉ်ပေးကြပါ"

သံဃာငါးရာတို့ကိုတင်ဆောင်ထားသော အမိုးဖွင့်ကားကြီးများသည် မြို့တွင်းအနှံ့ တဖြည်းဖြည်းလှည့်ပတ်သွားရာ တစ်မြို့လုံးကို ပရိတ်သံ လွှမ်းမိုးသွား၏။ မြို့တစ်ဝက်ခန့် လှည့်ပတ်မိသောအခါ အရပ်လေးမျက်နှာတို့မှ မိုးသားတွေ အုံ့ဆိုင်းရီမှောင်လာကြပြီးလျှင် အုန်းအုန်းခြိမ့်ခြိမ့် ဂျိုးဂျိုးဂျိမ့်ဂျိမ့် မိုးလိမ့်၍ရွာသွန်းလေတော့၏။

သံဃာတော်များလည်း အားတက်လာကြကာ မိုးသဲသဲမဲမဲထဲတွင်ပင် ရွှဲရွှဲစိုသောသက်န်းတို့ဖြင့် မြို့တွင်းအနှံ့ ရပ်ကွက်အနှံ့ ဖြန့်၍ ပရိတ်တရားကို ရွတ်ဆိုကြလေ၏။

ဆရာတော်က ပရိတ်ရွတ်ကြသောသံဃာတော်များအား "ဒကာဒကာမများအပေါ် ထိထိခိုက်ခိုက် မေတ္တာထားပြီး ရွတ်ကြပါ" ဟု မှာကြားခဲ့၏။ ပရိတ်တရားများကား ဘုရား, တရား, သံဃာတို့၏ ဂုဏ်တော်များအပေါ် အခြေခံသည့်သစ္စာစကားများသာတည်း။ မေတ္တာနှင့် သစ္စာတို့၏ အံ့ချီးဖွယ်ရာအောင်မြင်မှုကြီးပေတကား။

## ကပ်ဆိုးကြီးများကို သစ္စာဖြင့်ကျော်လွှားခြင်း

ရေသည် အပင်လောကနှင့်သက်ရှိသတ္တဝါတို့၏အသက်ဖြစ်၏။ မိုးခေါင်လျှင် အပင်များမရှင်သန်၊ ကောက်ပဲသီးနှံများမဖြစ်ထွန်း၊ ထိုအခါ အစာရေစာပြတ်တောက်ပြီး ငတ်မွတ်ခေါင်းပါးသည့် **ဒုဗ္ဘိက္ခန္တရကပ်** ဆိုက်ရောက်၏။ အာဟာရချို့တဲ့လျှင် ကိုယ်ခံအားညံ့ဖျင်းသဖြင့် **ရောဂန္တရကပ်** ဟုခေါ်သည့် အနာရောဂါဘေးဆိုးကြီးလည်း ဆိုက်ရောက်လာ၏။ စားစရာမရှိသည့်အခါ လုယက်တိုက်ခိုက်သတ်ဖြတ်မှုများလည်း ဖြစ်ပေါ်လာကြသဖြင့် **သတ္ထန္တရကပ်** ဆိုက်ရောက်လာ၏။

ရာဇဂြိုဟ်မြို့ကြီး၌ မြတ်စွာဘုရားသီတင်းသုံးနေတော်မူစဉ် စည်ပင်ဝပြောလှသော **ဝေသာလီပြည်** တွင် မိုးခေါင်လေရာ အစာရေစာငတ်မွတ်သောကြောင့် ဆင်းရဲသားများစွာ သေဆုံးကြရ၏။ လူသေကောင်တို့ကို မြို့ပြင်၌စွန့်ပစ်ထားကြရာ အပုပ်နံ့ကိုရသဖြင့် ဘီလူးသဘက်များသည် မြို့တွင်းသို့ဝင်၍ လူတို့ကိုဖမ်းစားနှိပ်စက်ကြကုန်

၏။ သို့အတွက် နောက်ထပ်လူများ သေကျေပျက်စီးကြရပြန်၏။ ထို အတွင်း ပလိပ်ရောဂါဆိုက်ရောက်လာသဖြင့် လူတို့ပြုန်းလုမတတ် သေဆုံးပျက်စီးကြကုန်၏။

ဤကပ်ဆိုးကြီးများကို မည်သို့ကျော်လွှားနိုင်အံ့နည်း။ လိစ္ဆဝီ မင်းများစုရုံးတိုင်ပင်၍ မြတ်စွာဘုရားအား ပင့်ဖိတ်ကြ၏။ သစ္စာရှင်, မေတ္တာရှင်ဖြစ်တော်မူသော မြတ်စွာဘုရားသည် ဝေသာလီမြေပေါ် တွင် ခြေချမိသည်နှင့်တစ်ပြိုင်နက် ထူထဲသောမိုးကြီးသည် လျှပ်စစ်, လျှပ်ပန်းနွယ်များယှက်သန်းလျက် ထစ်ချုန်းမြည်ဟည်းကာ သည်း ထန်စွာ ရွာသွန်းလေသတည်း။

ထိုမိုးရေအလျဉ်တို့သည် လူရိုးများနှင့် လူသေကောင်များကို ဆောင်ယူကာ ဂင်္ဂါမြစ်အတွင်းသို့ စီးဆင်းကြကုန်၏။ ဝေသာလီမြေ ပြင်တစ်ခုလုံးသည် စင်ကြယ်သန့်ရှင်းသွားလေတော့၏။

ဝေသာလီမြို့တွင်းသို့ မြတ်စွာဘုရား ကြွဝင်တော်မူသောအခါ သိကြားမင်းအမှူးပြုသော တန်ခိုးကြီးနတ်များ၊ အခြားသောနတ်များ နှင့် ဗြဟ္မာများတို့ စုရုံးရောက်ရှိလာကြသဖြင့် ဘီလူးသဘက်အများ စုတို့သည် တိမ်းရှောင်ထွက်ပြေးကြလေကုန်၏။ သို့သော် ဘီလူး သဘက်အနည်းစုမှာ အမှိုက်ပုံ, နံရံကြား စသည်တို့၌ ခိုကပ် ပုန်း အောင်းနေကြသေး၏။

ဘုရားရှင်သည် အရှင်အာနန္ဒာအား ရတနသုတ်ကို သင်ပေးတော် မူပြီးလျှင် လိစ္ဆဝီမင်းသားတို့နှင့်တကွ မြို့ရိုးသုံးခုတို့၏ အကြား၌ ရွတ် ဆိုရန် မိန့်တော်မူ၏။ အရှင်အာနန္ဒာသည် မြတ်စွာဘုရား၏ သပိတ် တော်ကို ပရိတ်ရေအပြည့်ထည့်ပြီးလျှင် မြတ်စွာဘုရား၏ ပါရမီ တော်, ဂုဏ်ကျေးဇူးတော်များကို ဆင်ခြင်အောက်မေ့လျက် ဝေသာလီ

မြို့ရိုးသုံးခုတို့၏အကြား၌ ညဉ့်သုံးယံပတ်လုံး ရတနသုတ်ကို ရွတ်တော်မူ၏။

'ယာနီဓ ဘူတာနိ' အစရှိသော ဂါထာကို ရွတ်ဆိုသည်မှစ၍ အထက်သို့ပက်သော ပရိတ်ရေသည် ဦးစိုက်ပန်းအလား ကောင်းကင်ဖြင့်သွား၍ သူနာတို့၏ကိုယ်ပေါ်၌ကျရောက်လေ၏။ ရေပေါက်ကျသည့်ခဏ၌ပင် အနာရောဂါများ ပျောက်ကင်းကြကုန်၏။

'ယံကိဉ္စိဝိတ္တံ' အစရှိသည့်ဂါထာကိုရွတ်သည်မှစ၍ အထက်ဝန်းကျင်သို့ ဖျန်းပက်လိုက်သောရေပေါက်တို့သည် ခိုကပ်ပုန်းအောင်းနေကြသည့် ဘီလူးသဘက်များပေါ်သို့ကျရောက်ကြသဖြင့် ဘီလူးသဘက်များ ထွက်ပြေးကြလေကုန်၏။

နံနက်မိုးသောက်သော် မြတ်စွာဘုရားသည် ဝေသာလီမြို့လယ်ကောင် လွှတ်ရုံးခန်းမဆောင်၌ ဝေသာလီပြည်သူပြည်သား ဗိုလ်လူအများနှင့်တကွ နတ်, သိကြား, ဗြဟ္မာတို့အား ရတနသုတ်ကို ဟောကြားတော်မူ၏။ သတ္တဝါရှစ်သောင်းလေးထောင်တို့သည် မဂ်ဖိုလ်နိဗ္ဗာန်ရ၍ ကျွတ်တမ်းဝင်ကြကုန်၏။

ထိုနေ့မှစ၍ မြတ်စွာဘုရားသည် ခုနစ်ရက်တိုင်တိုင် ရတနသုတ်ကို နေ့စဉ်ဟောတော်မူရာ နေ့စဉ်ပင်လျှင် ရှစ်သောင်းလေးထောင်သော သတ္တဝါအပေါင်းတို့ ကျွတ်တမ်းဝင်ကြကုန်၏။ ဝေသာလီပြည်သည်လည်း အစာငတ်မွတ်သည့်ဘေး၊ အနာရောဂါဘေး၊ ဘီလူးဘေးတို့မှကင်းဝေးလျက် စည်ပင်ဝပြောလာလေ၏။

*"ဘယာဉပဒ်၊ သတ်ဖြတ်ခန္ဓာ၊ ဒုဗ္ဘိက္ခာနှင့်၊ ရောဂါပျက်စီး၊ မှုကြီးထွေရာ၊ တွေ့ရောက်လာသော်၊ ယာနီဓဘူတာ၊ ရတန*

*ဟု၊ တေဇလျှံထိပ်၊ သုတ်ပရိတ်ကို၊ စိတ်သစ္စာပြု၊ ရွတ်မှုမှန်စွာ၊ သုံးကြိမ်ခါတည်း"*

ရတနသုတ်တော်သည် အံ့ချီးဖွယ်ကောင်းအောင် အစွမ်းထက်ရခြင်းမှာ အဘယ့်ကြောင့်နည်း။ အဓိကအကြောင်းမှာ ထိပ်တန်းသစ္စာစကားများနှင့် ရတနာသုံးပါးဂုဏ်တော်များ ပါဝင်သောကြောင့်ဖြစ်၏။

"ဤလူ့ပြည်၌လည်းကောင်း၊ နဂါးပြည်, ဂဠုန်ပြည်, နတ်ပြည်စသည်တို့၌လည်းကောင်း၊ နှစ်သက်မြတ်နိုးအပ်သော ရတနာမျိုးစုံတို့ ရှိကြကုန်၏။ ထိုရတနာတို့တွင် မြတ်စွာဘုရားနှင့်တူမျှသော ရတနာသည်မရှိ၊ မြတ်စွာဘုရားသည်သာလျှင် လောကီရတနာအဖြာဖြာတို့ထက် ကောင်းမြတ်သောရတနာကြီးဖြစ်တော်မူ၏။ ဤမှန်သောသစ္စာစကားကြောင့် သတ္တဝါတို့အား ဘေးရန်ပျောက်ကင်းချမ်းသာ အေးမြခြင်းသည် ဖြစ်ပါစေသတည်း။"

ထို့အတူ နိဗ္ဗာန်, အရဟတ္တမဂ်သမာဓိ, အရိယာသံဃာတော် စသည်တို့သည် လောကီရတနာအဖြာဖြာတို့ထက် သာလွန်ကောင်းမြတ်သော ရတနာကြီးဖြစ်တော်မူကြောင်းကို သစ္စာဆိုကာ သတ္တဝါအပေါင်းတို့ ဘေးဘယာဝေးကွာ၍ ချမ်းသာကြစေရန် ဆုတောင်းမေတ္တာပို့သထားပေ၏။

ရတနသုတ်နှင့်တကွ ပရိတ်တရားတော်များ, ကမ္မဝါစသည့် ဗုဒ္ဓမန္တန်တော်များသည် ကပ်ရောဂါများနှင့် မကောင်းဆိုးဝါးအန္တရာယ်များကိုနှိမ်နင်းကာကွယ်ရန်အတွက် ခေတ်အဆက်ဆက်အရေးပါခဲ့ကြ၏။ ကောဇာသက္ကရာဇ် ၁၂၇၀ ပြည့်နှစ်မှစ၍ အထက်အညာတစ်ခွင်တွင် ကာလဝမ်းရောဂါ, ပလိပ်ရောဂါစသော ကပ်ရောဂါဆိုးများ

ဖြစ်ပွားလာရာ **လယ်တီဆရာတော်ဘုရား**သည် ဗုဒ္ဓမန္တန်တော်များ၏အကူအညီဖြင့် ထိုရောဂါများကို အမြို့မြို့အနယ်နယ်၌ အောင်မြင်စွာ နှိမ်နင်းပေးနိုင်ခဲ့၏။

ညောင်လွန့်တောရဆရာတော်၊ ဝံသာနုခေတ်က ဘေးမဲ့ဆရာတော်၊ ယခုလက်ရှိနယ်ခြားတောင်တန်းသာသနာပြုဆရာတော် ဦးဥတ္တမသာရ စသည်တို့သည်လည်း ပရိတ်တရား, မေတ္တာတရား စသည်တို့ဖြင့် သတ္တဝါများချမ်းသာကြရန် ဆောင်ရွက်ပေးတော်မူခဲ့ကြ၏။

## တောင်တန်းသာသနာပြုဆရာတော်၏စွမ်းဆောင်ချက်

ဆရာတော်ဦးဥတ္တမသာရသည် အင်္ဂလိပ်အစိုးရလက်ထက်မှစ၍ ယနေ့အထိ ချင်း, ကချင်, နာဂတောင်တန်းများ၌ လှည့်လည်၍ သာသနာပြုတော်မူခဲ့ရာ သာသနာပြုခဲ့သောကာလမှာ နှစ် ၅၀ ကျော်ခဲ့ပြီဖြစ်၏။ သက်တော်မှာ ၇၈ နှစ်သို့ပင် ရောက်ခဲ့လေပြီ။

ဆရာတော်ပရိတ်ရွတ်ဆိုသည့်အခါ ပရိတ်ရေဆူပွက်၏။ ထိုပရိတ်ရေကို ယုံယုံကြည်ကြည်သောက်သုံးသူများသည် ရောဂါပျောက်ကင်းကြ၏။ ရန်ကုန် ပုဇွန်တောင်မှ အစာအိမ်ကင်ဆာရောဂါသည်တစ်ဦးသည် ပရိတ်ရေသောက်သဖြင့် ရောဂါပျောက်ကင်းသွားကြောင်း ဆရာတော်အားလျှောက်ထား၏။

မနေဖြူမြို့တစ်ဖက်ကမ်းရှိ ပက်တန်းရွာတွင် မြွေပွေးအကိုက်ခံရသူတစ်ဦးသည် အဆိပ်မွှန်ပြီး မျက်စိမဖွင့်၊ စကားမပြောနိုင်၊ အိပ်ရာထဲ လဲနေ၏။ ဆရာဝန်က သွေးစစ်ကြည့်သည့်အခါ သွေးဆုတ်နေကြောင်း တွေ့ရ၏။ "ပရိတ်ရေတိုက်ပါ" လို့ အကြံပေးသဖြင့် ပရိတ်

ရေတိုက်၏။ မျက်စိဖွင့်လာ၏။ နောက်ရက်တွင် ဆုတ်နေသောသွေးများ ပုံမှန်ဖြစ်လာ၏။ သုံးရက်ကြာသည့်အခါ မြွေဆိပ်ကင်းရှင်းသွား၏။

ရန်ကုန်ဆေးရုံကြီး၌ အသက် ၆၀ ကျော် အစာအိမ်ကင်ဆာရောဂါ ဖြစ်နေသူ အမျိုးသမီးလူနာတစ်ဦးကို ၅–၂–၈၈ ရက်နေ့တွင် ခွဲစိတ်ကုသရန် ရက်ချိန်းပေးထား၏။ လူနာက အားနည်းနေသည့်အတွက် သွေးအား သွေးသွင်းပြီး ခေတ္တအနားပေးထား၏။ ထိုစဉ် လူနာသည် တောင်တန်းသာသနာပြုဆရာတော်နှင့်ဆုံတွေ့သဖြင့် မိမိခွဲစိတ်ကုသခံရမည်ကို စိုးရိမ်ကြောင်း လျှောက်ထား၏။

"ပရိတ်ရေ သောက်ပါ၊ ပျောက်ကင်းချမ်းသာသွားမှာပါ၊ ဆေးရုံတက်ပြီး မခွဲရပါဘူး၊ စိတ်ချပါ။ ဘုန်းကြီးကလဲ မေတ္တာပို့ပေးနေမယ်"ဟု စိတ်ချမ်းသာအောင် ဆရာတော်က အားပေးစကား ပြောကြား၏။ လူနာသည် စိတ်အားတက်လာပြီး ပရိတ်ရေကို သောက်၏။ ခွဲစိတ်ရန်ချိန်းထားသည့်နေ့တွင် ဆရာဝန်များစမ်းသပ်ကြ၏။ ရောဂါရှာဖွေ၍ မတွေ့တော့ချေ။

"ရောဂါမရှိတော့ဘူး၊ ခွဲစိတ်ကုသဖို့ မလိုတော့ဘူး၊ ဆေးရုံက ဆင်းနိုင်ပြီ"

သမားတော်ဆရာဝန်ကြီး ဦးစံတင်နှင့် ဆရာဝန်များက အံ့အားသင့်ကြကာ လူနာအား ရောဂါပျောက်ကင်းပြီဖြစ်ကြောင်း မိန့်ကြားလိုက်ကြ၏။ ပရိတ်ရေကြောင့် ရောဂါပျောက်ကင်းခဲ့ကြောင်းကို သိရှိကြသည့်အခါ ဆရာဝန်များကလည်း ပရိတ်ရေကိုတောင်းယူကြ၏။

## မိခင်နှင့်ကလေး အသက်ရှင်ရေး

ချင်းတောင်ပေါ်က ရွာတစ်ရွာတွင် အမျိုးသမီးတစ်ဦး မီးမဖွား နိုင်သဖြင့် သူ့ခင်ပွန်းက ဆရာတော်အား လာလျှောက်ထား၏။

"သခင်ကြီး…ကလေးက ကန့်လန့်ခံနေလို့ ကျုပ်မိန်းမ မီးမဖွား နိုင်တာ သုံးရက်တောင်ရှိပြီ၊ ဆေးခန်းကရော လက်သည်ကရော မတတ်နိုင်ကြတော့ဘူး။ အိမ်လိုက်ပြီးကြည့်ပါဦး"

ဘုန်းကြီးဟူသည်မှာ ဆေးဆရာမဟုတ်သော်လည်း ဆင်းရဲဒုက္ခ ရောက်နေသူများအား ကူညီနိုင်သလောက် ကူညီပေးရမည်ဖြစ်၏။ အထူးသဖြင့် တောင်ပေါ်ဒေသလိုအားကိုးရာမဲ့သည့်ဒေသများ၌ လူ အပေါင်းတို့၏အားထားစရာဖြစ်ထိုက်ပေ၏။ ဆရာတော်ဘုရားတို့ တွင် အားကိုးလောက်သည့် သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်တို့ ရှိနေသည်မှာလည်း ဝမ်းသာစရာပင်ဖြစ်၏။

တောင်တန်းဆရာတော်သည် ချင်းဒကာနှင့်လိုက်သွား၏။ သို့ သော် အိမ်ထဲသို့မဝင်ချေ။ အိမ်အပြင်က သစ်ပင်တန်း၌နေခဲ့၏။

"ကဲ…မင်း ရေတစ်ခွက်ယူပြီး ပြန်လာခဲ့"

ရေခွက်ကိုကိုင်ပြီး ဆရာတော်သည် မေတ္တာပရိတ်ကိုရွတ်၏။ ထို့ နောက် အင်္ဂုလိမာလသုတ်ကို ခုနစ်ခေါက်ရွတ်၏။

"ဒီဆေးကို ယုံယုံကြည်ကြည်သောက်လို့ပြော၊ ပြီးတော့ ဒီရေ ခွက်ကို ကြိုးတန်းအဝတ်တန်းအောက်က ယူမသွားနဲ့"

ထိုအမျိုးသမီး မကြာမီ မီးဖွားနိုင်သဖြင့် ဆရာတော်အားကျေးဇူး တင်မဆုံးရှိကြ၏။ ထိုအချိန်မှစ၍ ဆရာတော်သည် ချင်းအမျိုးသမီး များ မီးဖွားမည်ပြုတိုင်း အင်္ဂုလိမာလသုတ်ကို တွင်တွင်ရွတ်ပေးရ

လေတော့၏။ အလွန်ဝေးလံသည့်ရွာများကပင် လာရောက်ကာ ပရိတ်ရေတောင်းခံကြ၏။

**မေတ္တာကရုဏာကြီးကြီးဖြင့် စေတနာပါပါ လုပ်လျှင် ပရိတ်ရေအစွမ်းထက်ကြောင်းကို ဆရာတော်လက်တွေ့ပြလိုက်ခြင်းပေတည်း။**

ဆရာတော်သည် မြေပြန့်သို့ဆင်းလာသည့်အခါ၌လည်း သတ္တဝါများကို ကူညီပေးရသည်သာဖြစ်၏။ ရန်ကုန်မြို့လယ်မှ အမျိုးသမီးတစ်ဦးသည် အသားဝါရောဂါဖြစ်ပြီး အဖျားတက်နေ၏။ မီးလည်း မဖွားနိုင်ဖြစ်နေ၏။ သို့အတွက် ဆရာဝန်က လူနာရှင်အား မေး၏။

"လူကြီးအသက်ကို ယူမလား၊ ကလေးအသက်ကို ယူမလား၊ နှစ်သက်စလုံးရဖို့တော့ မလွယ်ဘူး"

ထိုအခါ မိတ်ဆွေတစ်ယောက်က တောင်တန်းဆရာတော်၏ ပရိတ်ရေကို ပေး၏။ လူနာက အားကိုးတကြီးဖြင့် ယုံယုံကြည်ကြည် သောက်၏။ မကြာမီ ချမ်းချမ်းသာသာမီးဖွား၏။ မိခင်ရောကလေးပါ ကျန်းကျန်းမာမာရှိကြလေ၏။

ကမာရွတ် လှိုင်မြို့နယ် မရမ်းတစ်ပင်ရပ်ကွက်မှ အမျိုးသမီးတစ်ဦးသည် သားအိမ်ကင်ဆာရောဂါဖြစ်၍ ဆေးရုံတက်ပြီး ဆင်းလာ၏။ ရောဂါလွန်နေ၍လောမသိ၊ အိမ်ထဲ၌လူမနေနိုင်အောင် နံစော်နေ၏။ သူသောက်နေသည့်ဆေးများက အလွန်ပူလွန်းသဖြင့် မနေနိုင်၍ ဆရာတော်၏ပရိတ်ရေကိုတောင်း၏။ ပရိတ်ရေကို သောက်ပြီးသည့်အခါ အပုပ်နံ့တို့သည် ယူပစ်လိုက်သလိုပျောက်သွားသည်ဟု မျက်မြင်ကိုယ်တွေ့တစ်ဦးက ဆရာတော်အား လျှောက်ထား၏။

## မီးသတ်မျှော်စင်ကြီးပေါ်က ပရိတ်ရွတ်ပွဲ

မီးအန္တရာယ်သည် အလွန်ကြောက်စရာကောင်းသောဘေးတစ်ခု ဖြစ်၏။ တောင်တန်းဆရာတော် ပရိတ်ရွတ်ဆိုပေးခဲ့သည့် မြို့နယ်များစွာ၌ ရွတ်ဆိုသည့်နှစ်တွင် ထူးထူးခြားခြား မီးဘေးမှကင်းလွတ်လေ့ရှိသည်ဟု ကြားသိရ၏။

လားရှိုးမြို့၌ မီးအကြီးအကျယ်လောင်နေစဉ် လူတစ်ယောက်က ဆရာတော်၏ပရိတ်ရေကို သူ့အိမ်ပတ်လည်တွင် ပက်ဖျန်း၏။ ထိုအိမ်ကိုမီးက ထူးထူးခြားခြားကွင်းရှောင်သွားသည်ကို လူအများမြင်တွေ့ကြရ၏။ မြိတ်မြို့တွင် မီးလောင်နေသည့်အခိုက်၌ ရေတစ်ပုံးထဲ ပရိတ်ရေထည့်ပြီး ပက်ဖျန်းလိုက်ရာ မီးငြိမ်းသွားသည်ဆို၏။

၁၉၈၈ ခုနှစ်၊ ဆောင်းအကုန် နွေအကူးအချိန်တွင် ဆရာတော် ရန်ကုန်မြို့သို့ရောက်လာစဉ် မြို့တော်ကြီးကိုခြုံကာ မေတ္တာဖြန့်ပြီး မီးမလောင်စေရန် ကရဏီယမေတ္တာသုတ်ဖြင့် စွမ်းအားရှိသလောက်ပရိတ်တရား ရွတ်ပေး၏။ ရပ်ကွက်အလိုက် ပရိတ်နာပွဲများပြုလုပ်၏။ ဒကာအချို့စီစဉ်ပေးသည့်အတွက် ဆူးလေစေတီတော်အနီးရှိ ဗဟိုမီးသတ်ဌာနမျှော်စင်ကြီးအပေါ်ထပ်သို့ ဆရာတော်ကြွရောက်ကာ ငါးကြိမ်တိုင်တိုင်ပရိတ်တရားသုတ္တန်များကို ရွတ်ပေးခဲ့၏။ ထိုနှစ်တွင် ရန်ကုန်မြို့အားလုံး၌ မီးလောင်မှုအထူးနည်းပါးခဲ့၏။

## မိုးကို ရွာစေရပ်စေ

ဖ–ဆ–ပ–လ ခေတ်က ဖြစ်၏။ ချင်းတောင် ဖလမ်းမြို့မှာ တပေါင်းလကစပြီး မိုးရွာလေ့ရှိသော်လည်း ဒုတိယဝါဆိုလအထိ မိုးတစ်ပေါက်မှ မကျသေးချေ။ ချင်းအမျိုးသားတို့က ရိုးရာဓလေ့

အတိုင်း နွားနောက်သွေးဖြင့် မိုးနတ်သားအား ပူဇော်ပသရန် စီစဉ်ကြ၏။ ဆရာတော်ကြားသိသည့်အခါ ခုနစ်ရက်ဆိုင်းငံ့ရန် မေတ္တာရပ်ခံ၏။ ထို့နောက် မိုးနတ်သား, လေနတ်သားတို့ကအစ တောစောင့်နတ်, တောင်စောင့်နတ်စသည်တို့ကိုလည်းကောင်း၊ မိုးခေါင်ရေရှားသဖြင့် ဒုက္ခရောက်နေသည့်လူအားလုံးကိုလည်းကောင်း မေတ္တာပို့၏။ ထို့နောက် မိုးပရိတ် (ငါးရံ့မင်းပရိတ်) ကို ခုနစ်ခေါက်သုံးရက်ဆက်ပြီးရွတ်ဆိုရာ နေပူကျဲကျဲတွင် မိုးပေါက်ကြီးများ သုံးရက်ဆက်တိုက်ပင် ရွာကျလာ၏။

မိတ္ထီလာနှင့်မြင်းခြံတို့ဘက်၌ မိုးအလွန်ခေါင်သည့်အချိန်တွင် ဆရာတော်ထံ စာအားဖြင့် အကြောင်းကြားလျှောက်ထားကြ၏။ ဆရာတော်က တောင်ပေါ်မှပင် မှန်းပြီးပရိတ်ရွတ်ပေး၏။ ထို့နောက် ရေဒီယိုက သုံးရက်ဆက်တိုက် မိုးရွာကြောင်း သတင်းရ၏။

တစ်နှစ်တွင်မူ ချင်းတောင်၌ သုံးလေးလမိုးဆက်တိုက်ရွာနေသဖြင့် တောင်ယာများမစိုက်ပျိုးနိုင်ဖြစ်နေ၏။ တောင်သူများ စိတ်ညစ်နေကြ၏။

"ဒါ...သခင်ကြီးလုပ်တာနေမှာပဲ" ဟုယူဆပြီး ချင်းဒကာအချို့သည် ဆရာတော်ကျောင်းသို့လာကြ၏။

တောင်ပေါ်သားများကား အလွန်ရိုးသားကြ၏။ ဆရာတော်သည် မငြင်းဆိုသာတော့ဘဲ မိုးနတ်သား, လေနတ်သားတို့အား မေတ္တာပို့ကာ မိုးရပ်ရန်ဆောင်ရွက်ပေးရပြန်၏။

## ပရိတ်အစွမ်းထက်မှု မထက်မှု

“ထေရဝါဒ မြန်မာနိုင်ငံမှာ ရဟန်းပုဂ္ဂိုလ်အားလုံးပင် ပရိတ်သုတ္တန်များကို ရွတ်ဖတ်ကြမြဲဖြစ်ပါတယ်။ သို့သော် အချို့ပုဂ္ဂိုလ်တို့ရွတ်ဆိုကြသောပရိတ်တော်က ထိရောက်အောင်အစွမ်းပြကြတယ်၊ ထက်မြက်ကြောင်း ပေါ်လွင်ကြတယ်။ အချို့သောပုဂ္ဂိုလ်တို့ ရွတ်ဆိုကြသည့်အခါ ထိရောက်အောင်အစွမ်းပြကြောင်း မကြားသိရပါဘုရား။ အဲဒါ ပုဂ္ဂိုလ်ကခြားနားပါသလား၊ ပရိတ်ကခြားနားပါသလား”

ဆရာတော်အား ဤမေးခွန်းမေးသူမှာ တက္ကသိုလ်ကထိကဟောင်း ရပ်ရှင်ဒါရိုက်တာနှင့်စာရေးဆရာ ဦးဆန်းလွင်ဖြစ်ပါ၏။

“မေတ္တာစေတနာနှင့် ကရုဏာစေတနာထက်သန်မှု ခြားနားသောကြောင့် ပရိတ်သုတ္တန်တရားသည် ဘုရားဟောကြားထားချက်တူပါလျက် ရွတ်ဖတ်ပေးကြရာမှာ ကောင်းကျိုးသက်ရောက်မှု ခြားနားခြင်းအမှန်ဖြစ်တယ်။ သီလဂုဏ်၊ သမာဓိဂုဏ်ရှိန်ခြားနားသောကြောင့်လဲ ကောင်းကျိုးသက်ရောက်မှု ပေါ်လွင်သိသာခြင်း ခြားနားနေတာအမှန်ဖြစ်တယ်”ဟု ဆရာတော်ဖြေကြား၏။

မေးလျှောက်သူ ဦးဆန်းလွင်က “စောဒကတက်ရန်မရှိပါ၊ ကျေနပ်ပါတယ်”ဟု ပြန်လျှောက်၏။

ပရိတ်အစွမ်းထက်မြက်ရေးမှာ ရွတ်သူဘက်ကတင်မက နာသူဘက်ကလည်း ခြားနားမှုရှိနေ၏။ ပရိတ်နာသူ၊ ပရိတ်ရေသုံးစွဲသူတို့သည် အောက်ပါအချက်သုံးချက်နှင့် ကိုက်ညီရန် လိုသေးသည်ဟု ဆရာတော်ထပ်မံ၍မိန့်ဆို၏။

၁။ မိသတ်၊ ဖသတ်စသော (ပဍ္ဍာနုဋ္ဌရိယ) ကံကြီးငါးပါး မလွန်ကျူးသူဖြစ်ရမယ်။

၂။ ကံ–ကံ၏ အကျိုးကိုလက်ခံသူ (သမ္မာဒိဋ္ဌိ) ဖြစ်ရမယ်။

၃။ အရေးပါဆုံးအချက်က... မြတ်စွာဘုရားရှင်ရဲ့ မုခပါဌ် ပရိတ်တရားတော်ရဲ့ အစွမ်းသတ္တိကို တကယ်ယုံကြည်သူ ဖြစ်ရမယ်။

အမှန်တရားဟူသောသစ္စာသည်လည်း အစွမ်းထက်လှ၏။

သစ္စာကိုယုံကြည်သောစိတ်၌လည်း အနန္တ အစွမ်းသတ္တိရှိ၏။

မေတ္တာ၊ ကရုဏာ၊ စေတနာ၊ ပညာ (သမ္မာဒိဋ္ဌိ)၊ ဝိရတိ (သီလ)၊ သမာဓိ စေတသိက်တို့ကလည်း အလွန်အစွမ်းထက်မြက်ကြ၏။

အစွမ်းထက်သည့်အကြောင်းရပ်များ ပေါင်းဆုံမိကြသောအခါ အလွန်တရာထူးခြားဆန်းကြယ်သော အကျိုးတရားများ ဖြစ်ပေါ်လာကြသည်သာတည်း။

မေတ္တာနှင့်သစ္စာတို့သည် ကမ္ဘာလောကကြီးအား မဥ္စူသကနတ်ပန်းထက်မက မိုးပေါ်ကကြယ်တာရာများထက်မက လှပတင့်မော စေကြသည်တကား။

၀

ပြောလျှင်မယုံ ကြုံဖူးမှယုံစဖွယ်

# စားမရေကူးသည့် အပြစ်ထူးကြီး

**သူတော်ချင်းချင်း သတင်းလွှေ့လွှေ့**

"ငါ ပြည်မြို့ကို သိမ်းပိုက်ရာမှာ ရှင်တစ်ဆူနဲ့လူတစ်ယောက်ပဲ ရတယ်"

သာသနာ့ဒါယကာ အင်းဝဘုရင်သာလွန်မင်းတရားက မိန့်ကြားတော်မူခဲ့၏။ ရှင်တစ်ဆူဆိုသည်မှာ ပြည်ပဥ္စင်းကျော် အရှင်ဥပါလိ ဖြစ်၏။ ဤအရှင်သည် ငယ်စဉ်ကပင် ပညာရည်ထူးချွန်၏။ ရှင်ဘုရင်၏ ချီးပင့်ခြင်းကို ခံယူရပြီးသည့်နောက် တိပိဋကစရေးဘွဲ့နှင့် မဟာတိပိဋကစရေးဘွဲ့တံဆိပ်တို့ကို အလှူခံရရှိခဲ့၏။ သို့အတွက် တိပိဋကာလင်္ကာရ ရာဇဂုရုဘွဲ့ အမည်ဖြင့် သာလွန်မင်းနှင့် စစ်ကိုင်းမင်းသားတို့ကိုးကွယ်သည့် နန်းဦးဆရာတော်ဖြစ်တော်မူ၏။

ဤမင်းဆရာတော်သည် ကောဇာသက္ကရာဇ် ၁၀၀၁ ပြည့်နှစ်တွင် ပျောက်ကွယ်နေသော မန်းစက်တော်ရာနှစ်ဆူကိုရှာဖွေရန် အဖော်များနှင့်အတူထွက်ခဲ့၏။ နတ်ဘီလူးတစ်ယောက်က ကိုယ်ထင်ရှား

ပြပြီး လိုက်လံညွှန်ပြပေးသဖြင့် စက်တော်ရာနှစ်ဆူကို ဖူးတွေ့ကြရ၏။

မန်းစက်တော်ရာမှအပြန်တွင် ပခန်းကြီးမြို့ ရွှေဥမင်တောရ၌ လူသူတော်ကပ္ပိယတစ်ဦးနှင့်သာ သီတင်းသုံးနေတော်မူသော အရှင်ဇမ္ဗူဓဇထံဝင်၏။ **ရွှေဥမင်တောရဆရာတော်**သည် ကျမ်းဂန်နှံ့စပ်သူတစ်ဦးဖြစ်ပြီး ဝိနည်းငါးကျမ်း ပါဠိအဋ္ဌကထာနိဿယကို စီရင်တော်မူခဲ့၏။ အရေးအသားတိကျပြတ်သား၍ သိုသိပ်ရှင်းလင်းလှ၏။ မထင်မရှားခေါင်းပါးစွာ ကျင့်ကြံနေထိုင်သူတစ်ဦးလည်း ဖြစ်၏။

ပရိသတ်နောက်ပါအများနှင့် မင်းဆရာတော်ကြွလာသည့်အခါ ရွှေဥမင်ဆရာတော်က ကြိုဆို၍ အရိုအသေပြုမည်ရှိသောအခါ မင်းဆရာတော်က ရဟန်းတို့၏ထုံးတမ်းအရ အသက်သိက္ခာမည်မျှရှိသည်ကို မေးမြန်းတော်မူ၏။ အံ့သြဖွယ်ရာပင် မိမိနှင့်သက်တူဝါတူဖြစ်နေသဖြင့် အရိုအသေပြုမှုကို တားမြစ်၏။

"မင်းဆရာ...ရှေ့ကကြွတော်မူပါ"

"တပည့်တော်က မင်းဆရာဖြစ်သော်လဲ အရှင်ဘုရားက စာပေဂုဏ်ကြီးသူဖြစ်ပါတယ်။ အရှင်ဘုရားသာ ရှေ့ကကြွတော်မူပါ"

"မင်းဆရာမို့ ရှေ့ကကြွခိုင်းခြင်း မဟုတ်ပါ၊ တပည့်တော်က အိမ်သည်ဖြစ်၍ ဧည့်သည်ဖြစ်သော ဆရာတော်ကို ရှေ့ကကြွရန် လျှောက်ထားခြင်း ဖြစ်ပါတယ်"

မင်းဆရာတော်က ကြည်နူးစွာပြုံး၍ ရှေ့ကကြွတော်မူ၏။ ကျောင်းကလေးပေါ်တွင် အစုလိုက်အပြန့်လိုက်ရှိနေသော ပေပုရပိုက်များမှ အပ အခြားပစ္စည်းမရှိ။ ခုတင်အိပ်ရာလည်းမရှိ။ ခင်းစရာလည်းမရှိ။

ရွှေဥမင်ဆရာတော်က မိမိအသုံးပြုသည့် စမ္မခဏ် (သားရေနွယ် အခင်း) ကိုခါ၍ နေရာခင်းပေး၏။

"တောရဆရာတော်တစ်ပါးတည်းနေပါသလား"

"အလုပ်အကျွေး ကပ္ပိယတစ်ဦးနဲ့ပါ"

"ဆရာတော်ရဲ့တောရကျောင်းက မြို့ရွာနဲ့ဝေးလွန်းခေါင်လွန်း လှပါတယ်၊ မကြောက်ဘူးလားဘုရား"

"မှန်လှပါ၊ ကြောက်၍သာ ဤသို့နေရပါတယ်ဘုရား"

မင်းဆရာတော်သည် တောရဆရာတော်၏စကားကို အလွန် ကြည်ညိုသွား၏။ မိမိက သားရဲတိရစ္ဆာန်နှင့် သူခိုးဓားပြရန်ကို မကြောက်ဘူးလားဟု လောကစကားဖြင့်မေးမိသည်ကို တောရဆရာ တော်က သံသရာကိုကြောက်၍ ဤသို့နေပါသည်ဟု ဓမ္မစကားဖြင့် တုံ့ပြန်၏။ ထိုစကားသည် မိမိအား ဓမ္မသံဝေဂဖြစ်စေပြီး မိမိအား သံသရာကိုမကြောက်သူအဖြစ် ပေါ်လွင်စေ၏။

"တောရဆရာတော်ရဲ့ကျမ်းစာများကို ဖတ်ရပါတယ်။ အလွန် ကောင်းမွန်လှ၍ ချီးကျူးပါတယ်"

"ကျေးဇူးတင်ပါတယ်၊ တပည့်တော်ရဲ့စာများ အင်းဝနေပြည် တော်အထိ ပျံ့နှံ့ကြောင်းကြားသိရ၍ ဝမ်းမြောက်လှပါတယ်"

"တောရဆရာတော်က တရားလဲထိုင် စာလဲရေးဆိုတော့ အား လပ်ချိန်ရယ်လို့ မရှိဘူးထင်ပါရဲ့"

"မှန်လှပါ၊ လူ့ဘဝဆိုတာ အင်မတန်တိုတောင်းလှပါတယ်။ ပြု လုပ်ထိုက်တဲ့ကိစ္စတွေက များလှသဖြင့် အားလပ်ချိန်ရယ်လို့ မရှိ စကောင်းဘူးထင်ပါတယ်"

"သာဓု…သာဓု…သာဓု၊ ပေပုရပိုက်တွေက ဝိုင်းဝိုင်းလည်လို့ပါ လား၊ အခုလောလောဆယ် ဘာစာများပြုစုနေပါသလဲ"

"ပါရာဇိကံအဋ္ဌကထာနိဿယပါဘုရား"

"အလို…တိုက်ဆိုင်မှ တိုက်ဆိုင်လွန်းပလေ၊ အရှင်ဘုရားပြန်ဆို နေ မှန်း မ သိ လို့ တ ပည့် တော် လဲ ပြန် ဆို နေ လျက် တန်း လန်း ပဲ၊ ကျောင်းရောက်တော့မှ ဘုရားရှေ့မှာမီးရှို့ပြီး ပူဇော်လိုက်ရမယ်"

"ပြန်ဆိုပြီးသားကို မီးရှို့ဖို့သင့်မယ်မထင်ပါဘူးဘုရား"

"အ ရှင် ဘု ရား ရဲ့ လက် ရာ ကို ဘယ် လို မှ မ မီ နိုင် ပါ ဘူး၊ စာသင် ရဟန်းများအဖို့ မူနှစ်ရပ်ရှိနေရင်လဲ စိတ်ထွေပြားစရာဖြစ်လိမ့်မယ်၊ ဒါကြောင့် တပည့်တော်ရဲ့စာမူကို မီးပူဇော်လိုက်ပါ့မယ်"

"ဆန္ဒတော်အတိုင်းပါဘုရား"

ထို့နောက် တောရဆရာတော်၏ ပြန်ဆိုချက်များကို တောင်းယူ၍ ဖတ်ရှု၏။

"တပည့်တော်ဆုံးဖြတ်တာ မှန်ပါတယ်၊ အရှင်ဘုရားရဲ့လက်ရာ က ပိုကောင်းပါတယ်"

ထို့နောက် မင်းဆရာက ကြံ့တုန်းကြံ့ခိုက်လှူပါရစေဟုဆိုကာ သင်္ကန်း၊ ထီး၊ ဖိနပ်စသည့်ပစ္စည်းများကို တောရဆရာတော်သို့ ကိုယ် တိုင် ပေးလှူ၏။ တောရဆရာတော်သည် မင်းဆရာပေးလှူသော ပစ္စည်းများကို မင်းဆရာရှေ့၌ပင်လျှင် မြတ်စွာဘုရားအား ကပ်လှူ လိုက်၏။

မင်းဆရာပြန်ကြွသွားသောအခါ ကပ္ပိယဒကာကြီးက…

"အရှင်ဘုရားလုပ်ပုံက မင်းဆရာကို အားနာဖို့ကောင်းလိုက်တာ၊ သူ သဒ္ဓါကြည်ဖြူလို့ပေးလှူတာကို သူ့မျက်နှာကွယ်တဲ့အထိ ခေတ္တ

စောင့်ဆိုင်းပြီးမှ ဘုရားလှူချင်ရင်လဲ လှူပေါ့ဘုရား၊ သူ့ရှေ့တွင်ပဲ လှူနေတော့ တပည့်တော်ဖြင့် မျက်နှာအထားရခက်သွားပါတယ် ဘုရား”

“အင်း…ဒကာက သာမန်အမြင်နဲ့ကြည့်တာကိုး၊ မင်းဆရာတော်က ပညာရှိကြီးပါ၊ ငါ့ရဲ့အပြုအမူကို သူနားလည်မှာပါ၊ သူက ငါ့ကို ပစ္စည်းလှူတယ်၊ ငါက ပြန်လှူစရာပစ္စည်းမရှိလို့ တရားအလှူပဲ လှူလိုက်ရတယ်။ ငါ့တရားအလှူက မင်းဆရာတော်အဖို့ ဘယ်လောက်အဖိုးတန်တယ်ဆိုတာ ဒကာကြီးမကြာခင်ကြားရပါလိမ့်မယ်၊ ဒီကအပြန်မှာ နေပြည်တော်က သူ့ကျောင်းကိုပြန်ဝံ့တော့မယ် ငါမထင်ဘူး”

မှန်လှပေ၏။ ရွှေဥမင်ဆရာတော်က ဆုံးမစကားတစ်လုံးမျှမပါဘဲလျက် မင်းဆရာတော်အား သံသရာကိုမကြောက်သူ၊ အဖိုးမတန်သည့်လာဘ်လာဘများကိုခင်တွယ်နေသူအဖြစ် သတိသံဝေဂရသွားစေ၏။

မင်းဆရာတော်သည် ဘုရားဆုပန်ထားသူဖြစ်သဖြင့် ငယ်စဉ်ကပင် တောထွက်ရန်ရည်မှန်းချက်ရှိခဲ့၏။ ယခုသက်တော်မှာ ၆၀ နှစ်ခန့်ရှိလာပြီဖြစ်၍ တောရဆောက်တည်ရန် အချိန်ကျရောက်ပြီဖြစ်ကြောင်း ဆုံးဖြတ်လိုက်၏။

သို့အတွက် ရွှေစက်တော်နှင့် ပခန်းကြီးမြို့မှအပြန်တွင် နေပြည်တော်အတွင်းရှိ လေးထပ်မင်းကျောင်းကြီးသို့မဝင်တော့ဘဲ စစ်ကိုင်းတောင်ဖီလာသို့သွား၍ တောရရဟန်းအဖြစ် သီတင်းသုံးတော်မူ၏။ ထိုအခါမှစ၍ **တောင်ဖီလာတောရဆရာတော်** အဖြစ် ထင်ရှားလာ၏။

## ကာမဂုဏ်ကွန်ရက်ထဲဝယ်

စစ်ကိုင်းမြို့အနီးရှိတောင်များသည် ဧရာဝတီမြစ်နှင့် အလိုက်သင့် အလျားလိုက်တည်နေကြ၏။ ထိုတောင်များအလွန်တွင် ဖီလာကန့်လန့်တည်နေသော တောင်တစ်တောင်ရှိ၏။ တောင်ဖီလာဟု အမည်ရ၏။

ထိုတောင်ထိပ်၌ တောရဆောက်တည်နေသော 'တောင်ဖီလာဆရာတော်' ထံသို့ သာလွန်မင်းတရားကြီးနှင့် စစ်ကိုင်းမင်းသားတို့ကြွရောက်လာပြီး ဖူးမြော်ကြ၏။ အင်းဝရွှေကျောင်း၌ဖြစ်စေ စစ်ကိုင်း ရွှေကျောင်း၌ဖြစ်စေ ပြန်လည်သီတင်းသုံးပါရန် လျှောက်ထားကြ၏။

ဆရာတော်က မိမိသည် သာသနာတော်အကျိုးနှင့် အများအကျိုးအတွက် နှစ်ပေါင်းများစွာ ဆောင်ရွက်ခဲ့ပြီးပြီ။ အသက်အရွယ်ထောက်လာသည့် ယခုအခါ၌ မိမိ၏လွတ်မြောက်မှုအတွက် ဆောင်ရွက်ရန် ခွင့်ပြုကြပါဟုတောင်းပန်၏။

ဘုရင်မင်းမြတ်သည် ဆရာတော်အား မည်သည့်ကိစ္စနှင့်မျှ ပင့်ဆောင်၍မရသည့်အခါ ဆရာတော်၏သစ်ခက်ကျောင်းကလေးကို တောင့်တင်းခိုင်မာအောင် ပြုပြင်စေပြီး ကျောင်းအနီးတွင် စေတီတစ်ဆူကို တည်ထားစေ၏။ တောင်ခြေဆွမ်းခံလမ်းဘေး၌ရှိသော ရေကန်ကိုလည်း ကန်ပေါင်နှင့်တင့်တယ်အောင် ပြုပြင်စေပြီး ပန်းမျိုးစုံတို့ဖြင့် စိမ်းစိုသာယာနေအောင် မွမ်းမံစေ၏။ ထို့နောက် နေပြည်တော်သို့ပြန်ကြွတော်မူ၏။

တစ်နေ့သောညနေစောင်းအချိန်တွင် ဆရာတော်သည် ကမ္မဋ္ဌာန်းအလုပ်မှထ၍ တောင်ခြေရေကန်သို့ စင်္ကြံလျှောက်၏။ ကပ္ပိယ ဆွတ်

ခူးပေးထားသည့်ပန်းစည်းကို ယူ၍ စေတီသို့ပြန်လျှောက်လာ၏။ စေတီ၌ ပန်းကပ်လှူပြီး အေးချမ်းစွာပင် ဘုရားဝတ်ပြုနေ၏။

လမင်းသည် နွေဦးညဥ့်၏ မြူခိုးမြူငွေ့များကို မိမိ၏ အလင်းရောင်ဖြင့် ကြဲဖြန့်ကာ ဝင်းသာလျက်ရှိ၏။ တောင်ဖိလာတစ်ခိုရှိ တောတောင်များသည် လရောင်အောက်တွင် ဆိတ်ငြိမ်စွာတင့်မောသာယာလျက် တည်ရှိနေကြ၏။ လေနုအေးက ညင်သာစွာတိုးဝှေ့ကာ တိုက်ခတ်နေ၏။

ဆရာတော်သည် တောတောင်အလှနှင့် သဘာဝဆိတ်ငြိမ်မှုဟူသည့် ဝိဝေကချမ်းသာကို ခေတ္တဆင်ခြင်နှလုံးသွင်းပြီးနောက် အမှတ်သတိဖြင့် ကျောင်းသခ်မ်းကလေးဆီသို့ လျှောက်လာ၏။

ကျောင်းလှေကားရင်းတွင် တဘက်နွမ်းကလေးကို မလုံ့တလုံလွှမ်းခြုံရင်း တဟင်းဟင်းညည်းညူလူပ်ရှားနေသူတစ်ဦးကို ဆရာတော် မမျှော်လင့်ဘဲ တွေ့လိုက်ရ၏။

"ဟဲ့ ... ဘယ်သူတုံး"

"တပည့်တော်မ အရှင်ဘုရားရဲ့ဆွမ်းခံရွာက ရှင်ငြိမ်းပါဘုရား"

ရှင်ငြိမ်းသည် ဖို့လှိုက်ရှိုက်ငင်သံဖြင့် လျှောက်ထားရင်း ဆရာတော်ကို ဦးချကန်တော့နေ၏။ စုတ်ပြဲနေသောအင်္ကျီအောက်မှ သူမ၏ ကျောပြင်ဖွေးဖွေးကို လရောင်တွင်မြင်လိုက်ရသဖြင့် ဆရာတော်၏ စိတ် တုန်လှုပ်သွားမိ၏။

ကန်တော့ဦးညွှတ်ပြီးနောက် မျက်နှာကို မော့လိုက်သည့်အခါ ဆံနွယ်ဆံစ ကပိုကရိုအောက်မှ ဖြူဖွေးပြည့်ဖြိုးလှပသော မျက်နှာပုံသွင်သည် လရောင်တွင် ထင်ပေါ်လာပြန်သဖြင့် ဒေဝစ္ဆရာ နတ်ကညာတစ်ပါးဟုပင် ထင်ယောင်မှားလောက်ပေ၏။ ပါးပြင်မို့မို့နှစ်ဖက်

ပေါ်တွင် မျက်ရည်ပုလဲဥများ တွဲခိုနေကြသည်မှာလည်း သနားကြင်နာစရာပင် ဖြစ်နေ၏။

မလျော်သောနေရာ မလျော်သောအချိန်တွင် မလျော်သော မာတုဂါမတစ်ဦးနှင့် ဆရာတော်ဆုံတွေ့နေရပါကလား။

"ဟဲ့...ဒကာမ၊ သွား...သွား...ဒါနင့်နေရာမဟုတ်ဘူး၊ နင်လာရမယ့်နေရာလဲ မဟုတ်ဘူး၊ နင် လူစင်စစ်မှဟုတ်ရဲ့လား"

"တပည့်တော်မ လူစင်စစ်ပါဘုရား၊ တောထဲကို ဟင်းရွက်ခူးသွားရာက အပြန်မှာ လူဆိုးယောကျ်ားနှစ်ယောက်က တပည့်တော်မကို အတင်းပွေ့ဖက်ကြပါတယ်ဘုရာ့၊ တပည့်တော်မ အတင်းရုန်းထွက်ပြီး ပြေးလာတာပါဘုရား။ တပည့်တော်မကို ကယ်တော်မူပါဘုရား"

"ဘာဖြစ်လို့ ကျောင်းကိုပြေးလာရသလဲ၊ ရွာကိုပြေးပါလား"

"သူတို့က ရွာဘက်က ပိတ်ပြီးလိုက်တာပါဘုရား"

"အခုလောက်ဆို သူတို့ပြန်ရောပေါ့၊ မမှောင်ခင် မင်းရွာပြန်ပေတော့"

"မပြန်ရဲဘူးဘုရား၊ သူတို့က တစ်ညဉ့်လုံးစောင့်နေမယ်တဲ့၊ ဆရာတော်ကိုကြောက်လို့ ဒီကိုမလာရဲကြတာပါ"

"အင်း...ဒုက္ခ...ဒုက္ခ"

ဆရာတော်သည် တိုးတိုးကလေး ညည်းလိုက်မိ၏။ ဤအဆင်းဤအသံတို့သည် မိမိနှင့်ဆန့်ကျင်ဘက်ဖြစ်နေ၏။ သို့သော် ဒုက္ခရောက်နေသူကို ဖေးမကူညီရန် လူမှုရေးတာဝန်ကိုလည်း လျစ်လျူရှု၍မဖြစ်။ သည်ဒကာမလေးကို သည်တစ်ညဉ့်တော့ လက်ခံရပေတော့မည်။

ဒကာမလေး၏ အင်္ကျီထဘီတို့မှာ နွမ်းရိစုတ်ပြဲနေကြပါသော်လည်း သူ၏ရုပ်ရည်မှာ ရွာသူတို့နှင့်မတူ။ နန်းတွင်းသူကလေးနှင့်တူနေပေသည်ဟု ဆရာတော်တွေးမိသေး၏။

"ကဲ…ကဲ… ဒီလိုဆိုရင် ဒီကျောင်းကပြင်လေးမှာ တစ်ညဥ့်တည်းခိုပေတော့"

"မှန်လှပါ၊ ဆရာတော်ထားရာမှာ နေပါ့မယ်ဘုရား"

ဆရာတော်သည် ကျောင်းကလေးအတွင်းသို့ဝင်၍ တံခါးကိုပိတ်လိုက်၏။ ထိုင်နေကျနေရာတွင် ထိုင်လိုက်ပါသော်လည်း ဒကာမလေး၏ရုပါရုံနှင့်သဒ္ဒါရုံတို့က အမျှင်တန်းလန်းပါလာခဲ့၏။ ထိုအာရုံကို သတိဖြင့်ဖြတ်တောက်၍ မိမိရှုမှားနေကျဖြစ်သော ဘာဝနာအာရုံသို့ စိတ်ကိုတင်လိုက်၏။

ကြိုးစားပမ်းစားတရားရှုမှတ်နေရသောကြောင့် တရားထိုင်သည်မှာ ခါတိုင်းထက်ပိုကြာသွား၏။ သန်းခေါင်းယံသို့ပင် ရောက်လာပေပြီ။ ညဥ့်၏အအေးဓာတ်သည် ကျောင်းကလေးအတွင်းသို့ပင် စိမ့်ဝင်လာနေ၏။

ဆရာတော်သည် အိပ်ရာထက်သို့ကျောလှဲချမည်ရှိစဉ် တံခါးကိုတဒုန်းဒုန်းထုသံကြားရ၏။

"အင်း…ဒကာ္ခပါကလား၊ ဘယ်လိုများဖြစ်ပြန်ပါလိမ့်"

တံခါးဖွင့်လိုက်သည့်အခါ လက်နှစ်ဖက်ကို ပခုံးတစ်ဖက်တစ်ချက်တွင် တင်းကျပ်စွာဖက်သိုင်း၍ ခိုက်ခိုက်တုန်နေသော ဒကာမလေးကို ဆရာတော်တွေ့ရ၏။ လေအေးက တဖြူးဖြူးတိုက်နေ၏။

"ချမ်းလိုက်တာဘုရား…ချမ်းလိုက်တာဘုရား"

ချမ်းရာလွန်း၍ သူကလေး၏အသံမှာ တုန်တုန်ရီရီဖြစ်နေ၏။

"အင်း... ချမ်းတာတော့အမှန်ပဲ၊ နို့ပေမယ့်... နင့်ကိုပေးစရာ စောင်မရှိဘူးကွဲ့"

"ကျောင်းထဲကို ဝင်ခွင့်ပြုပါဘုရား၊ ကျောင်းထဲမှာဆိုရင် လေလုံလို့ အချမ်းသက်သာမှာပါဘုရား"

"အင်း...ခက်တာပဲ၊ ရဟန်းဆိုတာ ဒကာမနဲ့တစ်ခန်းတည်းမဆိုထားနဲ့၊ တစ်မိုးတစ်ယံတည်းတောင် မအိပ်ကောင်းဘူးတဲ့"

"အရှင်ဘုရားမှမကယ်ရင် တပည့်တော်မ ဒီညခွဲ့သေရပါတော့မယ်ဘုရား"

ငိုရှိုက်သံပါလာ၏။ မှန်ပေ၏။ ပါးလွှာသည့်အင်္ကျီအပြဲကလေးနှင့် အေးစက်သည့်အချမ်းဒဏ်ကို တာရှည်သည်းခံနိုင်ရန်မှာ မလွယ်ကူပါချေ။

"ကဲ...ဒါဆိုလဲ ကျောင်းထဲဝင်၊ ဒီတံခါးဝနားမှာ အိပ်"

ဒကာမလေးသည် အခွင့်ရသည်နှင့်တစ်ပြိုင်နက် ချက်ချင်းပင်နေရာရွှေ့လိုက်၏။ ဤတွင် ဆရာတော်ရင်မောရပြန်၏။ ဒကာမလေး၏ထဘီမှာ အမျှောင်းလိုက်ဟိုနေရာသည်နေရာ စုတ်ပြဲနေကြရာ ရှေ့ရောနောက်ပါ စုဖုံး၍ မလုံနိုင်ရာပေ။ ထို့ကြောင့် ပေါင်တွင်းသား တစ်တစ်ရစ်ရစ်တို့သည် အဖွေးသား အထင်းသား ထွက်ပေါ်လာကြ၏။

ထိုမျှသာမဟုတ်သေး။ စုတ်ပြဲနေသောထဘီဆီသို့ ဖုံးဖိရန် လက်နှစ်ဖက်ကို ပြောင်းရွှေ့လိုက်သည့်အခါ ဖွံ့ထွားဖြိုးအိသည့်ရင်သားအစုံတို့သည် စုတ်ပြဲနေသောအင်္ကျီအတွင်းမှ အကာအရံမဲ့ အထိန်းအကွပ်မဲ့ကာ လွတ်လွတ်ပွင့်အန်ပေါ်ထွက်လာကြပြန်၏။

မြင်ကွင်းက လျင်မြန်လွန်းလှ၏။ ရုတ်တရက်မို့ ဆရာတော် ခေတ္တသတိလက်လွတ်သွား၏။ ချက်ချင်းပင် သတိကိုပြန်ဆယ်၍ တံခါးကိုပိတ်လိုက်၏။ ပြီးလျှင် မိမိ၏အိပ်ရာပေါ် ခေါင်းရင်းဆီသို့ ဆရာတော်လျှောက်သွားပြီးကာ ပြတင်းကိုဖွင့်လိုက်၏။ လေအေးများ ဒလဟောတိုးဝင်လာကြသဖြင့် ပြတင်းကိုပြန်ပိတ်လိုက်ရ၏။

ဆရာတော်သည် အတန်ကြာရပ်နေပြီးနောက် မိမိ၏အိပ်ရာပေါ်တွင် ညင်းညင်းသာသာ ထိုင်ချလိုက်၏။ ကနေ့ညဉ့်တွင် မိမိကျိန်းစက်ရန် မလျော်တော့သဖြင့် အရုဏ်တက်သည်အထိ တရားထိုင်ရန် ဆုံးဖြတ်လိုက်၏။ ဝိသဘာဂအာရုံကို ဖယ်ရှားနိုင်အောင် တရားအာရုံတွင် နှလုံးသွင်းနိုင်အောင် ဆရာတော်ကြိုးပမ်းနေသဖြင့် ဆိတ်ငြိမ်နေ၏။

အမိုးကြား နံရံကြားတို့မှ တိုးဝင်လာကြသော လရောင်ရေးရေးကြောင့် ဆရာတော်၏လှုပ်ရှားမှုများကို ဒကာမလေးက မြင်နေရ၏။ မိမိဖြန့်ကျက်ထားသည့် ကာမဂုဏ်ကွန်ရက်အတွင်းသို့ ဆရာတော် သက်နင်းမိနေပြီကို ဒကာမလေးအကဲခတ်လိုက်မိ၏။ လိမ္မာပါးနပ်စွာ အနီးသို့သိမ်းငင်၍ ဖမ်းယူဖို့သာလိုတော့၏။

"ဟီး...ဟီး...ဟီး...ချမ်းလိုက်တာ...သေတော့မယ်ထင်ပါရဲ့...ကယ်တော်မူပါဦး...ဘုရား"

ညည်းသံ၊ အော်ဟစ်သံ၊ အခြားမပီကလာသံတို့သည် ဒကာမလေးဆီမှ ထွက်ပေါ်လာကြ၏။ အသံက ဆက်ကာဆက်ကာ ထွက်ပေါ်လာသဖြင့် ဆရာတော်လည်း လျစ်လျူမရှုသာတော့ဘဲ မေးလိုက်ရပြန်၏။

"ဟဲ့...ဒကာမလေး၊ ဘာဖြစ်ပြန်တာတုံး"

ဒကာမလေးထံမှ ပြန်ဖြေသံပေါ်မလာ။ ကြမ်းပြင်ကို ခြေဖနောင့်တို့ဖြင့် ဆောင့်သံများနှင့် တဟီးဟီးအော်ညည်းသံတို့သာ ထွက်ပေါ်လာကြ၏။

"အင်း... ဒုက္ခ... ဒုက္ခ... ဘယ်လိုဖြစ်ပြန်ပလဲ... တယ်ခက်ပါလား"

ဆရာတော်သည် ဓာတ်မီးခြစ်ကလေးကို ခြစ်ပြီး ရေနံဆီမီးခွက်ကလေးကို ထွန်းညှိလိုက်၏။ မီးခွက်ကို ကိုင်မြှောက်၍ ဒကာမလေးအနီးသို့ ဆရာတော်လျှောက်လာ၏။ မီးရောင်အောက်တွင် ဒကာမ၏ ခန္ဓာကိုယ်အထင်းသားပေါ်လွင်လာသည့်အခါ ဆရာတော်၏ခြေလှမ်းများ တုံ့ရပ်သွား၏။

ရှင်ငြိမ်းသည် မျက်လုံးအစုံကိုမှိတ်၍ တဟီးဟီး...တဟင်းဟင်းညည်းညူရင်း ဘယ်ညာလူးလိမ့်နေရာ ပြည့်ဖြိုးသောပေါင်တံ လက်တံများနှင့် မို့အိသည့်ရင်သားအစုံတို့သည် ဟန်ချက်ညီညီယိမ်းလှုပ်နေကြ၏။ ဆံယဉ်ဆံစုများကလည်း ဘယ်ညာလှုပ်ခါနေကြ၏။ ရှင်ငြိမ်းသည် မချိမဆံ့ ဝေဒနာခံစားနေရသည့်ပမာ ဒူးနှစ်ဖက်ကိုကွေးချည်ဆန့်ချည် လှဲချည်ထောင်ချည်ပြုလုပ်နေပေသေး၏။

"အင်း...သူ့ခမျာ...လူဆိုးတွေရဲ့ ဗလက္ကာရပြုတာကိုခံခဲ့ရလို့လား၊ ညဥ့်ဝက်လောက် အအေးထဲမှာနေခဲ့ရလို့ အဖျားတက်နေလို့လား၊ ကယောင်ကတမ်းဖြစ်နေပြီထင်ပါရဲ့၊ ငါဘယ်လိုများ ကူညီပေးရပါ့မလဲ၊ သူ့နဖူးကလေးစမ်းသပ်ဖို့ကလဲ သိက္ခာပုဒ်နဲ့မလျော်ကန်..."

ဆရာတော်သည် သတိကိုထိန်းချုပ်၍ ကရုဏာစိတ်ဖြင့် ဆင်ခြင်မိပါသော်လည်း အလွန်အားကြီးသော ကာမဂုဏ်အာရုံက ငုပ်လျှိုး

နေသည့်တဏှာရာဂကို နှာလန်ထလာအောင် အတင်းနှိုးဆွနေ၏။

အာရုံကိုပြောင်းလဲသွားစေရန်အတွက် "ဟဲ့…ဒကာမလေး… ဒကာမလေး…"ဟု ဆရာတော်ခေါ်လိုက်၏။

ထိုအခါမှ ဒကာမလေးက သတိရလေဟန်ဖြင့် မျက်လုံးများကို ဖွင့်၍ ဆရာတော်အား ရီရီဝေဝေ တွေတွေကြီးစိုက်ကြည့်ပြီးလျှင် မပီကလာ ပီကလာ ငိုသံပါပါဖြင့်

"တပည့်တော်မကို ကယ်တော်မူပါဘုန်းဘုန်းဘုရား၊ ချမ်းလွန်းလို့ တပည့်တော်မ သေရပါတော့မယ်…အဖျားဝင်နေပြီထင်ပါရဲ့၊ ဘုန်းဘုန်း မှတစ်ပါး တပည့်တော်မ ကို ကယ်နိုင်သူ မရှိတော့ပါဘုရား"

ရှင်ငြိမ်းသည် ပြောရင်းဆိုရင်းက ဆရာတော်ဘက်သို့ လူးလိမ့်လာပြီးလျှင် ဆရာတော်၏သင်္ကန်းစကိုတင်းတင်းဆွဲ၏။ ထို့နောက် ခြေသလုံးကို တင်းတင်းကျပ်ကျပ်ဖက်၏။ ထို့နောက် ဆရာတော်၏ခန္ဓာကိုယ်ကို မိမိကိုယ်ပေါ်သို့လဲကျလာအောင် ဆွဲယူ၏။

ဆရာတော်သည် မိမိလက်မှ မီးခွက်လွတ်မကျအောင် ထိန်းကိုင်ရင်း မိမိစိတ်မှ အထိန်းအကွပ်သတိလက်မလွတ်အောင်လည်း ကြိုးစားနေဟန်တူ၏။ မိမိ၏ဘဝတစ်ခုလုံးကို မြတ်စွာဘုရားသို့ ပေးလှူထားပြီးဖြစ်၍ ဤအသက်အရွယ်တွင်မှ ကာမဂုဏ်အညစ်အကြေးနှင့် ညစ်နွမ်းပေကျံခံရမည့်အဖြစ်ကို ဆရာတော်အရောက်မခံနိုင်ပေ။

"ဟဲ့…ဒကာမလေး၊ ဒီလိုမလုပ်နဲ့…မလုပ်ကောင်းဘူး၊ ဖယ်… ဖယ်…"

ဆရာတော်သည် အော်ငေါက်ရင်း ဒကာမလေး၏လက်တွင်းမှ အတင်းရုန်းကန်ထွက်၏။ လွတ်မြောက်လေလျှင် ဒကာမလေးနှင့်

ဝေးရာသို့လျှောက်သွားပြီးသော် လှုပ်ရှားနေသောစိတ်ကိုငြိမ်ဝပ်သွားစေခြင်းအလို့ငှာ ခေါက်တုံ့ခေါက်ပြန် ခပ်သွက်သွက်စင်္ကြံလျှောက်နေ၏။

ရှင်ငြိမ်းသည် ပုံ့ပုံ့ကလေး ခေါင်းငုံ့ထိုင်ကာ တရှုပ်ရှုပ်ငိုနေ၏။ ဆရာတော်သည် စင်္ကြံလျှောက်ရင်းက ဒကာမလေးဆီသို့ တစ်ချက်တစ်ချက် မျက်စိရောက်သွား၏။

"ဘုန်းဘုန်းဘုရား...တပည့်တော်မကို ပစ်မထားပါနဲ့၊ တပည့်တော်မ သေရပါတော့မယ်ဘုရား၊ တပည့်တော်မကို ကယ်တော်မူပါဘုရား"

ဒကာမလေး၏ ဆွဲဆောင်မှုအာရုံက ပြင်းထန်လှသဖြင့် ဆရာတော်၏ ခြေလှမ်း တစ်ချက်တစ်ချက်တုံ့ဆိုင်းသွား၏။

"ချစ်သား...မာတုဂါမနှင့်မွေ့ပွေးတို့ကို ရင်ဆိုင်တွေ့ရလျှင် မြွေပွေးပေါက်ခြင်းကိုခံလိုက်ပါ၊ မာတုဂါမထံသို့ စိတ်မညွှတ်မိပါစေနှင့်။ အဘယ်ကြောင့်ဆိုသော် မြွေပွေးပေါက်၍သေလျှင် ဤတစ်ဘဝသာ သေရလိမ့်မည်၊ မာတုဂါမ၌ ရာဂစိတ်ကပ်ငြိသွားချေက ဘဝအသင်္ချေသေရလိမ့်မည်"

မြတ်စွာဘုရား၏ အဆုံးအမကို ဆရာတော်ကြားယောင်လာ၏။ ဝိသဘာဂအာရုံနှင့် မဆုံတွေ့မီအချိန်က မိမိ၏ စိတ်ဝယ် ကိလေသာများ ငြိမ်ဝပ်နေခဲ့ပါသော်လည်း ယခုလိုဆိတ်ကွယ်သည့်အရပ်ဌာနနှင့် အချိန်အခါ၌ အလွန်တရာအားကြီးလှသော ဝိသဘာဂအာရုံက လွှမ်းမိုးဆွဲငင်လာသည့်အခါ ကိလေသာတို့ထကြွသောင်းကျန်းလာကြ၏။ နှိမ်နင်းရန် အလွန်ခဲယဉ်းလှပေ၏။

ဝိသဘာဂအာရုံက တဏှာရာဂနိုးကြားထကြွလာအောင် လှုံ့

ဆော်ပေးသဖြင့် တဏှာရာဂသည် စိတ်ကိုလွှမ်းမိုးခြယ်လှယ်လာခြင်းဖြစ်ရာ ထိုဝိသဘာဂအာရုံကိုပယ်ဖြတ်နိုင်ပါမှ စိတ်တည်ငြိမ်ကြည်လင်လာမည်ဖြစ်သည်။

ထိုအခါ ဆရာတော်သည် နေ့ခင်းဆီက တံပူကိုသပ်ရန် အသုံးပြုခဲ့သည့် ဓားမောက်ကလေးကို ဖျတ်ခနဲသတိရလိုက်၏။ ထို့ကြောင့် ဓားမောက်ဆီသို့ လျှောက်သွားပြီးလျှင် ဓားမောက်ကိုကောက်ယူလိုက်၏။ ထို့နောက် တင်ပျဉ်ခွေထိုင်ချလိုက်ပြီးကာ ဘယ်ဘက်ခြေထောက်ကို သင်္ကန်းအတွင်းမှ အပြင်သို့ ဆန့်ထုတ်လိုက်၏။ ထို့နောက် ထက်မြလှသော ဓားမောက်ဖြင့် ခြေသလုံးသားကို ဖိ၍လှီးဖြတ်လိုက်ရာ ခြေသလုံးသားသည် ဟက်တက်ကွဲသွားသဖြင့် သွေးစိမ်းရှင်ရှင်တို့ ပန်းထွက်လာတော့၏။

ဤတစ်ကြိမ်တွင် တုန်လှုပ်ချောက်ချားပြီး ထလာသူမှာ ရှင်ငြိမ်းဖြစ်၏။ ရှင်ငြိမ်းသည် ဆရာတော်၏ အပြုအမူများကို အစအဆုံး တစေ့တစောင်းကြည့်ရှုနေခဲ့၏။ မီးရောင်မှိန်မှိန်တွင် ဆရာတော်၏ ခြေသလုံးသားကွဲဟသွားပြီး သွေးပန်းတက်လာသည်ကို မြင်တွေ့လိုက်ရသောအခါ အထူးတုန်လှုပ်ချောက်ချားသွားလေ၏။

သို့အတွက် ဆရာတော်ထံပါးသို့ ထလာပြီးလျှင် ဒူးတုပ်ဝပ်တွား၍...

“တပည့်တော်မ မှားမိပါပြီဘုရား ...သည်းခံတော်မူပါ၊ တပည့်တော်မအား ခွင့်လွှတ်ပါဘုရား ...တပည့်တော်မ အကြိမ်ကြိမ် ဦးနှိမ်ကန်တော့ခဲ့ပါတယ်ဘုရား။ တပည့်တော်မ သွားပါတော့မယ်ဘုရား”

ရှင်ငြိမ်းသည် လှိုက်လှိုက်လှဲလှဲငိုရှိုက်လျက် နောက်သို့တဖြည်းဖြည်းဆုတ်သွား၏။ ထိုအချိန်တွင် စစ်ကိုင်းတောင်ဘက်ဆီမှ တုံး

ခေါက်သံများ ပေါ်ထွက်လာကြသဖြင့် လေးနာရီထိုးပြီ၊ အရုဏ်တက်လုနီးပြီကို ရှင်ငြိမ်းရော ဆရာတော်ပါ သိလိုက်ကြ၏။ ရှင်ငြိမ်းသည် ကျောင်းသခ်မ်း၏ တံခါးကိုဖွင့်၍ ဖြည်းညင်းစွာထွက်ခွာသွားလေ၏။

ဆရာတော်သည် မိမိ၏ ဒဏ်ရာကိုနှလုံးသွင်းရင်း ကျန်ရစ်၏။ ရှင်ငြိမ်း၏ အရိပ်အယောင် ကင်းရှင်းသွားသည့်အခါ ခြေသလုံးဒဏ်ရာကို သင်္ကန်းစတစ်ခုနှင့် စည်းနှောင်လိုက်၏။

အောင်နိုင်ခဲလှသော ကိလေသာတိုက်ပွဲကြီးကို ဆရာတော်အောင်နိုင်လိုက်ပြီတကား။ မြတ်စွာဘုရားသာ သက်တော်ထင်ရှားရှိတော်မူသေးလျှင် ဤသို့သောသာဝကကို ချီးမွမ်းထောပနာမည် ကေန်ဖြစ်သတည်း။

## ဘုရင့်အကြံဆန်းသစ် သမိုင်းတွင်ရစ်

"ပညာလွန်သော် ကွန့်သည်၊ ဝီရိယလွန်သော် ဆွန့်သည်၊ သဒ္ဓါလွန်သော် လွန့်သည်" ဟူသော စကားတစ်ရပ်ရှိပေ၏။ သာသနာ့ဒါယကာတစ်ဦးဖြစ်သော သာလွန်မင်းတရားသည် သဒ္ဓါလွန်သူဖြစ်၏။

မိမိကိုးကွယ်သော တောင်ဖီလာဆရာတော်သည် ပညာလည်းထူးချွန်ကျော်ကြားလှ၏၊ အကျင့်သိက္ခာလည်း ဖြူစင်မြင့်မြတ်လှ၏။ ထို့ကြောင့် သာလွန်မင်းတရားသည် မိမိ၏ဆရာတော်ကို ရဟန္တာတစ်ဆူမျှအထင်ရောက်၍ တကယ်ရဟန္တာဟုတ်မဟုတ်၊ ကိလေသာအာသဝေါကုန်မကုန်ကို တိတိကျကျသိလို၏။ သို့အတွက် နန်းတွင်းသူ ရှင်ငြိမ်းနှင့် ဖြားယောင်းသွေးဆောင်စမ်းသပ်စေသော အကြံထူးစီမံချက်အထူးကို တွေးကြံမိပြီး အကောင်အထည်ဖော်ခဲ့၏။

ရှင်ငြိမ်းသည် မြင်သူတို့ေးမောလောက်အောင် လှပချောမော သူဖြစ်၏၊ အရွယ်နုပျို၏၊ အပြောအဆိုသိမ်မွေ့လိမ္မာ၏။ ပရိယာယ် ကြွယ်ဝ၏။ ရှင်ငြိမ်း ဖြားယောင်းသွေးဆောင်လို့မှ ဆရာတော် မန္တ ပျောင်း မတိမ်းစောင်းလျှင် ဆရာတော်အား ရဟန္တာအဖြစ် အားရ ပါးရကြည်ညိုနိုင်မည်ဖြစ်၏။ ရဟန္တာမဟုတ်၍ ရဟန်းဘဝမှ ချာန် လျှောကျသွားလျှင်လည်း မင်းကြီးသက်တော်ရှည်ပညာရှိတစ်ဦး အဖြစ် အသက်ထက်ဆုံးအသုံးပြုသွားနိုင်မည်ဖြစ်၏။ မည်သည့်နည်း နှင့်မျှ အရှုံးမရှိနိုင်ဟု သာလွန်မင်းတရားကြီး တွေးတောကြံဆခဲ့၏။

သို့ရာတွင် ရှင်ငြိမ်းပြန်ရောက်လာပြီးနောက် ထိုည၌ကအဖြစ် သနစ်အစုံကို သံတော်ဦးတင်၍လျှောက်ထားသောအခါ တောင်ဖီ လာဆရာတော်သည် ရဟန္တာလား, ရဟန္တာမဟုတ်လေသလားဟု ဘုရင်မင်းမြတ် မဝေခွဲနိုင်အောင်ဖြစ်သွားပြန်၏။ မိန်းမဟူသည် မာယာတစ်သိန်း အပလိန်းအနန္တ ကြွယ်ဝသူများဖြစ်ရာ သက်သေ အထောက်အထားမရှိသော ဆိတ်ကွယ်ရာ၌ အမှန်ဖြစ်ပျက်ခဲ့သည် ကို ကွယ်ဝှက်၍ လှည့်ပတ်ပြောဆိုခြင်းလည်း ဖြစ်နိုင်သည် မဟုတ် လော။

သို့အတွက် ဘုရင်မင်းမြတ်သည် ကိုယ်တိုင်စုံစမ်းတော့အံ့ဟု ဆုံး ဖြတ်၍ တောင်ဖီလာဆရာတော်ထံသို့ ထွက်ကြွတော်မူ၏။ တောင် ခြေရင်းရှိ ရေကန်အနီးတွင် ယာယီတဲနန်းထိုးစေ၏။

ထို့နောက် မင်းတရားကြီးသည် တောင်ပေါ်ကျောင်းသင်္ခမ်းဆီ သို့ ကြွမြန်းသွားတော်မူ၏။ ဆရာတော်သည် ကျောင်းကပြင်တွင် ထိုင်၍ မားမောက်ကလေးဖြင့် တံပူသပ်နေ၏။

ဘုရင်ကြီးသည် ကျောင်းသင်္ခမ်းအတွင်းသို့ အကဲခတ်ကာ လှမ်း

ကြည့်လိုက်၏။ ဆရာတော်၏ဘယ်ဘက်ခြေသလုံး၌ သက်နှံးစည်းနှောင်ထားသည်ကိုလည်း သတိမူလိုက်၏။ သို့သော် မည်သည့်အကြောင်းထူးမျှမရှိလေဟန် ဥတုသပ္ပာယဖြစ်မဖြစ်၊ ဘောဇဉ်သပ္ပာယဖြစ်မဖြစ် ပဋိသန္ထာရစကားများကို မေးလျှောက်တော်မူ၏။

တို့နောက် မိမိလှူဒါန်းထားသောရေကန်၌ ကြာမျိုးငါးပါးတို့ပွင့်လန်းခြင်း ရှိ,မရှိ၊ ရေကန်ပတ်လည်တွင် ပန်းမျိုးစုံတို့ဖူးပွင့်ခြင်း ရှိ,မရှိကိုကြည့်ရှုရန် ဆရာတော်လည်းအတူကြွပါဟု လျှောက်ထား၏။ ဆရာတော်သည် သပ်လက်စတံပူချောင်းနှင့် ဓားမောက်တို့ကို ကိုင်စွဲလျက်ပင် လိုက်ပါလာ၏။

ရေကန်သို့ ရောက်ကြသောအခါ ဘုရင်မင်းမြတ်က စကားစ, ခင်းလိုက်၏။

"ရေကန်ကတော့ ပန်းမျိုးစုံတို့ဖြင့် အတော်စိုပြည်သာယာလှပေသားပဲ၊ ကြည်လင်တဲ့ကန်ရေကို မြင်ရင် တောသူတောင်သား နွားကျောင်းသားတို့က ရေဆင်းကူးချင်ကြပေလိမ့်မယ်၊ ဆရာတော်အတွက် သီးသီးသန့်သန့်ဖြစ်အောင် အစောင့်တစ်ယောက်ထားပေးရင် ကောင်းလိမ့်မယ်ထင်ပါတယ် ဆရာတော်"

"ရေကန်ဆိုတာ သတ္တဝါတို့ ချိုးဖို့သောက်ဖို့ လှူဒါန်းထားခြင်းဖြစ်တာမို့ အစောင့်ချထားဖို့မလိုဘူးထင်ပါတယ် ဒကာတော်"

"ရေကန်နဲ့ပတ်သက်ပြီး ဆရာတော်အား ပြဿနာတစ်ရပ်မေးလျှောက်လိုစိတ်ဖြစ်ပေါ်လာပါတယ်၊ ခွင့်ပြုတော်မူပါ"

"မေးလျှောက်နိုင်ပါတယ် ဒကာတော်"

"ခရီးသွားယောက်ျားတစ်ဦးဟာ အလွန်ဝေးလံတဲ့ခရီးခဲတစ်ခုကို နေပူကျဲကျဲမှာသွားနေရလို့ အလွန်ပင်ပန်းနေပြီဆိုပါစို့။ ဘယ်

မှာမှ ရေတစ်ပေါက်မသောက်ခဲ့ရလို့ အလွန်ရေငတ်နေပြီပေါ့။ အဲဒီ ခရီးသွားယောက်ျားဟာ အခုလိုကြာမျိုးငါးပါးနဲ့ပြည့်စုံပြီး ကြည်လင်စိမ်းစိုတဲ့ ရေကန်ကြီးကို မမျှော်လင့်ဘဲ ဘွားခနဲကြုံတွေ့ရရင် မသောက်မချိုးဘဲ နေနိုင်ပါ့မလားဆရာတော်"

"တကယ်လို့ ထိုခရီးသွားယောက်ျားက ပညာရှိသူ သတိရှိသူဖြစ်ရင် မသောက်မချိုးဘဲ နေနိုင်ပါလိမ့်မယ်ဒကာတော်။ အဘယ်ကြောင့်ဆိုသော် ထိုရေကန်မှာ ဘေးအန္တရာယ်များရှိသလား၊ ကန်ရေသည် အဆိပ်သင့်နေသလားဆိုတာတွေကို စုံစမ်းရဦးမည်ဖြစ်လို့ပါ။ ဘုရားလောင်းဇာတ်တော်များမှာ ရေကန်ကိုစုံစမ်းပြီးမှ ချဉ်းကပ်တဲ့ သာဓကတွေရှိပါတယ် ဒကာတော်"

ဆရာတော်သည် မိမိ၏ ဆွမ်းခံ ရွာ၌ ရှင်ငြိမ်းမ ရှိကြောင်းကို ကပ္ပိယထံမှစုံစမ်းခဲ့ပြီးဖြစ်၏။ ထို့ကြောင့် ရှင်ငြိမ်းသည် ဘုရင်မင်းမြတ် စေလွှတ်လိုက်သည့် နန်းတွင်းသူတစ်ယောက်ဖြစ်ရမည်ဟု ဆရာတော်ကောက်ချက်ချခဲ့ပြီးဖြစ်၍ ဘုရင်မင်းမြတ် ပြဿနာမေးသည့် ရည်ရွယ်ချက်ကို ဆရာတော်ရိပ်စားမိပြီးဖြစ်၏။

"စကားအဖြစ်တော့ လှပချောမောပါတယ်ဆရာတော်၊ နို့ပေမယ့် ကာယကံမြောက်တော့ မချိုးမသုံးဘဲ နေနိုင်လိမ့်မယ်မထင်ပါ"

"ချိုးသုံးခြင်းရဲ့အပြစ်အန္တရာယ်ကိုမြင်သိတဲ့ သံသရာခရီးသည်အဖို့ မချိုးမသုံးဘဲ နေနိုင်ပါတယ်ဒကာတော်"

"နေနိုင်ခဲ့သည်ပဲ ထားပေဦးတော့၊ လူသူကင်းဆိတ်တဲ့တောကြီးမျက်မည်းထဲမှာ ရေကန်ကိုမချိုးမသုံးခဲ့ဘူးဆိုတဲ့သက်သေအထောက်အထားများ ခိုင်ခိုင်မာမာပြနိုင်ပါ့မလား ဆရာတော်"

"မှန်ပေသည် ဒကာတော်၊ ရေကန်နှင့်ခရီးသည်တို့မှအပ အခြား မျက်မြင်ထင်ရှားဖြစ်သည့် အသိသက်သေများမရှိသဖြင့် သက်သေ အခိုင်အမာပြရန် ခဲယဉ်းပါလိမ့်မယ်၊ သို့သော် အသက်မဲ့ဖြစ်၍ အဂတိ လိုက်စားမှုကင်းတဲ့ ဤမြားမောက်ကလေးတော့ ရှိပေတယ်။ ခရီး သည်ရဲ့ သီလစင်ကြယ်သည်, မစင်ကြယ်သည်ကို ဤမြားမောက်က ပင် သက်သေခံနိုင်စရာရှိလေရဲ့၊ ဒကာတော် ရှုပါလော့..."

ဆရာတော်သည် လက်ထဲမှမြားမောက်ကလေးကို ရေကန်ထဲသို့ ပစ်ချလိုက်၏။ သစ္စာစကားနှင့် သစ္စာအပြုအမူတို့၏ အာနိသင် ကြောင့် မြားမောက်ငယ်သည် ရေထဲသို့မြုပ်မသွားဘဲ ကန်ရေပြင်တစ် လျှောက် ငါးကဲ့သို့ အံ့ဩစဖွယ်ကူးသန်းသွားလေ၏။

ဘုရင်မင်းမြတ်နှင့်တကွ မှူးမတ်ဗိုလ်ပါအပေါင်းတို့သည် မဖြစ် ဖူးမြဲထူးကဲလှသောဖြစ်ရပ်ကို မျက်ဝါးထင်ထင်မြင်တွေ့လိုက်ကြရ သဖြင့် ရင်သပ်ရှုမောကာ အံ့ဩ၍မဆုံးရှိကြလေ၏။

သာလွန်မင်းတရားသည် ဆရာတော်၏မျက်နှာတော်ကို ရွှန်းရွှန်း စားစားဖူးမြော်ပြီးလျှင် ခြေတော်အစုံကိုဦးခိုက်လေ၏။

"တပည့်တော် မှားမိပါပြီဘုရား၊ ဆရာတော်ရဲ့သီလသိက္ခာကို ယုံမှား၍မဟုတ်ပါ၊ ကြည်ညိုလွန်း၍ အကြံထူးကို ကြံစည်မိခဲ့ခြင်း ဖြစ်ပါသည်၊ သည်းခံ၍ ခွင့်လွှတ်တော်မူပါဘုရား..."

"သည်းခံပါ၏၊ ခွင့်လွှတ်ပါ၏။ မိမိ၏အပြစ်ကို အပြစ်မှန်းသိ ၍ ကုစားလျှင် သူတော်ကောင်းဖြစ်တော့သည်သာ။ ထိုအပြစ်မျိုးကို နောင်တွင် မကျူးလွန်မိအောင် ဆင်ခြင်နိုင်လျှင် ပညာရှိဖြစ်တော့ သည်သာ။ ဒကာတော်မင်းမြတ်နှင့်တကွ မှူးမတ်ဗိုလ်လူ ပြည်သူ အပေါင်းတို့ ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာကြပါစေသော်..."

ထိုအခါမှစ၍ တောင်ဖီလာဆရာတော်သည် 'ဓားမကူးဆရာတော်' 'ဓားမောက်ကူးဆရာတော်' ဟူ၍ ဘွဲ့အမည်ထပ်ဆင့်တိုးမြှင့်ခဲ့ပြန်လေသတည်း။

စစ်ကိုင်းတောင်ရိုး တောင်ဖီလာချောင်အနီး၌ 'ဓားမကူးကန်' ဟူ၍ ယနေ့တိုင်တည်ရှိနေပေသေး၏။

(ငွေဥဒေါင်း၏ ဗုဒ္ဓစာပန်းချီ–ဒုတိယတွဲမှ 'သူတော်ချင်းချင်း' နှင့် 'အမှောင်ရိပ်ဝယ်' ဇာတ်လမ်းများကို မှီငြမ်းပါသည်။)

## ကျောက်လည်းရေကူး ဓားလည်းကူး

ပုဂံပြည်တွင် **နရပတိစည်သူမင်း** စိုးစံစဉ်အခါက ငှက်ပစ်တောင်အနီး၌ **အရှင်ပဏ္ဍိတမထေရ်**သည် အရညကင်မှတင်ဆောက်တည်နေ၏။

ဤမထေရ်သည် ဝိနည်းသိက္ခာကို အလွန်လေးစား၏၊ တန်ခိုးလည်း ကြီး၏၊ ငှက်ပစ်တောင်သံဃာ့ဂိုဏ်းကြီး၏ ဦးစီးနာယကလည်း ဖြစ်တော်မူ၏။

မင်းနှင့်တကွ ပြည်သူအများတို့သည် မထေရ်မြတ်အား အလွန်ကြည်ညိုလေးစားကြ၏။ သို့အတွက် မထေရ်ကြီးအား ကြီးစွာသော ပူဇော်သက္ကာရမှုတို့သည် နေ့စဉ်ဖြစ်ပေါ်လေ၏။

ဤသည်ကို မနာလိုမရှုဆိတ်ကြသော မသမာသူတစ်စုတို့သည် အလွန်လှပချောမောတင့်တယ်၍ အညု၊ အနွဲ့၊ အပလီ အပလာ၌ လိမ္မာကျွမ်းကျင်သည့် အမျိုးသမီးတစ်ဦးကို မထေရ်မြတ်ထံ စေလွှတ်ကြ၏။

ထိုအမျိုးသမီးသည် မထေရ်ကြီး၏ ကျောင်းအနီးတွင် ယောဂီ

အသွင်ဖြင့် ၁၅ ရက်နေထိုင်ပြီးသော် အိမ်သို့ပြန်လာ၏။ ထို့နောက် မိမိနှင့်မထေရ်မြတ်တို့ ဖောက်ပြန်မှားယွင်းကြကြောင်းကို တီးတိုးစကားဖြင့် မတရားသတင်းလွှင့်လေ၏။

ထိုမတရားသတင်းသည် တစ်ဆင့်စကား တစ်ဆင့်နားဖြင့် နေပြည်တော်တစ်ခွင်လုံး ပျံ့နှံ့သွားလေ၏။ မင်းနှင့်တကွ သံဃာတော် အရှင်မြတ်များလည်း ထိုသတင်းကို ကြားသိကြရပြီးလျှင် စိတ်မကြည်မသာ ဖြစ်ကြရကုန်၏။

ထိုအခါ ဆရာတော်နှင့်ရင်းနှီးသည့် ဒကာအချို့က ...“အရှင်ဘုရား ...အရှင်ဘုရားသည် မာတုဂါမနှင့်ဖောက်ပြန်သည်ဟု နေပြည်တော်အတွင်းမှာ သတင်းလွှင့်နေပါသည်ဘုရား”ဟုလျှောက်ထားကြ၏။

လောက၌ ချီးမွမ်းခြင်း၊ ကဲ့ရဲ့ခြင်း၊ လာဘ်ရခြင်း၊ လာဘ်မရခြင်း၊ ချမ်းသာခြင်း၊ ဆင်းရဲခြင်းစသည့် လောကဓံလှိုင်းဂယက်တို့ ရိုက်နှက်ပုတ်ခတ်လေ့ရှိသည်မှာ မဆန်းလှပါ။ လူတိုင်းပင် လောကဓံ ရိုက်ပုတ်ခြင်းကို ခံကြရ၏။ သို့သော် အရှင်ပဏ္ဍိတမထေရ်မြတ် ရင်ဆိုင်နေရသောစွပ်စွဲချက်မှာ ရဟန်းဘဝကိုပင် အဆုံးရှုံးခံရမည့် ပါရာဇိကကံအမှုကြီးဖြစ်လေရာ ဆိတ်ဆိတ်နေ၍မသင့်။ တစ်နည်းနည်းဖြင့် ပြေလည်အောင်ဖြေရှင်းရလိမ့်မည်။ မည်သို့ဖြေရှင်းရအံ့နည်း။

မထေရ်မြတ်သည် မင်းနှင့်တကွ သံဃာတော်များ, ဒကာဒကာမများအား ဖိတ်ခေါ်လိုက်၏။ ပရိသတ်စုံညီသည့်အခါ ကျောင်းတော်မှတစ်ဆင့် ဧရာဝတီမြစ်သို့သွားကြ၏။ မြစ်ဆိပ်တွင် လူတစ်ယောက် ဓားသွေးနေသည်ကို တွေ့ကြရ၏။

ဆရာတော်သည် ထိုလူထံမှ ဓားသွေးကျောက်နှင့် ဓားမတို့ကို

အလှူခံယူ၏။ ထို့နောက် ပရိသတ်များ၏ရှေ့မှောက်၌ သမ္မာဒေဝ နတ်များကို တိုင်တည်၍ သစ္စာပြုလေ၏။

"ငါသည် ရဟန်းပြုသည့်နေ့မှစ၍ ယနေ့တိုင်အောင် ရဟန်းတို့၏အကျင့်သီလကို အထူးဖြူစင်သန့်ရှင်းအောင် စောင့်စည်းခဲ့ပါ၏။ ယခုအခါတွင် ငါ့အား မာတုဂါမတစ်ဦးနှင့် လော်လည်ဖောက်ပြားသည်ဟု သတင်းဖြစ်ပွားနေ၏။ ငါ၏သီလသည် ညစ်နွမ်းခဲ့ရိုးမှန်ပါက ဤကျောက်နှင့်ဓားမတို့သည် ရေသို့ချသည့်ခဏ၌ပင် သဘာဝအလျောက် စုံးစုံးနစ်မြုပ်ကြပါစေ၊ ငါသည်လဲ အပါယ်လေးဘုံ၌ ဆင်းရဲပင်ပန်းစွာနစ်မြုပ်ရပါစေသား။

"အကယ်၍ ငါသည် ထိုမာတုဂါမနှင့် ဖောက်ပြန်ခြင်းမရှိဘဲ ငါ၏အကျင့်သီလ ဖြူစင်ရိုးမှန်ပါလျှင် ဤကျောက်နှင့်ဓားမတို့သည် ရေပေါ်သို့ချသည့်ခဏ၌ ငါးများအလား လျင်မြန်စွာကူးသွားပါစေသား..."

မထေရ်ကြီးသည် ဓားသွေးကျောက်နှင့်ဓားမတို့ကို မြစ်ရေပြင်ပေါ်သို့ အသာအယာချလိုက်၏။ ပရိသတ်ကြီးက ရင်တမမနှင့် စူးစိုက်ကြည့်နေကြ၏။ ရေပေါ်တွင် ကျောက်နှင့်ဓားမတို့သည် ငါးများပမာ တဖျပ်ဖျပ်ကူး၍ ရေညာသို့ဆန်တက်သွားကြ၏။

မင်းနှင့်တကွ ပရိသတ်အပေါင်းတို့သည် အလွန်တရာအံ့သြဝမ်းမြောက်ကြလျက် မထေရ်မြတ်အား ရှေးကထက်တိုး၍ကြည်ညိုပူဇော်ကြလေ၏။

နရပတိစည်သူမင်းသည် နောင်လာနောက်သားတို့ မှတ်သားစိမ့်သောငှာ ညောင်ဦးမြို့၏အရှေ့ဘက် တာ ၇၀၀ ခန့်ရှိသည့်အရပ်၌ ချောက်ကမ်းပါးကိုဥမင်လိုဏ်တူးစေ၍ အုတ်,ကျောက်တို့ဖြင့် ဘုရား

တစ်ဆူတည်ထားခဲ့၏။ ထိုဘုရားကို **'ကျောက်ကူးဘုရား'** ဟုသမုတ်တော်မူ၏။

ကျောက်ကူးဘုရား၏ မြောက်ဘက်တောင်ကုန်းထိပ်တွင်လည်း **'ဓားမကူးဘုရား'** ဟူသော စေတီတစ်ဆူကို ထပ်မံတည်ဆောက်တော်မူ၏။

သစ္စာ၏ စွမ်းအားကား မြန်မာ့သမိုင်းတွင် လျှမ်းလျှမ်းတောက်အောင်ပင် ထင်ပေါ်ခဲ့သည်တကား။

[မြတ်မင်္ဂလာ၊ အတွဲ ၄၊ အမှတ် ၁၊ မြတ်ဇေယျာ (အတုလမြေ)၏ 'သစ္စာစွမ်းအား' ဆောင်းပါးကို မှီငြမ်းပါသည်။]

○

## ဗုဒ္ဓသာသနာမပျောက်ကွယ်အောင်
## သစ္စာဖြင့်ကယ်တင်ခဲ့သော
## မွန်အာဇာနည် မယ်ဘာဒြာဒေဝီ

### သာသနာကွယ်ရန်လမ်းစ

အထက်မြန်မာပြည်တွင် တိုင်းတစ်ပါးမှ ကုန်းလမ်းခရီးဖြင့် ဝင်ရောက်လာသော မိစ္ဆာဝါဒီဂိုဏ်းကို အနော်ရထာမင်းက တွန်းလှန်ဖြိုဖျက်ခဲ့၏။ တစ်ချိန်တည်းတွင် အောက်မြန်မာပြည်မှတစ်ဆင့်ရောက်ရှိလာသော ဗုဒ္ဓဘာသာကို မင်းနှင့်ပြည်သူတို့ ဝိုင်းဝန်းပျိုးထောင်ကြသဖြင့် ဗုဒ္ဓသာသနာသည် ပြည်မြန်မာအနှံ့ရှင်သန်ပြန့်ပွားသွားခဲ့၏။

သို့ရာတွင် ဟံသာဝတီနေပြည်တော်ဝယ် အေဒီ ၁၀၄၃ – ၁၀၅၇ အတွင်း နန်းစံသော **မွန်ဘုရင်တိဿမင်း** လက်ထက်၌ မိစ္ဆာဝါဒီတို့ အောင်ပွဲတစ်ဖန် ဆင်နွှဲနိုင်ခဲ့ပြန်၏။

အိန္ဒိယနိုင်ငံမှ ဗြာဟ္မဏဝါဒနှင့် အခြားဝါဒမျိုးစုံတို့သည် ဗုဒ္ဓဝါဒနှင့်အပြိုင် ရေလမ်းခရီးဖြင့် အောက်မြန်မာနိုင်ငံသို့ရောက်ရှိလာခဲ့ကြ၏။ ဗြာဟ္မဏဝါဒီဖြစ်ကြသော ဟိန္ဒူပုဏ္ဏားတို့သည် ဗေဒင်,

မန္တန်, ယတြာစသော အတတ်ပညာတို့ဖြင့် မင်းနှင့်ပြည်သူတို့ကို လွှမ်းမိုးနိုင်အောင် အပတ်တကုတ်အားထုတ်ခဲ့ကြရာ တိဿမင်းကို ဗြာဟ္မဏဝါဒသို့ သွတ်သွင်းနိုင်ခဲ့ကြ၏။

တိဿမင်းသည် ဗုဒ္ဓဘာသာကို စွန့်ပယ်ပြီး ဗုဒ္ဓရုပ်ပွားတော်များကို ချောင်းမြောင်းရှံ့ဗွက် စသည်တို့၌ စွန့်ပစ်စေ၏။ ဗုဒ္ဓဆင်းတုတော်ကို ကိုးကွယ်ဆည်းကပ်လျှင် သေဒဏ်အထိ အပြစ်ပေးခံရမည်ဟု ကြေညာမောင်းခတ်ထားစေ၏။

ဗုဒ္ဓသာသနာသည် အောက်မြန်မာပြည်မှာ ကွယ်ပလုဆဲဆဲအခါသမယပေတည်း။

## အမျိုးသမီးဇာနည် ဘာမထိ

ထိုအခါ ဘုရင့်အမိန့်တော်ကို တော်လှန်ဝံ့သူ မွန်ဇာနည်မယ်တစ်ဦး ပေါ်ထွန်းလာ၏။ သူ၏အမည်ရင်းမှာ **'တလထော်'** (တရားသခင်မ) ဖြစ်၏။ ဆယ်နှစ်သမီးအရွယ်မှစ၍ မိဘဘိုးဘွားများနှင့်အတူ တရားနာခဲ့ရသဖြင့် ရတနာသုံးပါးကို လေးလေးစားစား ကြည်ညိုခဲ့သူဖြစ်၏။

'ဗုဒ္ဓဘာသာကို မကိုးကွယ်ရ' ဟု တိဿမင်းအမိန့်ထုတ်ပြန်သည့်အချိန်၌ တလထော်သည် လှပယဉ်ကျေးသည့် အပျိုကညာတစ်ဦးဖြစ်နေလေပြီ။

တစ်နေ့တွင် သူကြွယ်သမီးဖြစ်သူ တလထော်သည် အခြွေအရံများနှင့်အတူ စမ်းချောင်းတစ်ခု၌ ရေဆင်းချိုး၏။ သဲနုန်းကြား၌ အရာဝတ္ထုတစ်ခုကိုစမ်းကိုင်မိရာမှ ဆွဲတင်လိုက်သည့်အခါ ရွှေရောင်တဝင်းဝင်းနှင့် ဗုဒ္ဓရုပ်ပွားတော်တစ်ဆူ ပေါ်ထွက်လာ၏။

တလထော်သည် ဝမ်းမြောက်ဝမ်းသာဖြင့် ရုပ်ပွားတော်ကို ရိုသေစွာချီမ,ယူပြီးလျှင် ဦးညွှတ်လိုက်၏။

"အို...အမိတို့၊ ကြည့်ကြစမ်းဟော့... ကြည်ညိုဖွယ်ကောင်းတဲ့ ဗုဒ္ဓဆင်းတုတော်ကွဲ့...ဘယ်သူကများ ဒီမှာလာပစ်ထားပါလိမ့်"

အမျိုးသမီးတစ်ဦးက "သခင်မရေ...ဘုရင်မင်းမြတ်က မိစ္ဆာပုဏ္ဏားတို့ရဲ့စကားကို နားဝင်ပြီး ဗုဒ္ဓဆင်းတုတော်များကို စွန့်ပစ်ခိုင်းတယ်လေ"

"အင်း...တို့တော့မစွန့်ပစ်နိုင်ပေါင်၊ ဆင်းတုတော်ဆိုတာမြတ်စွာဘုရားရဲ့ကိုယ်စားဥဒ္ဒိဿစေတီပဲကွဲ့၊ ဒီဆင်းတုတော်ကိုစင်ကြယ်အောင် ရေသပ္ပာယ်ပေးပြီးတော့ ကိုးကွယ်ကြရအောင်"

"သခင်မ...ဘုရားဆင်းတုကိုးကွယ်သူကို ဘုရင်က သေဒဏ်ပေးမယ်တဲ့"

"အဲလို...ဘုရားရေ၊ မြတ်စွာဘုရားကို တို့မိဘဘိုးဘွားတွေ အစဉ်အဆက် ကိုးကွယ်ခဲ့ကြတာပဲ။ ကဲ...ကဲ...ဘုရင်သတ်ချင်လဲ သတ်ပစေ၊ ရော့...ဒီဆင်းတုတော်ကို ဟိုစေတီမှာတည်ထားချေစမ်း...၊ နောက်ထပ်ဆင်းတုတွေ ရှိဦးမယ်၊ ရေထဲမှာ ရှာကြစမ်း..."

အပျိုဖော်တစ်စုတို့သည် ရေထဲ၌လိုက်စမ်းရှာဖွေကြရာ နောက်ထပ်ဆင်းတုခုနစ်ဆူ ရရှိကြ၏။ တလထော်သည် ဆင်းတုတော်အားလုံးကို စေတီ၌တည်ထားစေ၏။

ဗုဒ္ဓဆင်းတုတော်များကို တလထော်ဆည်းကပ်ကိုးကွယ်နေကြောင်းကို မင်းချင်းများက တွေ့ရှိသွားကြသဖြင့် နာမည်ကောင်းရရန် ဘုရင့်ထံသို့ချက်ချင်းသတင်းပို့ကြ၏။ ဘုရင်ကလည်း တလထော်အား ချက်ချင်းဖမ်းဆီးစေ၏။

ဘုရင်မေးမြန်းသည့်အခါ တလထော်သည် ကြောက်ရွံ့ခြင်းမရှိဘဲ သစ္စာကို ရင်ဝယ်ပိုက်ထွေးထားသူပီပီ အမှန်အတိုင်းသံတော်ဦးတင်၏။

တိဿမင်းသည် မိမိ၏အမိန့်ကိုဖီဆန်ဝံ့သော တလထော်အား အမျက်ခြောင်းခြောင်းထွက်လျက် "ဒီအမိုက်မကို ဆင်နဲ့နင်းသတ်စေ" ဟု အမိန့်ချမှတ်လိုက်လေ၏။

## ဆင်ကကြွေ့ရှောင် မီးကမလောင်

တလထော်သည် ရတနာသုံးပါးသာလျှင် ကိုးကွယ်စရာရှိတော့သည်ကို သိနားလည်၏။ ထို့ကြောင့် 'ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊ ဓမ္မံ သရဏံ ဂစ္ဆာမိ၊ သံဃံ သရဏံ ဂစ္ဆာမိ' ဟု အကြိမ်ကြိမ်ရွတ်ဖွားပြီးလျှင် ...

"တပည့်တော်မသည် ဘုရား, တရား, သံဃာကို အသက်ပေး၍ကိုး ကွယ် ဆည်း ကပ် ပါ ၏၊ ဤသို့ ကိုး ကွယ် ဆည်း ကပ် ရ သော ကောင်းမှုကံစေတနာကြောင့် ဘေးဘယာခပ်သိမ်းတို့သည် ကင်းငြိမ်း ပပျောက်ပါစေသား" ဟု အဖန်ဖန်ဆုတောင်းနေ၏။

ထို့နောက် ဆရာတော်ဘုရားများနှင့် အဘိုး အဘွားတို့၏ သင်ပြပေးမှုအရ မည်သူ့အားမျှအမုန်းမပွားဘဲ သမ္မာဒေဝနတ်မြတ်အပေါင်းတို့အားလည်းကောင်း၊ ရှင်ဘုရင်နှင့်တကွ မင်းချင်းများ, ဆင်ထိန်းနှင့် ဆင်များအားလည်းကောင်း မေတ္တာပို့ပွားနေ၏။

မင်းချင်းများသည် တလထော်အား ခပ်ကြမ်းကြမ်းဆွဲခေါ်၍ဆင်သွားလမ်း၌ ဝပ်စင်းနေစေ၏။ ဆင်ထိန်းသည် ဆင်တင်းကုပ်မှ မုန်ယိုနေသောဆင်ကြီးကို ထုတ်ယူလာပြီးသော် တလထော်အား နင်းသတ်စေ၏။

တလထော်၏ နှလုံးသားမှပျံ့နှံ့ထွက်နေသော ရတနာသုံးပါး၏ ဂုဏ်ကျေးဇူးများနှင့် မေတ္တာဓာတ်လှိုင်းတို့သည် ဆင်ကြီးအား ရှေ့မတိုးဝံ့အောင် ဟန့်တားထားကြ၏။ ဆင်ထိန်းက တရကြမ်းချွန်းအုပ်၍ မောင်းနှင်ပါသော်လည်း ဆင်ကြီးသည် ရှေ့မတိုးဝံ့ဘဲ အသံကုန် အော်မြည်၍ ထွက်ပြေးသွားလေ၏။

ဆင်ထိန်းသည် ဆင်တင်းကုပ်မှ နောက်ထပ်ဆင်တစ်ကောင်ကို ထုတ်ယူပြီး တရကြမ်းမောင်းနှင်ပြန်၏။ ထိုဆင်သည်လည်း ကြောက်ရွံ့စွာအော်မြည်၍ ထွက်ပြေးလေ၏။

ဆင်တင်းကုပ်မှ ဆင်တစ်ကောင်ပြီးတစ်ကောင် ထုတ်ယူရာ ဆင်သာ ကုန်သွား၏၊ တလထော်အား နင်းဝံ့သည့်ဆင် မရှိချေ။

အဟိတ်တိရစ္ဆာန်များဖြစ်ကြသည့် ဆင်များသော်မှ ရတနာသုံးပါး၏ ကျေးဇူးတော်နှင့် သစ္စာ, မေတ္တာတို့၏ အာနိသင်တို့ကို သိရှိကြကုန်၏။ လူသားများဖြစ်ကြသော မင်းချင်းယောကျ်ား အာဏာသားတို့ကား သခင်အားရရေးကိုသာ အာရုံစူးစိုက်နေကြသဖြင့် ရတနာသုံးပါး၏ ဂုဏ်ကျေးဇူးကိုမျှ မသိကြလေ။

သို့နှင့် အာဏာသားများသည် ဘုရင်အား ကြောက်ကြောက်ရွံ့ရွံ့နှင့် သံတော်ဦးတင်ကြ၏။

မိစ္ဆာဒိဋ္ဌိဘုရင်သည်လည်း မိမိ၏ အမိန့်တည်မြဲရေးကိုသာ နှလုံးသွင်းတော်မူ၏။ သို့အတွက် "အချင်းတို့... အယုတ်တမာမကို ကောက်ရိုးများဖြင့်ဖုံးအုပ်ပြီး မီးရှို့သတ်စေ" ဟု အမိန့်ချမှတ်ပြန်လေ၏။

မင်းချင်းတို့သည် ဘုရင့်အမိန့်တော်အတိုင်း ရှက်ဆောင်ရန် အားထုတ်ကြပြန်၏။ တလထော်သည် ကောက်ရိုးပုံအောက်တွင် ငုတ်

တုတ်ထိုင်ကာ သရဏဂုံသုံးပါးနှင့် မေတ္တာတရားကိုသာ အထပ်ထပ် အခါခါ စီးဖြန်းနေလေ၏။

ကောက်ရိုးပုံကို မီးရှို့ကြပြန်လေပြီ။ မီးမစွဲချေ။ မည်သို့ပင်ကြိုးစား၍ရှို့ပါသော်လည်း ကောက်ရိုးပုံမီးမလောင်ချေ။

အာဏာသားများသည် ဘုရင့်ထံမှောက်သို့ဝင်ရောက်ပြီး ကြောက်ဒူးတုန်လျက် သံတော်ဦးတင်ကြပြန်၏။ ပညာမဲ့ဘုရင်ကြီးကလည်း ဆက်လက်၍ နောက်တစ်မျိုးစေခိုင်းပြန်၏။

"မင်းချင်းတို့...အမိုက်မကို တွင်းထဲချပြီး မြေဖို့သတ်စေ" ဟု ရက်စက်ကြမ်းကြုတ်သောအမိန့်ကို ချမှတ်ပြန်၏။

အာဏာသားတို့သည် တွင်းအမြန်တူး၍ တလထော်ကို တွင်းထဲသို့ ပစ်ချကြ၏။ ထိုအခါ ဘုရင်ကြီးကကြွလာပြီး တွင်းနှုတ်ခမ်းပေါ်တွင် ရပ်တည်လျက်

"ဟဲ့... အမိုက်မ...နင့်ဆရာဗုဒ္ဓက နင့်ကို ကယ်နိုင်ဦးမလား... ကြည့်သေးတာပေါ့။ နင့်ဆရာဗုဒ္ဓက ဘယ်လောက်များစွမ်းလို့လဲ၊ မင်းကိုးကွယ်တဲ့ရုပ်ပွားတော် ခုနစ်ခုဖြစ်ဖြစ်၊ ရှစ်ခုဖြစ်ဖြစ်၊ ကောင်းကင်ကကြွလာအောင် နင်ခေါ်ကြည့်စမ်း...၊ ကြွလာတာကို ငါကိုယ်တော်မြင်တွေ့ရလျှင် နင့်ကိုအသက်ချမ်းသာပေးမယ်၊ ကြွမလာရင်တော့ ဒီတွင်းထဲမှာ နင်သေပေတော့..."

## သစ္စာစွမ်းရည် ထင်ရှားပြီ

တလထော်သည် ညင်သာစွာလက်အုပ်ချီမိုးလျက် မြတ်စွာဘုရားကို အာရုံပြုကာ သစ္စာဆိုလေ၏။

"ဘုန်းတန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား၊ တပည့်တော်မသည် ဘုရား, တရား, သံဃာ ရတနာမြတ်သုံးပါးကို မမှိတ်မသုန်ဆည်းကပ်ကိုးကွယ်ပါ၏။ ဗုဒ္ဓဂုဏောအနန္တော – မြတ်စွာဘုရား၏ ဂုဏ်ကျေးဇူးသည် အတိုင်းအဆမရှိကြီးမားလှပါ၏။ ဓမ္မဂုဏောအနန္တော– တရားတော်မြတ်၏ ဂုဏ်ကျေးဇူးသည် အတိုင်းအဆမရှိကြီးမားလှပါ၏။ သံဃဂုဏောအနန္တော – သံဃာတော်၏ ဂုဏ်ကျေးဇူးသည် အတိုင်းအဆမရှိကြီးမားလှပါ၏။ ဤမှန်သော သစ္စာစကားကြောင့် ဗုဒ္ဓရုပ်ပွားတော်ရှစ်ဆူတို့သည် ကောင်းကင်မှ ပျံကြွလာကြပြီးသော် နန်းရင်ပြင်ပေါ်၌ စံပယ်တော်မူကြပါဘုရား"

တလထေ၀်သည် မျက်စိကိုစုံမှိတ်၍ ရတနာသုံးပါး၏ ဂုဏ်ကျေးဇူးများကို စိတ်၌စူးစိုက်ထား၏။ ဗုဒ္ဓဆင်းတုတော်များ ကြွလာသည်ကို မြင်နေရသကဲ့သို့ အာရုံညွတ်ထား၏။

"ဟော…ဆင်းတုတော်တွေ ကြွလာပြီ၊ တစ်ဆူ…နှစ်ဆူ…ရှစ်ဆူတောင်…ကောင်းကင်က ပျံကြွလာကြပြီ…"

တိဿဘုရင်ကြီးနှင့်တကွ မင်းချင်းများတို့သည် လှန္တရေရ ပျံကြွလာကြသော ဗုဒ္ဓရုပ်ပွားတော်များကို အံ့သြစွာဖူးတွေ့ကြရသဖြင့် ငေးမောနေကြ၏။ မင်းချင်းအချို့တို့၏ အော်ပြောသံကြောင့် နန်းတွင်း ပရိသတ်များ စုရုံးရောက်လာကြကုန်၏။ ထိုသတင်းသည် မြို့တွင်းသို့လည်း ခဏချင်းဥက္ကောဋ္ဌေယျဖြစ်သွားလေ၏။

ဆင်းတုတော်ရှစ်ဆူတို့သည် မင်းရင်ပြင်အထက်ကောင်းကင်ဝယ် တင့်တယ်စွာစီတန်းကာ စံပယ်နေတော်မူကြပြီး လူအပေါင်းတို့၏ ဖူးမြော်ခြင်းကို ခံယူတော်မူကြ၏။

တိဿဘုရင်သည် ဗုဒ္ဓမြတ်စွာ၏ တန်ခိုးတော်ကို ကြည်ညိုလေးစားလာလေပြီ။ ထို့ကြောင့် တလထော်အား တွင်းထဲမှထုတ်စေပြီးလျှင် ရှေ့တော်မှောက်သို့သွင်းစေ၏။

"နမလေး ...သင့်ဆရာဗုဒ္ဓရဲ့တန်ခိုးကြီးမားပုံကို ငါကိုယ်တော်မြတ်ကိုယ်တိုင် မြင်တွေ့ရလို့ သင့်အားအသက်ချမ်းသာပေးလိုက်ပြီ၊ သင်လျှောက်ထားလိုသည်ကို လျှောက်ထားပါလေ"

"အရှင်မင်းကြီး... အကျွန်ုပ်တို့၏ဆရာ ဗုဒ္ဓမြတ်စွာသည် ပရိနိဗ္ဗာန်စံလွန်တော်မူပါပြီ၊ ထို့ကြောင့် အရှင်မင်းကြီးသည် ဘုရားရှင်၏ ကိုယ်စားဖြစ်ကြသည့် ဆင်းတုတော်များက ကောင်းကင်မှပျံကြွလာသည်ကိုသာ ဖူးမြင်နိုင်ပါတော့သည်။ အရှင်မင်းကြီးသည်အသက်ထင်ရှားရှိကြသော မိစ္ဆာဒိဋ္ဌိဆရာကြီးများကို ကိုးကွယ်နေသူဖြစ်ပါ၏။ ထိုမိစ္ဆာဆရာကြီးများ၏ အစွမ်းသတ္တိကို သိမြင်နိုင်ရန် သူတို့အား ကောင်းကင်သို့ ပျံတက်စေတော်မူပါဘုရား"

ဘုရင်ကြီးသည် မနေသာတော့သဖြင့် သူ့ဆရာများအား ကောင်းကင်သို့ပျံတက်ရန် ပန်ကြား၏။

မိစ္ဆာဒိဋ္ဌိဆရာတို့သည် တတွတ်တွတ် ရွတ်ဖတ်သရဇ္ဈာယ်ကြပြီး ကြိုးစားခုန်ကြ၏။ သို့သော် မပျံတက်နိုင်ချေ။ အမေရိကန်ကြက်ဖကြီးများလို မြေပေါ်တဖုတ်ဖုတ်ပြန်ကျလာကြ၏။ အခြေအနေမလှ ဣန္ဒြေမရဖြစ်နေကြသော ထိုမိစ္ဆာဒိဋ္ဌိဆရာတို့အား ဘုရင်ကြီးက မေတ္တာကုန်ခန်းကာ အပြီးအပြတ်နှင်ထုတ်လိုက်လေတော့သတည်း။

တိဿရာဇာသည် တလထော်အား နံ့သာဖြင့် ရေမိုးချိုးစေပြီးလျှင် 'ဘဒြာဒေဝီ'ဘွဲ့အမည်ဖြင့် မိဖုရားခေါင်တင်မြှောက်လေ၏။ ဘဒြာဒေဝီ၏ ကျေးဇူးကြောင့် မင်းနှင့်တကွ ပြည်သူအပေါင်းတို့သည် ထေရ

ဝါဒ ဗုဒ္ဓဘာသာ – သမ္မာဒိဋ္ဌိအယူဉ်ဒတည်ကြပြီးလျှင် ရေးအစဉ်အလာ အတိုင်း သာသနာတော်၏ အရေးကိစ္စများကို ရွက်ဆောင်ကြလေ၏။

ရတနာမယ် ဘဒြာဒေဝီ၏ သွေးသစ္စာနှင့် မွေးမေတ္တာကြောင့် ဗုဒ္ဓ သာသနာတော်သည် အောက်မြန်မာပြည်ဝယ် ယနေ့တိုင်သင်းပျံ့ ကြိုင်လှိုင်နေနိုင်ပေသည်တကား။

(ဤသမိုင်းဝင်မှတ်တမ်းကို အင်္ဂလိပ်လူမျိုး သမိုင်းဆရာ G.E. Harvey က Outline of Burmese History စာအုပ်တွင် မှတ်တမ်းတင်ပေးခဲ့၏။)

[ဤဇာတ်လမ်းကို ဒုတိယကမ္ဘာစစ်မတိုင်မီက မြသပိတ်ရုပ်ရှင်ကုမ္ပဏီသည် ရုပ်ရှင်ရိုက်ကူးခဲ့၏။ စစ်ပြီးခေတ်၌လည်း ဒေါ်ကြည်ကြည်ဌေးသည် တလထော် အဖြစ် ရုပ်ရှင်ပိတ်ကားပေါ်တွင် သရုပ်ဆောင်ခဲ့၏။ မွန်ယဉ်ကျေးမှုအဖွဲ့ကလည်း တလထော်ဇာတ်လမ်းကို ပြဇာတ်အသွင်ဖြင့် အကြိမ်ကြိမ်တင်ဆက်ပေးခဲ့၏။]

**ဒေါက်တာမင်းတင်မွန်**

## ဒေါက်တာမင်းတင်မွန်၏ ဓမ္မရတနာစာအုပ်များ

ဤဓမ္မရတနာစာအုပ်များကို ဖတ်ရှုလေ့လာလျှင်
ကြီးကျယ်သော ဓမ္မဿဝနကုသိုလ်နှင့်
ကောင်းကျိုးချမ်းသာ မင်္ဂလာအဖြာဖြာကို ရရှိမည်ဖြစ်သည်။

၁။ **မြတ်ဗုဒ္ဓ** – ဘုရားကို ဘာကြောင့် ကိုးကွယ်ထိုက်သလဲ။

၂။ **မြတ်ဓမ္မ** – တရားကျင့်သူကို တရားက ဘယ်လိုစောင့်ရှောက်မလဲ။

၃။ **မြတ်သံဃာ** – သံဃာတော်သည် ဘာကြောင့် အမြတ်ဆုံး ရတနာ ဖြစ်သလဲ။

၄။ **မြတ်သရဏဂုံ** – ရတနာမြတ်သုံးပါး ကိုးကွယ်လျှင် အပါယ်မကျဘူး။

၅။ **ဘဝအောင်မြင်ရေး** – အကြိမ်ပေါင်းများစွာပြန်ရိုက်ရသောစာအုပ်။

၆။ **ဘဝ လမ်းနှစ်သွယ်** – သုဂတိအလင်းလမ်းနှင့်အပါယ်ဒုဂ္ဂတိလမ်း ဘယ်လိုလှမ်း?

၇။ **ဘဝ ချမ်းသာရေး** – ယခုဘဝ နောက်ဘဝ အကောင်းဆုံး ချမ်းသာ တွေက ဘာလဲ ။

၈။ **ဖားအောက်တောရမိတ်ဆက်** – ဗုဒ္ဓအလိုတော်ကျ သမထဝိပဿနာ ရှုနည်းက ?

၉။ **လိမ္မာယဉ်ကျေး တို့ရင်သွေး** – ပြည်သူ့ရင်သွေးရတနာများ လိမ္မာ ရေးခြားကြဖို့။

၁၀။ **မေတ္တာနှင့် သစ္စာ သရုပ်ဖော်** – အလှဆုံးတရားနှင့် အမြတ်ဆုံး တရားတို့ကို လက်တွေ့ကျင့်ဖို့။

၁၁။ **မေတ္တာနှင့်သစ္စာအဖွင့်** – တစ်လောကလုံးကို အလှဖုံးစေ, မြင့်မြတ်စေသော တရားနှစ်ပါး။

၁၂။ **တော်ကူးဝိပဿနာဂုဏ်ထူးဆောင်** – ထူးဆန်းစွာ ရောဂါပျောက်ခြင်းများ။

၁၃။ **ဆေးမကုဘဲ ငြိမ်းအေးနည်း** – ကျန်းမာချမ်းသာစွာ နေနိုင်သည့် တရားရှုနည်း။

၁၄။ **မြတ်ဒါန** – တိုးတက်ကြီးပွားအောင် အကျိုးကြီးအောင် ဘယ်လို လှူဒါန်းရမလဲ။

၁၅။ **မြတ်သီလ**– အလှဆုံး တန်ဆာ၊ အကောင်းဆုံး ကိုယ်ကျင့်စာရိတ္တ၊ လိုတိုင်းရစေ။

၁၆။ **မြတ်ဘာဝနာ** – အကျိုးအကြီးဆုံး အကောင်းဆုံး ဘဝနေနည်း ဘာဝနာရှုနည်းများ။

၁၇။ **ဗုဒ္ဓအဘိဓမ္မာ အနှစ်ချုပ်** – လောကအကြောင်း ကောင်းစွာ သိနားလည်စေတဲ့ ဗုဒ္ဓဒဿန၊ အဘိဓမ္မာ (ရိုးရိုးတန်း) စာမေးပွဲ လက်စွဲ။

၁၈။ **ဘဝရည်မှန်းချက်နှင့်ဘဝလမ်းစဉ်** – The Aim and Way of Life.

၁၉။ **ဗုဒ္ဓဘာသာစာရိတ္တနှင့် ကျင့်ဝတ်များ** – Buddhist Ethics and Duties.

၂၀။ **ဗုဒ္ဓဝါဒနှင့် ခေတ်သစ်ဘဝ** – Buddhism in Modern Life.

၂၁။ **ဘဝကိစ္စနှင့် ဘဝပန်းတိုင်** – The Purpose and the Goal of Life.

၂၂။ **သိပ္ပံနယ်လွန် ဗုဒ္ဓဘာသာ** – The Supreme Science of The Buddha.

၂၃။ **တော်ကူးဆရာတော် ဘဝဆည်းဆာနှင့် ကျင့်စဉ်တရား** – တရားရှုခြင်းဖြင့် အားလုံးကို အနိုင်ရ။

၂၄။ **ရှေးဘဝ နောက်ဘဝ သိပုံနည်းကျအထောက်အထားများ** – အတိတ်ဘဝတွေကို ဘယ်လိုသိနိုင်သလဲ။

၂၅။ **အမြတ်ဆုံးပန်းတိုင် နေကန်ပိုင်** (ပထမတွဲ) – ဗုဒ္ဓနည်းကျ မှန်ကန်တိကျသော တရားရှုနည်း။

၂၆။ **တက္ကသိုလ် အဘိဓမ္မာ ပေါင်းချုပ်** – ဗုဒ္ဓဒဿန အဘိဓမ္မာကိုအရှင်းဆုံး တင်ပြထားသည့် စာအုပ်။
စာသင်သားများအား အဘိဓမ္မာ အထောက်အကူပြု။

၂၇။ **The Essence of Buddha - Abhidhamma** – ဗုဒ္ဓ အဘိဓမ္မာကို အကောင်းဆုံး ရှင်းလင်းချက်။

၂၈။ **Good English** – အင်္ဂလိပ်စာကို တတ်အောင် တော်အောင် သင်ပြမယ့် စာအုပ်။ အလယ်တန်း၊ အထက်တန်း၊ တက္ကသိုလ် ကျောင်းသားလက်စွဲ။

၂၉။ **ယဉ်ကျေးလိမ္မာ ရင်သွေးကမ္ဘာ** (အိတ်ဆောင်)– မူ–လယ်–ထက် စာရိတ္တပညာ လက်စွဲ။

၃၀။ **တော်ကူးကျင့်စဉ်တရား** (အိတ်ဆောင်) – ဒုက္ခဝေဒနာကို ကျော်လွှား၍ ငြိမ်းအေးမှု ရယူနည်း။

၃၁။ **ဖားအောက်တောရ မိတ်ဆက်** (အိတ်ဆောင်) – သမာဓိ ပြည့်မီအောင် ထူထောင်၍ ပရမတ်တရားများကို မြင်အောင် ဝိပဿနာရှုနည်း။

၃၂။ **မြတ်ဗုဒ္ဓ** (အိတ်ဆောင်) – ဘုရားကို လေးစားကြည်ညိုလျှင် မုချ ကြီးပွားတိုးတက်မည်။

၃၃။ **အဘိဓမ္မမဟာရဋ္ဌဂုရု သပြေကန်ဆရာတော်ဘုရားကြီး–** သာသနာ့ တံခွန် စံပြပုဂ္ဂိုလ်ထူး။

၃၄။ **သောက, ဒေါသ, အတ္တ ဘ၀အခက်အခဲဟူသမျှ ကျော်လွှားအံ့ – How to Live without Fear and Worry (I).**

၃၄။ **ပျော်ရွှင်အောင်မြင်သောနေထိုင်နည်း – How to Live without Fear and Worry (II).**

၃၅။ **စေတ်အမြင်နှင့်သိမှတ်စရာ ဗုဒ္ဓဘာသာအကျဉ်း – Buddhism in Nutshell.**

၃၆။ **အမြတ်ဆုံးပန်းတိုင် စေနိပိုင် (ဒုတိယတွဲ)–** ဗုဒ္ဓနည်းကျ မှန်ကန်တိကျသော ဝိပဿနာရှုနည်း။

၃၇။ **ဗုဒ္ဓစကားတော် – The Word of the Buddha.**

တရားကို ပေးလှူခြင်းသည် အမြတ်ဆုံးအလှူဖြစ်သည်။
တရားအရသာသည် အမွန်မြတ်ဆုံး အရသာ ဖြစ်သည်။
တရားနှင့် မွေ့လျော်ခြင်းသည် အကောင်းဆုံးမွေ့လျော်ခြင်းဖြစ်သည်။
တရားကို သိပြီး လက်တွေ့ကျင့်သုံးခြင်းဖြင့်
အမြတ်ဆုံး ချမ်းသာကို ရယူနိုင်ကြပါစေ။



မြမွန်ရတနာ စာပေဖြန့်ချိရေး
တိုက် ၁၅၊ အခန်း ၁၉၊ ဦးဝိစာရအိမ်ရာ
အုံမြို့နယ်၊ ရန်ကုန်မြို့။ ဖုန်း ၂၈၆၆၁၀

သင်၏ဘဝ လှပမြင့်မြတ်ရေးအတွက်

# မေတ္တာနှင့်သစ္စာ အဖွင့်

- လောက၌အလှဆုံးတရားသည် မေတ္တာ . . .
  အမြတ်ဆုံးတရားသည် သစ္စာ . . .
- မေတ္တာက မအောင်မြင်နိုင်သောဘေးရန်သည်မရှိ။
  သစ္စာက မစွမ်းဆောင်ပေးနိုင်သောအရာသည်မရှိ။
- မေတ္တာတရားဖြင့် ကမ္ဘာ့ငြိမ်းချမ်းရေးကို တည်ဆောက်ကြစို့။
  သစ္စာတရားဖြင့် ဘဝငြိမ်းချမ်းရေးကို တည်ဆောက်ကြစို့။
- မေတ္တာကိုဆန့်ကျင်လျှင် . . . သစ္စာကိုသွေဖည်လျှင် . . .
  သဘာဝတရား၏ဒဏ်ခတ်ခြင်းကို သင်ခံရလိမ့်မည်။

မေတ္တာနှင့်သစ္စာတို့ကို သင်ပိုင်ဆိုင်ပါက
သင်၏ဘဝနှင့်တစ်လောကလုံးကို သင်စိုးပိုင်သည်သာတည်း။

## ဒေါက်တာမင်းတင်မွန်